

စာပေလောကစာအုပ်

# ငါးနှစ်ရာသီ ဗမာပြည်

(၁၉၄၁-၁၉၄၅)



ဦးနု



တတိယအကြိမ်

| ဒို့တာဝန်အရေးသုံးပါး | | တစ်မတော်ဖြိုခွဲသူ ဒို့ရန်သူ၊ |
| --- | --- | --- |
| ပြည်ထောင်စုမပြိုကွဲရေး | ဒို့အရေး | တစ်မတော် ဖြိုခွဲမည့်အကြံ |
| တိုင်းရင်းသားစည်းလုံးညီညွတ်မှုမပြိုကွဲရေး | ဒို့အရေး | ဒို့လက်မခံ၊ |
| အချုပ်အခြာ အာဏာတည်တံ့ခိုင်မြဲရေး | ဒို့အရေး | ဘယ်သူခွဲခွဲ ဒို့မကွဲ |
| | | အမြဲ စည်းလုံးမည်။ |

## ပြည်သူ့သဘောထား

ပြည်ပအားကိုး ပုဆိန်ရိုး အဆိုးမြင်ဝါဒီများအား ဆန့်ကျင်ကြ။
နိုင်ငံတော် တည်ငြိမ်အေးချမ်းရေးနှင့် နိုင်ငံတော်တိုးတက်ရေးကို နှောင့်ယှက်ဖျက်ဆီးသူများအား ဆန့်ကျင်ကြ။
နိုင်ငံတော်၏ ပြည်တွင်းရေးကို ဝင်ရောက်စွက်ဖက် နှောင့်ယှက်သော ပြည်ပနိုင်ငံများအား ဆန့်ကျင်ကြ။
ပြည်တွင်းပြည်ပ အဖျက်သမားများအား ဘုံရန်သူအဖြစ် သတ်မှတ်ချေမှုန်းကြ။

## နိုင်ငံရေးဦးတည်ချက် (၄) ရပ်

* နိုင်ငံတော်တည်ငြိမ်ရေး၊ ရပ်ရွာအေးချမ်းသာယာရေးနှင့် တရားဥပဒေစိုးမိုးရေး၊
* အမျိုးသား ပြန်လည်စည်းလုံးညီညွတ်ရေး၊
* ခိုင်မာသည့် ဖွဲ့စည်းပုံ အခြေခံဥပဒေသစ် ဖြစ်ပေါ်လာရေး၊
* ဖြစ်ပေါ်လာသည့် ဖွဲ့စည်းပုံ အခြေခံဥပဒေသစ်နှင့်အညီ ခေတ်မီဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်သစ်တစ်ရပ် တည်ဆောက်ရေး။

## စီးပွားရေး ဦးတည်ချက် (၄) ရပ်

* စိုက်ပျိုးရေးကိုအခြေခံ၍ အခြားစီးပွားရေးကဏ္ဍများကိုလည်း ဘက်စုံဖွံ့ဖြိုး တိုးတက်အောင် တည်ဆောက်ရေး၊
* ဈေးကွက်စီးပွားရေးစနစ် ပီပြင်စွာဖြစ်ပေါ်လာရေး၊
* ပြည်တွင်းပြည်ပမှ အတတ်ပညာနှင့် အရင်းအနှီးများဖိတ်ခေါ်၍ စီးပွားရေး ဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး၊
* နိုင်ငံတော်စီးပွားရေးတစ်ရပ်လုံးကို ဖန်တီးနိုင်မှုစွမ်းအားသည် နိုင်ငံတော်နှင့် တိုင်းရင်းသားပြည်သူတို့၏ လက်ဝယ်တွင်ရှိရေး။

## လူမှုရေးဦးတည်ချက် (၄) ရပ်

* တစ်မျိုးသားလုံး၏ စိတ်ဓာတ်နှင့် အကျင့်စာရိတ္တ မြင့်မားရေး၊
* အမျိုးဂုဏ်၊ ဇာတိဂုဏ် မြင့်မားရေးနှင့် ယဉ်ကျေးမှုအမွေအနှစ်များ၊ အမျိုးသားရေးလက္ခဏာများ မပျောက်ပျက်အောင် ထိန်းသိမ်းစောင့်ရှောက်ရေး၊
* မျိုးချစ်စိတ်ဓာတ် ရှင်သန်ထက်မြက်ရေး၊
* တစ်မျိုးသားလုံး ကျန်းမာကြံ့ခိုင်ရေးနှင့် ပညာရည်မြင့်မားရေး။

စာပေလောက စာအုပ်အမှတ် ၄၁၄

# ငါးနှစ်ရာသီ ဗမာပြည်

## (၁၉၄၁ – ၁၉၄၅)

ဦးနု



စာပေလောက စာအုပ်တိုက်
အမှတ် ၁၇၃၊ ၃၃ လမ်း၊ ရန်ကုန်မြို့။
[ ဖုန်း - ၀၁-၃၈၈၁၆၉ ]
e-mail splt 1ygn@gmail.com

စာအုပ်စာတမ်း စာနယ်ဇင်း ခွင့်ပြုအမှတ်
[ ၃၁၆၁၀၂၁၂၀၉ ]
စာအုပ်စာတမ်း မျက်နှာဖုံး ခွင့်ပြုအမှတ်
[ ၃၁၀၁၃၅၁၂၀၉ ]

●

မျက်နှာဖုံး
ဇော်မောင်

- - -

ပုံနှိပ်ခြင်း
ပထမအကြိမ်
မတ်၊ ၁၉၄၆
မြန်မာ့အလင်း သတင်းစာတိုက်
ဒုတိယအကြိမ်
မြန်မာပြည်စာအုပ်တိုက်
တတိယအကြိမ်
စာပေလောက
(၅၀၀)

- - -

ထုတ်ဝေခြင်း
မေ၊ ၂၀၁၀

●

ဦးမျိုးညွန့် (၇၁၄)၊ စာပေလောက စာအုပ်တိုက်
အမှတ် ၁၇၃၊ ၃၃ လမ်း
ရန်ကုန်မြို့က ထုတ်ဝေ၍
ဒေါ်ခင်လှ (၀၁၅၇၈)၊ စာပေလောကပုံနှိပ်တိုက်
အမှတ် ၁၇၃၊ ၃၃ လမ်း ရန်ကုန်မြို့တွင်
မျက်နှာဖုံး နှင့် အတွင်းစာသားများ ပုံနှိပ်သည်။



၁၇၂
ဦးနု
ငါးနှစ်ရာသီ ဗမာပြည် (၁၉၄၁-၁၉၄၅)/ ဦးနု၊ ရန်ကုန်။
စာပေလောကစာအုပ်တိုက်၊ ၂၀၀၉။
၂၄၅-စာ၊ ၁၂.၄၅ x ၁၇.၇၈ စင်တီ
(၁) ငါးနှစ်ရာသီ ဗမာပြည် (၁၉၄၁-၁၉၄၅)

မူလပုံနှိပ်စဉ်က ရေးသူ သခင်နု အမည်ဖြင့် ပုံနှိပ်ခဲ့ပါသည်။

## မာတိကာ

# နိဒါန်း

ဂျပန်တွေ ဗမာပြည်တွင်ရှိစဉ်က ဖြစ်ပျက်သွားသော အဖြစ်အပျက်များ သည် တစ်ပုံကြီးရှိသည်။ ယခု ကျွန်တော်ရေးသမျှသော အဖြစ်အပျက် များမှာ ထိုတစ်ပုံကြီး၏ အစိတ်အပိုင်းကလေးတစ်ခုမျှသာ ဖြစ်သည်။

ယခု ကျွန်တော်ရေးသမျှသည် တစ်ဆင့်ကြားသည့် အချက်များကို နည်းနိုင်သလောက်နည်းပြီး ကိုယ်တိုင်သိ ကိုယ်တိုင်မြင် ကိုယ်တိုင်ကြားတို့ ကိုသာ ဖော်ပြထားခြင်း ဖြစ်သည်။ ထို့ကြောင့်ပင် အခန်းတိုင်း၌လိုလိုပင် ပြည့်ပြည့်စုံစုံမရှိဘဲ တစ်ဖက်သတ်သော်လည်းကောင်း ဖြစ်နေတတ်သည်။ ဟာတာတာ ဟင်းတင်းတင်းသော်လည်းကောင်း ဖြစ်နေတတ်သည်။ ဥပမာ လွတ်လပ်ပြီ လွတ်လပ်ပြီ အခန်း၊ တော်လှန်ရေး အခန်း၊ ကရင် ဗမာ ချစ်ကြည်ရေးအခန်း အစရှိသောအခန်းများတွင် ကျွန်တော် သိသမျှ ကလေးထက် အဆပေါင်းများစွာ ပိုပြီးသိကြသူများ၊ ကိုယ်တိုင် လက်တွေ့ လုပ်ခဲ့ကြသူများသည် အများအပြားပင် ရှိကြသည်။

လွတ်လပ်ပြီ လွတ်လပ်ပြီ အခန်း၌ သခင်မြ၊ သခင်သန်းထွန်း၊ ကိုကျော်ငြိမ်း အစရှိသည်တို့က လည်းကောင်း၊ တော်လှန်ရေးအခန်း၌ ဗိုလ် (ယခု ဦး)အောင်ဆန်း၊ ဗိုလ်လက်ျာ၊ ဗိုလ်နေဝင်း၊ သခင်သန်းထွန်း၊ သခင်ဗဟိန်း၊ ကိုသိန်းဖေ၊ ကိုကျော်ငြိမ်း အစရှိသည်တို့က လည်းကောင်း

ကျွန်တော့်ထက် အဆပေါင်းများစွာ ပိုပြီးသိကြသေးသည်။ မူလရည်ရွယ်ချက် အတိုင်းဆိုလျှင် ယခုစာအုပ်တွင် ထိုခေါင်းဆောင်များ၏ လက်ရာများကိုပါ တစ်ပါတည်း ပုံနှိပ်ရန် ဖြစ်သည်။ သို့ရာတွင် ထိုခေါင်းဆောင်များသည် ယခုအခါတွင် အချိန်မရလောက်အောင် နိုင်ငံရေးရာကိစ္စများနှင့် အလုပ်ရှုပ် နေရသည့်အပြင် စက္ကူများ အလုပ်သမားများကလည်း အလွန် ရှားပါးလျက် ရှိသဖြင့် ဤစာအုပ်ကို ယခု မြင်သမျှနှင့်ပင် ပုံနှိပ်လိုက်ရပါသည်။

ဤသို့ ပုံနှိပ်ရခြင်းကို မကျေနပ်သေးပါ။ ဂျပန်ခေတ်က အဖြစ်အပျက် အမှန်တို့ကို အဘက်ဘက်မှ တွေ့ရမြင်ရသော ပုဂ္ဂိုလ်ကြီးငယ်တို့၏ လက်ရာ များကိုလည်း ရနိုင်သလောက် ဖြစ်နိုင်သလောက် ရေးသားပုံနှိပ်သင့်ပေ သည်။ အဘယ့်ကြောင့်ဆိုသော် တစ်နေ့သောအခါ နောင်လာ နောက်သား တို့အတွက် ဗမာ့သမိုင်းကို ရေးသားမည်ဆိုလျှင် ဤကဲ့သို့ စာအုပ်စာတမ်း များသည် ဗမာ့သမိုင်းအတွက် မှိုငြမ်းများအဖြစ်ဖြင့် အသုံးပြုနိုင်စရာ အကြောင်းရှိသောကြောင့်ပင်တည်း။

ဤနိဒါန်းကို မပြီးဆုံးမီ အနည်းငယ် ပြောကြားချင်ပါသေးသည်။ တစ်ခါတုံးက နိုင်ငံခြားသားအရာရှိကြီးတစ်ဦးနှင့် သူ့တပည့်တစ်ယောက် တောထဲတွင် အမဲတစ်ကောင်ကို ပစ်လိုက်ရာ သူတို့ရှေ့နားတွင် အမဲသည် ထိုးလဲသွားသည်ကို မြင်သဖြင့် အရာရှိကြီးက ဝမ်းသာအားရနှင့် 'ဒါ နာဘစ်ဒါ နာဘစ်ဒါ'ဟု ပြောပြီး၊ အနီးသို့သွားကြည့်သောအခါ အမဲ မဟုတ်ဘဲ လူတစ်ယောက် လဲနေသည်ကိုတွေ့ရာ 'ဒါ နာဘစ်ဒါ မဟုတ်ဘူး' ဟု ပြောသည်ဆိုသော ဦးဘချို၏ ပုံကလေးကို ယခုစာရေးနေစဉ် ပြေး၍ သတိရမိသည်။

တော်လှန်ရေးလုပ်ငန်းသည် ယခုလို ခေတ်စားနေသည့်အခါမျိုးတွင် ကျွန်တော်လည်း 'ဒါ နာဘစ်ဒါ' ဟူ၍ ဝင်ပြီး ပြောချင်မည်မှာ ပုထုဇဉ်

တို့၏ သဘောပင်ဖြစ်သည်။ သို့အတွက်ကြောင့် ဤစာအုပ်ကို ရေးစဉ်တွင် ကျွန်တော် သိရသလောက် အတိအကျ ဖြစ်နိုင်သမျှ ဖြစ်စေရန်၊ 'ဒါနာဘစ်ဒါ'ဟု ပြောချင်သည့်ဆန္ဒများကို အထူးတလည် ဖိနှိပ်ချုပ်ချယ်၍ ရေးသားခဲ့ပါသည်။ သို့ပင်ဖြစ်ပါသော်လည်း ဤဆန္ဒမျိုး ဟိုနေရာ သည်နေရာတွင် ပေါ်လွင် ထင်ရှားနေပါလျှင် အမှန်သဘော ချို့ယွင်း တိမ်မြုပ်မသွားစေလိုသော စေတနာနှင့်သာလျှင် ရေးသားလိုက်ခြင်း ဖြစ်သောကြောင့် စာဖတ်သူများက ၎င်းတို့ကို လျစ်လျူရှုထားလိမ့်မည်ဟု မျှော်လင့်လျက်ရှိပါကြောင်း။

၁၃၀၇ ခု၊ တန်ဆောင်မုန်းလပြည့်ကျော် ၅ ရက်။ သခင်နု

# အခန်း ၁
# ဗမာ နှင့် ဂျပန်

**ဂျပန်ကို အားကိုးခဲ့ကြခြင်း**

ဂျပန်သည် ပြောမယုံ ကြုံဖူးမှသိရမည့် လူစားမျိုးဖြစ်ကြသည်။ ဗမာနိုင်ငံရေးတွင် လူတွင်ကျယ်လုပ်နေကြသည့် များစွာသော လူကြီးလူငယ်တို့သည် ဂျပန်အကြောင်းကို ရေးထားသော စာအုပ်ပေါင်း မြောက်မြားစွာကို ဖတ်ခဲ့ကြဖူးသူများ ဖြစ်ကြသည်။ ဂျပန်နိုင်ငံတွင် လက်တစ်ဆုပ်မျှလောက်ရှိသော ဂျပန်ထိပ်သီးတစ်စုတို့က ပြင်းပြင်းထန်ထန် ရက်ရက်စက်စက် လူညွှန့်ခူးစားလျက် ရှိသောကြောင့် သန်းပေါင်းများစွာသော ဂျပန်တို့ပင်လျှင် မလွတ်လပ်ကြရုံမက လူတန်းစေ့အောင်ပင် မနေနိုင်ကြရပုံ၊ တရုတ်ပြည်ကြီးတွင် ဂျပန်တို့က လူတွေသတ် ပစ္စည်းတွေလု တရုတ်မတွေကို မုဒိန်းကျင့် အစရှိသည်ဖြင့် ဂျပန်တို့၏ ရက်စက်ကြမ်းကြုတ်ပုံ၊ တန်နကားအမှူးရှိသော ဂျပန်ခေါင်းဆောင်တစ်စုတို့၏ တစ်ကမ္ဘာလုံးကို လွှမ်းမိုးချုပ်ချယ်ရန် အကြံပက်စက်ပုံ အစရှိသည်တို့သည် အထက်ပါ ဗမာ လူကြီးလူငယ် လူတွင်ကျယ်တို့အဖို့ မဖတ်ချင်အဆုံး မကြားချင်အဆုံး မသိချင်အဆုံး ဖြစ်နေသော အကြောင်းအရာများပင် ဖြစ်ကြလေသည်။

သို့ပင်ဖြစ်လင့်ကစား ဂျပန်နှင့် ကိုယ်တိုင် မကြုံတွေ့ဘူးမီက ဗမာနိုင်ငံတွင် ဒီးဒုတ်ဦးဘချို၊ သခင်စိုး၊ သခင်သန်းထွန်း အစရှိသော အလွန်နည်းပါးလှသည့် ခေါင်းဆောင်တစ်စုမှတစ်ပါး အခြားလူတွင်ကျယ်များမှာ အထက်ပါ အကြောင်းအရာများကို နှစ်နှစ်ခြိုက်ခြိုက် စွဲစွဲလမ်းလမ်း ယုံကြည်ကြခြင်း မရှိခဲ့ကြပေ။

ဤကဲ့သို့ ဖြစ်ရခြင်းအတွက် အကြောင်းရင်းမှာ များစွာရှိကြပေလိမ့်မည်။ ၎င်းတို့အနက် အထင်ရှားဆုံး အကြောင်းကြီးများကား အောက်ပါအတိုင်း ဖြစ်လေသည်။

**အရှေ့သို့ နယ်ချဲ့လာကြခြင်း**

ခရစ်နှစ် ၁၄၉၇ ခုနှစ်တွင် ဘာ့စကိုးဒဂမား ခေါ် ပေါ်တူဂီလူမျိုးတစ်ဦးသည် ဥရောပတိုက်မှ အိန္ဒိယတိုင်းသို့လာသည့် ရေကြောင်းလမ်းမကြီးကို တွေ့ရှိသော အချိန်အခါမှစ၍ အနောက်နိုင်ငံသားတို့သည် အရှေ့နိုင်ငံများသို့ တစ်စတစ်စနှင့် ရောက်လာကြလေသည်။ ၎င်းတို့လာစက အရှေ့နိုင်ငံများနှင့် ရောင်းဝယ်ဖောက်ကားရန်ပင်ဖြစ်သော်လည်း အရှေ့နိုင်ငံသူ နိုင်ငံသားတို့သည် ဝါးအစည်းပြေသကဲ့သို့ မညီမညွတ်ဖြစ်နေသည်ကို အကောက်ကြံ၍ နယ်ပယ်များကို တစ်စတစ်စ သိမ်းပိုက်ကြလေသည်။ ၎င်းပြင်လည်း ထိုအနောက်နိုင်ငံသားများတွင် လောကဓာတ်ပညာများ ထွန်းကားစပြုလျက်ရှိသဖြင့် ထိုပညာရပ်တို့၏ အကူအညီကြောင့် နယ်ချဲ့လုပ်ငန်းများမှာ ပိုမိုလွယ်ကူကြလေသည်။

ထိုအခါက အရှေ့နိုင်ငံသားတို့သည် အနောက်နိုင်ငံသားတို့နှင့် အတွေ့အကြုံ နည်းပါးလျက်ရှိကြသေးသဖြင့် ထိုအနောက်နိုင်ငံသားတို့၏ လောကဓာတ်ပညာ သူတို့၏စည်းလုံးခြင်းနှင့်တကွ လုပ်ရည်ကိုင်ရည်တို့ကို အတင်ကြီးကာ သူတို့ကို မိုးကျရွှေကိုယ်များနီးနီးပင် မှတ်ယူခဲ့ကြလေသည်။

**အနောက်ကို ဘာ့ကြောင့် အထင်သေးခဲ့သနည်း**

သို့ရာတွင်

(က) ခရစ်နှစ် ၁၉၀၅ ခုနှစ်တွင် အရှေ့တိုင်းသားတစ်ဦး ဖြစ်သော ဂျပန်က အနောက်တိုင်းသား တစ်ဦးဖြစ်သော ရုပ်ရှားကို စစ်နိုင်လိုက်ခြင်း။

(ခ) စူးအက်တူးမြောင်းကို တူးပြီးသည်မှစ၍ အရှေ့နှင့် အနောက်မှာ အိမ်ဦးနှင့် ကြမ်းပြင်ကဲ့သို့ အသွားအလာရ ပိုမိုလွယ်ကူလာသဖြင့် အနောက်နိုင်ငံသားတို့၏ အကြောင်းကို အရှေ့နိုင်ငံသားများသည် ပို၍ ရင်းရင်းနှီးနှီး သိရှိလာကြခြင်း။

(ဂ) ၁၉၁၄ ခုနှစ် ပထမကမ္ဘာစစ်ကြီး ဖြစ်ပွားစဉ်က အရှေ့နိုင်ငံသားများ ဖြစ်ကြသော စစ်သားတို့သည် အနောက်နိုင်ငံသားများနှင့် ပခုံးချင်းယှဉ်ပြိုင်၍သော် လည်းကောင်း၊ ရင်ဆိုင်၍သော် လည်းကောင်း တိုက်ခိုက်ခဲ့ကြရသဖြင့် အနောက်နိုင်ငံသားတို့၏ လက်ရုံးရည် နှလုံးရည်တို့မှာ သူတို့၏ လက်ရုံးရည် နှလုံးရည်တို့ထက် ဘာမျှ ပို၍ မထူးခြားသည်ကို မျက်ဝါးထင်ထင် တွေ့ရှိခဲ့ရခြင်း။

(ဃ) အရှေ့တိုင်းသားတို့သည် ကမ္ဘာ့ရာဇဝင်များကို ပိုမိုဆည်းပူးလာကြသဖြင့် ကမ္ဘာကို လွှမ်းမိုးသည် ဆိုသည်မှာ အနောက် နိုင်ငံသားများမှသာ လွှမ်းမိုးနိုင်သည်၊ အရှေ့နိုင်ငံသားများသည် လွှမ်းမိုးခြင်း မပြုနိုင်စသည်ဖြင့် ယူဆရန်မလို။ ခရစ်နှစ် ၁၂၀၀ ကျော်ကျော်က အရှေ့နိုင်ငံသားတစ်ဦးဖြစ်သော ဂျန်ဂစ်ခန် ( Jengis Khan ) နှင့် သူ့ရာထူးကိုဆက်ခံသော အော့ဂဒေခန် (Ogdia Khan ) တို့၏ လက်ထက်တွင် အရှေ့နိုင်ငံသားတို့သည် တရုတ်နိုင်ငံ အိန္ဒိယနိုင်ငံ ပါရှား တာကစ်တန် အာမင်းနီးယားတို့ကို ဖြတ်ကျော်၍ ရုပ်ရှား ပိုလန် ဟန်ဂေရီ

အထိ ထိုစဉ်အခါက မည်သည့်အနောက်နိုင်ငံသားများမှ စိတ်ကူး ပင်မထည့်ဝံ့သော နယ်ချဲ့လုပ်ငန်းကြီးကို ထမြောက် အောင်မြင်စွာ ဆောင်ရွက်ခဲ့သဖြင့် ၁။ စည်းလုံးညီညွတ်ခြင်း၊ ၂။ လောကဓာတ် ပညာကို ခေတ်မီအောင် တတ်မြောက်ခြင်း (အော့ဂဒေခန်၏ လက်ထက်တွင် ယမ်းကို စတင်၍ သုံးလျက်ရှိပြီ)၊ ၃။ လက်ရုံးရည်၊ နှလုံးရည်ဖြင့် ပြည့်စုံခြင်း ဟူသော အင်္ဂါသုံးရပ်နှင့် ညီညွတ်လျှင် မည်သည့် နိုင်ငံမဆို ကမ္ဘာ့ထိပ်တန်းသို့ ရောက်ရှိနိုင်သည် ဟူ၍ ယုံကြည်သော စိတ်ဓာတ်များ တစ်စတစ်စ ပြန့်ပွားလာခြင်း ဟူသော အကြောင်းကြီး လေးချက်ကြောင့် အနောက်နိုင်ငံသားများအပေါ် တွင် အရှေ့နိုင်ငံသားတို့၏ အထင်ကြီးသည့် စိတ်ဓာတ်တို့သည် တစ်စ တစ်စ ကွယ်ပျောက်ကြလေသည်။

**ခေါင်းဆောင်ရှာကြခြင်း**

ဤသို့ ကွယ်ပျောက်ရုံနှင့် မပြီးသေး၊ အထက်ပါအချက်ကြီး လေးချက် သည် အရှေ့အာရှသားတို့အား ဇာတိသွေးဇာတိမာန် များစွာတက်ကြွစေ လေသည်။ ထိုဇာတိသွေး ဇာတိမာန်များ ဝင်လာသည့်နေ့မှ အစပြု၍ အရှေ့နိုင်ငံသားတို့သည် ဆောက်တည်ရာ မရတော့ချေ။ ထို့ကြောင့် လက်ဝါးကြီးအုပ်နေသော အနောက်နိုင်ငံသားတို့၏ လက်အောက်မှ လွတ်မြောက်ရေးအတွက် ခေါင်းဆောင်ကောင်းတစ်ယောက်ကို လိုက်၍ ရှာကြသည်။ အနောက်နိုင်ငံများနှင့် တန်းတူလိုက်နိုင်သည့် နိုင်ငံမှာလည်း အရှေ့ဘက်တွင် ဂျပန်နိုင်ငံသာရှိသဖြင့် အရှေ့တိုင်းသားတို့သည် ဂျပန် ကိုပင် ခေါင်းဆောင်အဖြစ်ဖြင့် မိမိတို့၏ စိတ်ထဲတွင် စွဲလမ်းယုံကြည် ထားခဲ့ကြလေသည်။

သို့ဖြစ်သောကြောင့် 'ကိုယ်တည်တဲ့ဘုရား လင်းတနားနား' ဆိုသည့် စကားပုံအတိုင်း 'ဘယ်သူတွေ ဘာပြောပြော တို့ခေါင်းဆောင်ကြီးဟာ ဒီလို လုပ်နေတာ သူ့မှာ အကြောင်းရှိလိမ့်မယ်၊ နောက်ပြီးတော့လဲ ဒါတွေဟာ မှန်ချင်မှ မှန်မယ်၊ ဘာပဲဖြစ်ဖြစ် အချိန်ရောက်တဲ့ တစ်နေ့ကျလျှင် တို့ခေါင်းဆောင်ကြီးဟာ တို့အာရှတိုက်သားတစ်တွေကို အနောက်နိုင်ငံသားတွေ့ရဲ့ လက်အောက်က လွတ်အောင် လုပ်ပေးလိမ့်မယ်' ဟူသော ယုံကြည်ချက်တို့ဖြင့် ဂျပန်ဆန့်ကျင်ရေးဝါဒ ဟူသရွေ့တို့ကို များစွာသော အရှေ့အာရှတိုက်သားတို့သည် ကောင်းစွာယုံကြည်ခဲ့ခြင်း မရှိကြပေ။

ထို့ကြောင့်လည်း ဖက်ဆစ်ဂျပန်တို့၏ ညစ်စုတ်ပုံတို့ကို ကွက်ကွက်ကွင်းကွင်း ဖော်ချခဲ့သော ဒီးဒုတ်ဦးဘချိုအား 'တရားအားထုတ်သည်' ဟူ၍လည်းကောင်း သခင်စိုး၊ သခင်သန်းထွန်းတို့အား 'စာတွေ့သမားတွေ' ဟူ၍လည်းကောင်း များစွာသော ဗမာများက ပျက်ချော်ချော် သရော်ခဲ့ကြဖူးလေသည်။

ဖက်ဆစ်ဂျပန်၏ ညစ်စုတ်ပုံများကို ကမ္ဘာပေါ်တွင် အများဆုံးဖြန့်ဖြူးသော သူများမှာလည်း အနောက်တိုင်းသားများ ဖြစ်ကြသဖြင့် ၎င်းတို့ကိုလည်း အရှေ့နိုင်ငံများကို လက်မလွှတ်ချင်သော အနောက်နိုင်ငံ စနရှင်ကြီးများ၏ အလိုကိုလိုက်၍ ဝါဒဖြန့်နေရသော ကြေးတန်းစားဝါဒဖြန့်သမားများ ဖြစ်ကြသည် ဟူ၍ များစွာသော အရှေ့အာရှတိုက်သားတို့က ယူဆခဲ့ကြဖူးလေသည်။



# အခန်း ၂
# အရှေ့ အာရှစစ်

၁၉၄၁ ခုနှစ် အရှေ့အာရှစစ်ကြီး စတင်ဖြစ်ပွားသော အချိန်တွင် ဗမာ နိုင်ငံရေးသမား များစွာတို့သည် ထောင်ထဲတွင် ရှိကြသည်။ သခင်စိုး၊ သခင်ကျော်စိန် သခင်ဗဟိန်း သခင်မြသွင်တို့နှင့် အတူတူ ကျွန်တော်လည်း မန္တလေး ဗဟိုထောင်ထဲတွင် ရောက်ရှိနေသည်။ ကျွန်တော်တို့ အပြင် များစွာသော သခင်ဓားမ ဝံသာနု နိုင်ငံရေးသမားများလည်း များစွာရှိကြ သေးသည်။

ထိုစဉ်အခါက တစ်ထောင်လုံးလိုလိုပင် စစ်သတင်းကို များစွာ စိတ်ဝင်စားလျက်ရှိကြသည်။ နိုင်ငံရေးသမားများဟဲမှ အင်္ဂလိပ်တွေ ဗမာ နိုင်ငံက မြန်မြန်ပြေးရလျှင် မြန်မြန်ထောင်က လွတ်ရတော့မည်ဟူ၍ တွေးပြီး ဝမ်းသာသူများလည်း ရှိကြ၏။ အချို့ကလည်း 'သာယာဝတီ ထောင်မှာ နိုင်ငံရေးအကျဉ်းသားများကို ယမ်းဘီလူးနှင့် ဖောက်သတ်ပြီးပြီ' 'ပြည် ထောင်မှာ စက်သေနတ်နှင့် ပစ်သတ်ခဲ့သည်' အစရှိသော နေ့စဉ်နှင့် အမျှ ထောင်ထဲတွင် မကြားချင်အဆုံးဖြစ်နေသည့် မဟုတ်မဟတ် ပါးစပ် သတင်းများကို ယုံကြည်ကြပြီး များစွာ လန့်လျက်ရှိကြသည်။ အချို့မှာ လည်း အင်္ဂလိပ်တွေ အိန္ဒိပြည်သို့ ဆုတ်သွားလျှင် နိုင်ငံရေးအကျဉ်းသမား

များကို သူတို့နှင့်အတူ ခေါ်သွားလိမ့်မည်ဟူသော အတွေးနှင့် ဆွေးလျက်ရှိကြသည်။ အချို့ကလည်း ဂျပန်နှင့် အတူတူချီတက်လာသည့် အထဲတွင် 'ငါ့လူ ဘယ်သူပါသည်၊ ငါတို့တော့ နေရာကျမှာပဲ' ဟူသော စိတ်ကူးဖြင့် မြူးလျက်ရှိလေသည်။ အချို့မှာလည်း အင်္ဂလိပ်လက်အောက်မှ လွတ်မြောက်ရတော့မည်ဟု ဝမ်းသာလျက်ရှိကြသည်။

ထိုအထဲတွင် သခင်စိုးနှင့် သူ၏ အဖော်တစ်စုမှာ 'ဖက်ဆစ်ဝါဒကမ္ဘာကို လွှမ်းမိုးလျှင် လူတွေ လူ့ဘဝရှုံးလိမ့်မည်၊ ထို့ကြောင့် ဒီမိုကရေစီဘက်မှ ချွင်းချက်မရှိ ကူညီတိုက်ရမည်'ဟူသော ဝါဒကို တွင်တွင်ကြီးလွှင့်ရာ အလွန်နက်လှစွာသော တောကြီးထဲတွင် တစ်ဦးတည်း အော်နေသည်နှင့်သာ တူတော့၏။ အချို့ လူစုကမူကား သခင်စိုးတို့၏ အယူအဆကို ကောင်းစွာ သဘောမပေါက်သဖြင့် သူတို့ကို အင်္ဂလိပ်၏ လက်ပါးစေများဟုပင် စွပ်စွဲကြသေး၏။

မန္တလေး ဗဟိုထောင်သည် သာမာန်အားဖြင့်ဆိုလျှင် အကျဉ်းသားတစ်ထောင့်ငါးရာလောက်သာ ဆံ့သည်။ သို့ရာတွင် အင်္ဂလိပ်တို့ နောက်ဆုတ်ရင်း အောက်ပြည်အောက်ရပ်ရှိ အကျဉ်းထောင်များမှ ခေါ်လာသင့်သည်ဟု ရွေး၍ ခေါ်လာသော နိုင်ငံရေးနှင့် အခြားအကျဉ်းသားများမှာ မန္တလေးထောင်ထဲသို့ ဝင်လာမစဲ တသဲသဲ ဖြစ်နေသဖြင့် အင်္ဂလိပ်တို့ မန္တလေးမှ ထွက်ခွာမသွားမီ သုံးလလောက်ကတည်းက ထောင်ထဲ၌ အကျဉ်းသားပေါင်း ၃၀၀၀ ကျော်ခန့် ရှိလေသည်။

ထိုသူများအတွက် နေရာထိုင်ခင်း အစားအသောက် ကျန်းမာသန့်ရှင်းရေး အစရှိသည်တို့ကို စီစဉ်ပေးရသည်မှာ လွယ်ကူသောအလုပ်မဟုတ်ပေ။ အကျဉ်းသားများထားသော အချုပ်ခန်းတိုင်းတွင် အကျဉ်းသားများသည် တစ်ယောက်နှင့် တစ်ယောက် ထပ်လုမတတ် စီတန်း၍

အိပ်ကြရသည်။ ဥပမာ ရှေးအခါက အကျဉ်းသား ၂၀ မျှလောက်သာ နေထိုင်ရသော ဒုတိယတန်း အကျဉ်းသားများ၏ အချုပ်ခန်းတွင် အကျဉ်းသားပေါင်း ၂၀၀ ကျော်မျှ အိပ်ရရာ အကျဉ်းသားများသည် အိပ်ရင်းလွန့်စရာနေရာပင် မရှိသလောက် ဖြစ်နေ၏။

ဤမျှလောက်လူများလျှင် ဓမ္မတာအတိုင်း ညစ်ပတ်၏။ ညစ်ပတ်လျှင် ယင်ပေါ၏။ ယင်ပေါလျှင် ရောဂါတစ်ခုခု ဖြစ်တော့မည်မှာ မလွဲပေ။ ထို့ကြောင့် မကြာမီ ကာလဝမ်းရောဂါ ပေါက်၍လာရာ တစ်နေ့လျှင် သုံးယောက်မှ ငါးယောက်လောက် ပျက်စီးသည့်အထိ အခြေအနေမှာ ဆိုးရွားလာလေသည်။

ထောင်အရာရှိများလည်း ဆိုးရွားလာသော အခြေအနေကို ခုခံတိုက်ဖျက်ဖို့ကို မဆိုထားနှင့်၊ ဖေဖော်ဝါရီလ ၁၉ ရက်နေ့ မန္တလေးနန်းတော်ကြီးအတွင်း ထောင်နှင့် နှစ်မိုင်ကွာ အရပ်သို့ ပထမဆုံးအကြိမ် ဂျပန်လေယာဉ်ပျံများက ဗုံးကြဲပြီးသည့် အချိန်အခါမှစ၍ ထိုအရာရှိကြီးငယ်တို့သည် ထောင်ကိုပစ်ပြီး လွတ်ရာကျွတ်ရာ အရပ်တို့သို့ သွားရောက်ရှောင်တိမ်းနေကြလေသည်။ ထောင်အရာရှိများက ဤသို့ ထောင်ကိုပစ်၍ပြေးကြသဖြင့် ဝမ်းရောဂါဒင်းကြမ်းပြည့်ကြောင့် အတော် အခြေအနေဆိုးနေသော ထောင်ကြီးမှာ ပို၍ ဆိုးရွားလျက်ရှိလေ့ရှိ၏။ အထူးသဖြင့် လေယာဉ်ပျံများလာလျှင် ပို၍ဆိုးသေး၏။

ထိုအခါက ဗမာတို့သည် ဂျပန်ကို မည်မျှ ယုံလိုက်သနည်းဆိုသော် ဂျပန်လေယာဉ်ပျံတွေလာတိုင်း ဗုံးခိုကျင်းများထဲသို့ ဝင်၍ မပုန်းကြ။ တစ်ထည်မျှသာရှိသော အင်္ကျီများကိုချွတ်၍ ရမ်းပြသူက ပြ၊ လက်ခေါက်မှုတ်သူက မှုတ်၊ လက်ခုပ်တီးသူက တီး၊ အော်သူက အော်၊ ကျွမ်းထိုးသူက ကျွမ်းထိုးနှင့် အကွပ်မရှိသည့် ကြမ်း ပရမ်းပတာ ဆိုသလို ဖြစ်ချင်တိုင်း ဖြစ်လျက်ရှိကြသည်။

ဤသို့ပြုလုပ်ကြသူများထဲတွင် ခိုးမှုတိုက်မှုတို့ဖြင့် ထောင်ကျလာကြသော အောက်တန်းစား အကျဉ်းသားများသာမက နိုင်ငံရေးဖြင့် ထောင်ကျလာသော အထက်တန်း ခေါင်းဆောင် အကျဉ်းသားများပင် အများအပြားပါဝင်ကြလေသည်။

ကျွန်တော်တို့ကလည်း 'အဆွေတို့ ဒီလိုအတင့်မရဲကြပါနဲ့၊ အဆွေတို့ထင်တဲ့အတိုင်း ဂျပန်က အဆွေတို့ရဲ့ မိတ်ဆွေ ဖြစ်လို့ အဆွေတို့ကို ဗုံးမကြဲဘူး ထားပါအုံးတော့၊ အင်္ဂလိပ် လေယာဉ်ပျံနဲ့တွေ့ရင် ဂျပန်ဆာတဲ့အကောင်တွေ မှတ်ကရော့လက္ကာလို့ဆိုပြီး ဗုံးကြဲချလိုက်ရင် ခင်ဗျားတို့အလကား သေနေကြလိမ့်မယ်' ဟု တရားချသည်ကိုပင် 'နိုင်ငံရေးသမားလုပ်နေပြီး လေယာဉ်ပျံကို ကြောက်ရသလား' ဟူ၍ပင် ပြန်၍ အပြောင်ခံရပေသေးသည်။

အင်းစိန်ထောင်၊ ရန်ကုန်ထောင် အစရှိသည်တို့မှ ပြောင်းလာကြသော အကျဉ်းသားများကမူကား ထိုအရပ်များတွင် ဂျပန်လေယာဉ်ပျံများနှင့် အတွေ့အကြုံများခဲ့ကြသောကြောင့် ပို၍ အတင့်ရဲကြသေးသည်။

'ဗမာဆိုရင် မပစ်ပါဘူးဗျာ၊ ကျွန်တော်တို့ အင်းစိန်ထောင်ပေါ်က နေ့တိုင်း ပျံနေတာပဲ၊ မကြောက်ပါနဲ့ဗျာ'

ဟူ၍ပင် ကျွန်တော်တို့ကို သူတို့က ပြန်ပြီးတရားချလိုက်ကြသေးသည်။

ဧပြီလ ၈ ရက်တွင် တတိယအကြိမ် မန္တလေးကို ဂျပန်တို့ ဗုံးကြဲသည်မှာ အပြင်းထန်ဆုံးဖြစ်သည်။ မည်းနက်သော မီးခိုးလုံးကြီးများသည် ကောင်းကင်သို့ ထိုးတက်ပြီးလျှင် မန္တလေးမြို့ကြီးကို ထီးနက်ကြီးသဖွယ် ဖုံးအုပ်ထားသည်ဟူ၍ပင် မှတ်ထင်ရ၏။

အချိန်မှာ နံနက် ၁၀ နာရီလောက်သာ ရှိသေးသော်လည်း မီးခိုးလုံးကြီးများ ထူထပ်သဖြင့် နေရောင်ခြည်မထိုးနိုင်သောကြောင့် တစ်မြို့လုံးမှာ နေဝင်လုဆဲဆဲအချိန်ကဲ့သို့ အုံ့မှိုင်းမှိုင်း ဖြစ်လျက်ရှိလေသည်။

ထိုအတွင်း ထောင်နှင့်မလှမ်းမကမ်းတွင် အကြီးအကျယ်လောင်လျက်ရှိသော အဆောက်အဦးကြီးများ၊ တဗုန်းဗုန်း တဒိုင်းဒိုင်းနှင့် ပေါက်ကွဲလျက်ရှိသောအချိန် ဗုံးများသည် ပတ်ဝန်းကျင်ရှိ သာမန်လူတို့၏ စိတ်ကိုများစွာ ချောက်ချားစေလိမ့်မည် ဖြစ်သော်လည်း ဂျပန်ကို အားအထားကြီးထားခဲ့သော ထောင်တွင်းရှိ ဗမာတို့မှာမူကား အရယ်မပျက် လက်ခုပ်လက်ဝါးတီးမပျက် အဝတ်ရမ်းမပျက်ကြပေ။

အမှန်ပြောရမည်ဆိုသော် ကျွန်တော်ပင်လျှင် ရန်ကုန်ထောင်တွင်းကပါလာသော အစွဲများကို မန္တလေးထောင်သို့ မရောက်ခင် အင်းစိန်ထောင်တွင်းမှာ နေရစဉ် ဘကြီးသား သခင်စိုးကိုယ်တိုင် နေ့မနား ညမနားကွန်မြူနစ် ဂါထာတွေ တစ်ပုံကြီးနှင့် မန်းမှုတ်ပြီး 'ချွတ်' လိုက်သဖြင့် 'ကျွတ်' နေသောကြောင့်သာ ဂျပန်လေယာဉ်ပျံတွေလာလျှင် သခင်စိုးတို့နှင့် အတူတူ ဗုံးခိုကျင်းများထဲသို့ဝင်၍ ပုန်းအောင်းနိုင်တော့သည်။ သို့မဟုတ်လျှင် အင်္ကျီချွတ်၍ ရမ်းပြသည့် လူစုထဲတွင် ပါဦးမည်လားမပြောတတ်ပေ။

ထိုဧပြီလ ၈ ရက်နေ့က ဗုံးကြဲလိုက်သဖြင့် ကျွန်တော်တို့ တိုက်ရိုက်ခံစားရသောအကျိုးကား အခြားမဟုတ်။ ကျွန်တော်တို့အတွက် ဟင်းချက်စရာ သွင်းပေးသော ကန်ထရိုက်တာ ကုလားသည် သူ့အလုပ်ကို ဆက်မလုပ်တော့ဘဲ မန္တလေးမှ ထွက်ပြေးခြင်း ဖြစ်လေသည်။ ထို့ကြောင့် ကျွန်တော်တို့မှာ ထိုနေ့မှစ၍ ပဲမှတစ်ပါး အခြားစားစရာ မရှိတော့ပေ။

ပဲသည် သာမန်အခါမျိုးတွင် နေ့စဉ်စားရန်အတွက် သင့်လျော်ကောင်းသင့်လျော်ပေလိမ့်မည်။ မိမိပတ်ဝန်းကျင်တွင် ဝမ်းရောဂါ အကြီးအကျယ်ဖြစ်နေသည့် အချိန်အခါမျိုးဖွင့်မူကား ဘယ်နည်းနှင့်မျှ သင့်တော်မည်မဟုတ်ပေ။

သို့ရာတွင် ဝမ်းရောဂါနှင့်သေရမည့်ဘေးထက် ချက်ချင်းငတ်၍ သေရမည့်ဘေးက ပိုပြီးဆိုးရွားနေသဖြင့် ရှိသမျှကို ဇွတ်မှိတ်၍ စားနေကြရလေ၏။

ဝမ်းရောဂါနှင့် ပတ်သက်၍ တစ်ခုပြောလိုသည်မှာ အခြားမဟုတ်။ ထိုအခါက ဝမ်းရောဂါကာကွယ်ဆေးကို ထိုးထားကြသူများမှာ ဘာမှမဖြစ်ဘဲ ဆေးထိုးရမည်ကို ကြောက်သဖြင့် ပိုက်ဆံပေး၍ ရှောင်တိမ်းနေကြသူများ၊ ပုန်းအောင်း နေကြသူများထဲ၌သာလျှင် ဝမ်းရောဂါကပ်ရောက်ခြင်း ဖြစ်လေသည်။

ဤကဲ့သို့ ရောဂါကတစ်မျိုး၊ ဗုံးကတစ်တန်၊ ပါးစပ်သတင်းများကတစ်ဖုံ၊ စိတ်ချောက်ချားစရာတွေ အမျိုးစုံနှင့် ဝိုင်းလျက်ရှိစဉ် ဧပြီလအတွင်း နေ့တစ်နေ့ဝယ် ၁၂ နာရီ အချိန်လောက်တွင် 'သခင်နုကို ဧည့်သည်တွေ တွေ့ဖို့လာတယ်' ဟူသော အသံတစ်ခုသည် သဲကန္တာရကြီးထဲတွင် အလွန်ရေငတ်နေသော ခရီးသည်တစ်ဦးအား 'ရေတွေ့ပြီ' ဟူ၍ အော်လိုက်သော အသံကဲ့သို့ ကျွန်တော့်အား များစွာနှစ်သိမ့်သွားစေ၏။

ဧည့်သည်များသည် မည်သူမည်ဝါဖြစ်လိမ့်မည်ကို သိ၍ မဟုတ်။ ထောင်တည်း ဟူသော ထိုအရပ်၌ ထိုကဲ့သို့သော အချိန်အခါကြီးမျိုးတွင် မည်သည့်ဧည့်သည်ပဲ လာစေကာမူ ကျွန်တော်တို့အား များစွာနှစ်သိမ့်ခြင်း ဖြစ်စေမည်မှာ မလွဲပေ။

ထို့ကြောင့် ဧည့်သည်ဆိုသူများကိုတွေ့ရန် ကျွန်တော်သည် ဝမ်းသာအားရနှင့် ထောင်ပိုင်ကြီး၏ ရုံးခန်းထဲသို့ ဝင်သွားလေ၏။ ရုံးခန်းထဲသို့ရောက်သောအခါ ကျွန်တော့်မှာ ဝမ်းသာခြင်းမှ အံ့ဩခြင်းသို့ ပြောင်းသွားလေ၏။ အဘယ့်ကြောင့်ဆိုသော် ဧည့်သည်များမှာ ထိုအချိန်က ထိုနေရာ

တွင် တွေ့ရမည်ဟူ၍ ကျွန်တော် ဘယ်နည်းနှင့်မျှ စိတ်ကူးထဲပင် မထည့်နိုင်သောသူများ ဖြစ်သောကြောင့်တည်း။

ထိုသူတို့မှာ အခြားမဟုတ်။ ဂျင်နရယ်ဝမ်းနှင့် ၎င်း၏ အဖော်တစ်စုပင် ဖြစ်လေသည်။ ဂျင်နရယ်ဝမ်း ဆိုသူကို ယခု စစ်ကြီးဖြစ်စက ရန်ကုန်တွင် တစ်ကြိမ် တွေ့ဖူးသည်။ နောက်များမကြာမီ မိတ်ဆက်အဖွဲ့ဝင် အဖြစ်နှင့် ကျွန်တော်တို့ ချုန်ကင်းသို့ သွားရောက်ခဲ့စဉ်က လေးငါးကြိမ်လောက် တွေ့ခဲ့ရဖူးသည်။ ၎င်းမှာ ချုန်ကင်းအစိုးရအဖွဲ့၏ နိုင်ငံရေးအဖွဲ့၏ နိုင်ငံရေးရာဘက်တွင် အရေးပါ အရာရောက်သော ပုဂ္ဂိုလ်ကြီး တစ်ဦး ဖြစ်သည်ဟု စုံစမ်းသိရှိရ၏။

မာကြောင်း သာကြောင်း စကားများကို ပြောပြီးနောက် ဂျင်နရယ်ဝမ်းက

'သခင်နု ခင်ဗျားကို ချုန်ကင်းကိုခေါ်ဖို့ ကျုပ်တို့လာတယ်၊ ဟိုကျရင် ကျုပ်တို့ အတူတူ အလုပ်လုပ်ကြတာပေ့ါ' ဟု ဝမ်းသာအားရ ပြောလေသည်။

သူ၏ မျက်နှာထားကို အကဲခတ်ရသည်မှာ ကျွန်တော်သည် သူ၏ စကားကို လက်ဆောင်ကောင်း တစ်ခုဟု မှတ်ယူပြီးလျှင် သူကဲ့သို့ပင် ဝမ်းသာအားရ ဖြစ်လိမ့်မည်ဟု မျှော်လင့်ဟန် လက္ခဏာရှိလေသည်။

ကျွန်တော်လည်း ဂျင်နရယ်ဝမ်းကို မြင်စကတည်းက ဤစကားမျိုးများ မေးမည်လားဟု စိတ်ထဲတွင် စောလျှက်ရှိသည်။

အမှန်စင်စစ် ဤမေးခွန်းနှင့် ဆင်တူရိုးမှား မေးခွန်းမျိုးကို ထောင်ထဲတွင် သခင်စိုးတို့လူစုနှင့် ကျွန်တော် မကြာခဏ ဆွေးနွေးကြဖူးပြီ။ ဖက်ဆစ်ဝါဒ ကမ္ဘာကြီးကို လွှမ်းမိုးသွားလျှင် ကမ္ဘာသူ ကမ္ဘာသားတွေ လူညွန့်တုံးလိမ့်မည်။

ထို့ကြောင့် ထိုဖက်ဆစ်ဝါဒကို တိုက်ဖျက်နေသော ဒီမိုကရေစီဘက်တော်သားများကို ချွင်းချက်မရှိ ကူညီရန်မှာ ကမ္ဘာ့ တိုးတက်မှုကို လိုလားတောင့်တသော ကမ္ဘာသူ ကမ္ဘာသားတိုင်း၏ တာဝန်ဝတ္တရားဖြစ်သည်ဟု သခင်စိုးတို့လူစုက ဆို၏။ ချွင်းချက်မရှိ ဆိုသော စကားတွင် ကျွန်တော်တို့သည် များစွာ အတိုက်အခံ ဖြစ်နေကြသည်။

ယခု ဂျင်နရယ်ဝမ်း ပြောလိုက်သော စကားကို အတိုချုပ် အဓိပ္ပာယ်ကောက်ယူလိုက်လျှင် 'ဒီမိုကရေစီဘက်မှ ချွင်းချက်မရှိ ကူညီပါ' ဟူ၍ ကျွန်တော် အဓိပ္ပာယ်ကောက်ရသည်။

ထို့ကြောင့် သူမျှော်လင့်သည့်အတိုင်း ကျွန်တော်လည်း ဟက်ဟက်ပက်ပက် မရှိခြင်းဖြစ်သည်။

ဂျင်နရယ်ဝမ်းလည်း ကျွန်တော့်ကို အံ့အားသင့်၍ ကြည့်နေသဖြင့် အခန်းတွင်းတွင် ဆိတ်လျက်ရှိစဉ် ဂျင်နရယ်ဝမ်းနှင့် အတူတူပါလာသော တရုတ်စစ်ဗိုလ်တစ်ဦးက (ထိုစစ်ဗိုလ်၏ အမည်မှာ ကာနယ်ယူး ဖြစ်သည်ဟု ထင်သည်၊ ကောင်းစွာ မမှတ်မိတော့ချေ။)

'ဗမာပြည်အောက်ပိုင်းဆီမှာ ခင်ဗျားတို့သခင်တွေ ဂျပန်ကိုကူညီကြလို့ ကျုပ်တို့ အများကြီးသတ်ပစ်ခဲ့ရပြီ' ဟု ဒေါသသံကလေးနှင့် ပြောလိုက်ရာ ဂျင်နရယ်ဝမ်းက ထိုစစ်ဗိုလ်ကို တရုတ်လို လှမ်း၍ပြောလိုက်သည်။

ထိုနောက် ၎င်းတို့နှစ်ဦး တရုတ်လို အချီအချ အတော်ကြာအောင် ပြောကြသေးသည်။ နောက်ဆုံးတွင် ဂျင်နရယ်ဝမ်းက ခပ်ပြင်းပြင်း ခပ်ထန်ထန်အထိ အော်ငေါက်၍ ပြောသည်ကို တွေ့ရ၏။

ထိုအခါက ကျွန်တော် တွေး၍ ရသည်မှာကား ကာနယ်ယူး၏ ပြောဆိုချက်ကို ဂျင်နရယ်ဝမ်းက သဘောမကျ၍ ထိုကဲ့သို့ မပြောဆိုရန်

ဝင်ပြီးတားရာမှ အချီအချ စကားများသည့်လက္ခဏာ ရှိလေသည်။ နောက်ဆုံးတွင် ကာနယ်ယူးသည် စကားမပြောတော့ဘဲ ငြိမ်၍နေသည်။

ဂျင်နရယ်ဝမ်း (မျက်နှာချိုချိုနှင့်) 'သခင်နု ဂျပန်တွေ လိမ်တာအောက်ဗမာပြည်မှာ ပေါ်ကုန်ပြီ၊ ဗမာတွေကို လွတ်လပ်ရေးပေးမယ်ဆိုပြီး အခု ဗမာပြည်ထဲကိုရောက်တော့ လွတ်လပ်ရေးဆိုတဲ့အသံ ပျောက်သွားပြီ၊ ခင်ဗျားတို့က ထောင်ထဲမှာ နေရလို့ ဒီအကြောင်းတွေကိုတော့ဘာမှ သိအုံးမှာ မဟုတ်ဘူး'

ကျွန်တော်။ (ကြားဖြတ်လျက်) 'သိပါတယ်၊ အပြင်မှာရှိတဲ့ ကျွန်တော်တို့ လူတွေဆီကလဲ လျှို့ဝှက်တဲ့စာတွေ နေ့တိုင်းလိုပဲ ဖတ်ရပါတယ်၊ ဒီစာတွေထဲမှာလဲ ဂျပန်တွေ လိမ်ပုံတွေ အများကြီးပါပါတယ်'

ဂျင်နရယ်ဝမ်း။ 'ကျုပ်ပြောရင် ယုံပါ၊ ကျုပ်တို့ ဂျပန်အကြောင်းကိုကောင်းကောင်းသိတယ်၊ အခု ဗမာပြည်မှာ လိမ်တာ အစရှိပါသေးတယ်၊ နောင်ကို ဒီ့ထက်ဆိုးပါလိမ့်အုံးမယ်၊ အဲဒီတော့ ဂျပန်တွေ ဗမာပြည်မှာမနေနိုင်အောင်လုပ်ဖို့ ဝတ္တရားဟာ ဗမာတိုင်းရဲ့ ဝတ္တရား ဖြစ်ပါတယ်၊ ဒီတာဝန်ကို ဆောင်ရွက်ဖို့ ကျုပ်တို့ဗမာလူငယ်တွေကို ပိုပြီး အားကိုးတယ်'

ကျွန်တော်။ (အနည်းငယ်ပြုံး၍) 'ဂျင်နရယ်ဝမ်း၊ ခင်ဗျားတို့ကျွန်တော့်ကို အထင်မှားနေပြီထင်တယ်၊ ခင်ဗျား ပြောတဲ့ စကားကိုကျွန်တော် အင်တင်တင် လုပ်နေတာ ကျွန်တော်ဟာ ဂျပန်ကိုလိုလားလို့လုပ်နေတယ်လို့ ခင်ဗျားတို့ ယူဆတယ်ထင်တယ်၊ ဟုတ်တယ် မဟုတ်လား'

ဂျင်နရယ်ဝမ်းလည်း ပြုံးနေလေသည်။

ကျွန်တော်။ 'သံသယ ကင်းသွားအောင် ကျွန်တော့်အကြောင်းကိုနည်းနည်းလောက် ပြောပါရစေ ခွင့်ပြုပါ၊ ကျွန်တော်ဟာ အခု ထောင်ကျ

လာတာ ကျွန်တော်တို့ အစည်းအရုံးရဲ့ ဆုံးဖြတ်ချက်တစ်ခုကို ညီလာခံ တစ်ခုမှာ ဖတ်ခဲ့လို့ပဲ၊ ဒီဆုံးဖြတ်ချက်ရဲ့ အတိုကောက်ကတော့ ဒီလို-

အင်္ဂလိပ်တွေဟာ ယခု ကမ္ဘာစစ်ပွဲကြီးထဲကို ဝင်ရတာဟာ တိုင်းကြီးပြည်ကြီးတွေက လက်နက်အားကိုးနဲ့ တိုင်းငယ် ပြည်ငယ် ကလေးတွေကို နိုင်ထက်စီးနင်းလုပ်ကြလို့ တိုင်းငယ်ပြည်ငယ်ကလေး တွေရဲ့ လွတ်လပ်ရေးကို ကာကွယ်ဖို့အတွက် ဝင်ရခြင်း ဖြစ်တယ်လို့ အင်္ဂလိပ်တွေက ကြေညာတယ်၊ ဒီအတိုင်း မှန်တယ်ဆိုရင် ကျုပ်တို့ ဗမာနိုင်ငံလဲ တိုင်းငယ်ပြည်ငယ်ကလေးဖြစ်နေတဲ့အတွက် ကျုပ်တို့ရဲ့ လွတ်လပ်ရေးကို ရှေးဦးပထမ ပေးပါ၊ ယခု စစ်အတောအတွင်း ပေးရမှာ ခက်တယ်ဆိုရင် စစ်ပြီးရင်ပေးမယ်လို့ ကြေညာပါ၊ ဒီလို ကြေညာတယ်ဆိုရင် တိုင်းငယ်ပြည်ငယ်ကလေးများရဲ့ လွတ်လပ်ရေး ကို ချိုးဖဲ့ဖျက်ဆီးရန် တိုက်ခိုက်နေတဲ့ ဖက်ဆစ် မားပြတွေကို အင်္ဂလိပ်ဘက်ကနေပြီး ကျုပ်တို့ ကူတိုက်ပေးမယ်။

ဒါပေမဲ့ ကျုပ်တို့ ပြောတဲ့အတိုင်း မကြေညာရင် ကျုပ်တို့ တတ်နိုင်တဲ့နည်းနဲ့ စစ်ကို အနှောင့်အယှက်ပေးရမယ်။

ကျွန်တော်ဖတ်တဲ့ ဆုံးဖြတ်ချက်ရဲ့ အတိုချုပ်ကတော့ ဒါပါပဲ။

အဲဒီ ဆုံးဖြတ်ချက်ကို စစ်ဆေးကြည့်ရင် အရေးအကြီးဆုံး အချက် ကတော့ တခြား မဟုတ်ပါဘူး။ ကျုပ်တို့ကို လွတ်လပ်ရေး ခု ပေးရင်ပေး ခု မပေးနိုင်ရင် စစ်ကြီးပြီးရင် ပေးပါမယ်လို့ ကြေညာ၊ ဒီလိုကြေညာရင် အင်္ဂလိပ်ဘက်က စစ်ကူပြီး တိုက်မယ်၊ ဒီလို မကြေညာရင် အင်္ဂလိပ်ကို အနှောင့်အယှက်ပေးမယ် ဒါပါပဲ၊

'အင်္ဂလိပ်ကလဲ ဗမာတွေကို လွတ်လပ်ရေးပေးမယ်လို့ ခုထက်ထိ မကြေညာသေးဘူး၊ အဲ့ဒီတော့ ကျွန်တော်ကိုယ်တိုင် ဖတ်လာတဲ့ ဆုံးဖြတ်ချက်

အရဆိုရင် ကျွန်တော်တို့ဟာ အင်္ဂလိပ်ကို အနှောင့်အယှက် ပေးရအုံးမှာပဲ၊ ခင်ဗျားတို့ တရုတ်တွေကလဲ ခင်ဗျားတို့ရဲ့ရန်သူ ဂျပန်ကိုခံချဖို့ အင်္ဂလိပ်နဲ့ ပေါင်းနေရတော့ ခင်ဗျားတို့ကို ကူဖို့ဆိုတာ ကျွန်တော့်မှာ အင်မတန် ခက်နေတာပဲ'

ဂျင်နရယ်ဝမ်းလည်း ကျွန်တော်၏ အခက်အခဲကို ကောင်းစွာ သဘောက်ပေါက်ဟန် လက္ခဏာရှိသည်။

ထို့ကြောင့် ဘာမှစကားမပြောဘဲ သူ့ရှေ့တည့်တည့်ကိုသာ စိုက်ကြည့်ပြီး ခေါင်းကို အသာညိတ်လျက် ရှိလေသည်။

ကျွန်တော်။ 'ဂျပန်တွေ ညစ်ပတ်တယ်ဆိုတာကိုတော့ ကျွန်တော့်ကို အထူးပြောပြနေဖို့ လိုမယ် မထင်ပါဘူး၊ ချွန်ကင်းကို ကျွန်တော်လာစဉ်က ပြောသွားတဲ့ စကားတွေထဲမှာလဲ အထင်ရှားသားပဲ၊ ပြီးတော့လဲ ကျွန်တော် ရေးတဲ့ ဂန္ဓာလရာဇ်ဆိုတဲ့ စာအုပ်ထဲမှာလဲ ဂျပန်နဲ့ ပတ်သက်လို့ အတော် ပွင့်ပွင့်လင်းလင်း ရေးထားတာပဲ၊ နောက်ပြီးတော့လဲ ဂျပန်သူလျှို ဆိုတာ ကျွန်တော်တို့ နဂါးနီစာအုပ်အသင်းက ဘာသာပြန်ပြီး ထုတ်ဝေခဲ့တယ်၊ အဲဒီတော့ ဂျပန်သဘောကို ကျွန်တော် အနည်းအကျဉ်း ရိပ်မိမယ်ဆိုတာ ယုံကြည်ပါ'

ဂျင်နရယ်ဝမ်းလည်း ကျွန်တော်၏ စကားကို နားထောင်နေရာမှ တစ်စုံတစ်ခုကို တွေးမိဟန် လက္ခဏာရှိပြီး ပြုံးလျက် 'သခင်နု၊ ခင်ဗျားကို ကြည့်ရတာ တယ်ပြီး ကျန်းမာပုံမပေါ်ဘူး၊ ပြီးတော့လဲ ဒီထောင်ထဲမှာ ဝမ်းရောဂါတွေ ထနေတယ်၊ အဲဒီတော့ ခင်ဗျားမှာ ကူဖို့ဟာ အခက်အခဲ ရှိနေရင် မကူပါနဲ့ဗျာ၊ ဒါပေမဲ့ ကျန်းမာရေးအတွက်တော့ ဂရုစိုက်ဖို့ ကောင်းတယ်၊ ချွန်ကင်းကိုလာပြီး အနားယူနေလေ'

'အမှန်စင်စစ်တော့ အခုကျုပ်တို့လာတာ အခြားကြောင့် မဟုတ်ဘူး၊ ခင်ဗျားရဲ့ မိတ်ဆွေကြီး ဦးဘချို အကြောင်းကြားလို့ပဲ၊ ဦးဘချိုကလဲ ခင်ဗျားအတွက် အများကြီး စိုးရိမ်နေတယ်'

ထိုစကားများသည် ကျွန်တော့်အား မျက်ရည်ကျလုမတတ် ထိခိုက်သွားလေသည်။

ဦးဘချိုနှင့် ဂျင်နရယ်ဝမ်းတို့၏ ကျွန်တော့်အပေါ်၌ ထားကြသော စေတနာသည် ကြီးလေစွဟု အောက်မေ့လျက်ရှိလေသည်။

ဂျင်နရယ်ဝမ်း။ 'သားမယားများကော ဘယ်မှာလဲ၊ ဒီဘက်အပိုင်းမှာဆိုရင် သူတို့ကိုပါ တစ်ခါထဲ လေယာဉ်ပျံနဲ့ ခေါ်သွားမယ်'

ကျွန်တော်။ (စိတ်ထဲမှာ ထိခိုက်လျက်ပင်) 'ဒီလို တစ်ခုလုပ်ပါလား ဂျင်နရယ်ဝမ်း၊ ခင်ဗျားတို့ ထောင်ကပြန်သွားရင် ဗမာပြည်ဘုရင်ခံ*နဲ့ သွားတွေ့ပါလား၊ တွေ့ပြီးရင် သေသေချာချာပြောပြပါ၊ အချိန် နောက်မကျသေးပါဘူး၊ စစ်ပြီးရင် ဗမာပြည်ကို လွတ်လပ်ရေးပေးပါ့မယ်ဆိုတာ ကြေညာဖို့ ဘိလပ်အစိုးရကို သံကြိုးနဲ့ တိုက်တွန်းပါစေ၊

'အခုလဲ ဗမာတစ်ပြည်လုံးဟာ ဂျပန်လိမ်တာတွေပေါ်ကုန်လို့ ယူကြုံးမရ ဖြစ်နေကြပါပြီ၊ အဲဒီအခါမှာ ဘိလပ်က ကြေညာချက် ထွက်လာရင် တစ်ပြည်လုံး ဂျပန်ကိုပြန်ချမှာပဲ၊'ကုန်ကုန်ပြောမယ်ဗျာ၊ အင်္ဂလိပ်တွေက မတိုက်ချင်လို့ ဗမာပြည်က ထွက်သွားတောင် ခင်ဗျားတို့ တရုတ်တပ်တွေနဲ့ ဗမာမျိုးချစ် လူငယ်တွေ ပြောက်ကျားစနစ်နဲ့ ဂျပန်ကို ခံချမယ်၊ ဒီလိုသာချရင် ခင်ဗျားဂျပန်လဲ မနေနိုင်ပါဘူး'

ဂျင်နရယ်ဝမ်း။ (အလွန်ရွှင်လာလျက်) 'ကောင်းတယ်ဗျို့'

ကျွန်တော်။ 'တတ်နိုင်ရင် ဒီကနေ့ပဲ သံကြိုးရိုက်ပေစေဗျာ၊ အချိန် သိပ်မကုန်စေနဲ့၊ မနက်ဖြန် ဘိလပ်က သံကြိုးပြန်လာရင် နိုင်ငံကို

---

* ဆာ ဒေါ်မန်စမစ်

ချက်ခြင်း ကြေညာပြီး ကျွန်တော်တို့ရဲ့ လုပ်ငန်းကို အမြန်ဆုံးနည်းနဲ့ စရမယ်၊

'တစ်ခု စဉ်းစားကြည့်လေ ဂျင်နရယ်ဝမ်း၊ ဒီကြေညာချက်ကလေး တစ်ခုလောက်မှ တိုင်းပြည်ကို လက်ကိုင်ပြစရာမရှိရင် တိုင်းပြည်နဲ့ ကျွန်တော်တို့ ဘယ့်နှယ် မျက်နှာချင်းဆိုင်မလဲ'

ကျွန်တော်လည်း ကျားထိုးတတ်စ သူပမာ ကိုယ့်စားကွက်ကိုသာ ကိုယ်မြင်ပြီး တစ်ဘက်က ဘယ်လို ပြန်စားမည်ကို မမြင်မိချေ။

'ဂျင်နရယ်ဝမ်းက ဘုရင်ခံကိုပြော၊ ဘုရင်ခံက ဘိလပ်ကို သံကြိုးရိုက်၊ ဘိလပ်က သံကြိုးပြန်လာ ဗမာလူငယ်တွေနှင့် တရုတ်တပ်တွေက ဂျပန်တွေကို ဝိုင်းချ၊ စစ်ပြီးရင် ဗမာ့လွတ်လပ်ရေးရရော' ဟူ၍ ရာခိုင်နှုန်း ၅၀ သေချာနေသော သူကဲ့သို့ ကိုယ့်အတွေးနှင့်ကိုယ် ပျော်နေသဖြင့် ကျွန်တော့် မှန်းခြေသို့ရောက်ရန် အဆင့်တွေ မည်မျှလိုသည်၊ တစ်ဆင့် တစ်ဆင့်တွင် အခက်အခဲ မည်မျှရှိသည် အစရှိသည်တို့ကို ဖြုန်းခနဲ မတွေးမိ။

အတော်ကလေးကြာမှ စိတ်ကူးသဘောမှ လက်တွေ့လုပ်ငန်းကို ချ၍ စဉ်းစားကြည့်မိလေသည်။

ထိုအခါမှ ဂျင်နရယ်ဝမ်းက

'ဘုရင်ခံကိုပြောပါပြီ ထားပါဦးတော့၊ ဘုရင်ခံက ဘိလပ်ကို သံကြိုး ရိုက်ဖို့ သဘောတူပါ့မလား၊ သံကြိုးရိုက်သင့်တယ် ထင်လျှင် အပြော တောင် စောင့်နေမှာ မဟုတ်ဘူး၊ ဂျပန်စစ်တပ်တွေ ရန်ကုန်ကို ဝင်လာ စလောက်ကတည်းက ရိုက်ပြီးပြီ၊ ဒါပေမဲ့ ဘုရင်ခံကလဲ သံကြိုးရိုက်ဖို့ သဘောတူပြီထားလိုက်ဦး၊ ဘိလပ်သံကြိုးပြန်ဖို့ သဘောတူပါ့မလား၊ သဘောတူမယ်ဆိုရင် စစ်ဖြစ်စကတည်းက အက်တလန်တိတ် စာချုပ် တို့နှင့် အတူတူ ကြေညာပြီးပြီ'

အစရှိသည်ဖြင့် လက်တွေ့သဘောကို ပြန်၍ တွေးလိုက်ပြန်သော အခါ တက်ကြွနေသော ကျွန်တော်၏ စိတ်တို့မှာ ပြန်၍ ထိုင်းသွားမိလေသည်။

ကျွန်တော်။ 'အင်းလေ၊ ခင်ဗျားလဲ ဘုရင်ခံကို ပြောကြည့်သေးတာပေါ့၊ အခု ကျွန်တော်တို့ တွက်တဲ့အတိုင်း ဖြစ်မြောက်မယ်ဆိုရင် အတိုင်းထက်အလွန် ကောင်းမှာပဲ၊ ခင်ဗျားတို့ တရုတ်တွေလဲ ဗမာတွေအပေါ်မှာ သိပ်ပြီး မျက်နှာရှိမှာပဲ၊

'ဒါပေမဲ့ အဲဒီပထမလမ်းနဲ့ နေရာမကျရင် နောက်တစ်လမ်းလုပ်ဖို့ ဒုတိယလမ်းတစ်လမ်းကို ခုပဲ ကျွန်တော် စဉ်းစားမိတယ်၊

'အဲ့ဒါကတော့ တခြားဟာ မဟုတ်ဘူး၊ ထောင်တွေထဲမှာ ကွန်မြူနစ်ဂိုဏ်းသားတွေရှိတယ်၊ ဒီကွန်မြူနစ်တွေက ဖက်ဆစ်ဂိုဏ်းသားတွေကို တိုက်ရမယ်ဆိုရင်တော့ ဘယ်သူနဲ့မဆို ချွင်းချက်မရှိ ပေါင်းတိုက်မယ်၊ အဲဒီလူတွေကို ထောင်ကထုတ်ပေးဖို့ ခင်ဗျား ဘုရင်ခံကို ပြောပါလား'

ဂျင်နရယ်ဝမ်း။ 'ဘာလဲ ကွန်မြူနစ်တွေလား'

သူ၏မျက်နှာကို အကဲခတ်ရသည်မှာ ချီတုံချတုံဖြစ်နေဟန် လက္ခဏာရှိလေသည်။ တရုတ်ပြည်တွင် ချန်ကင်းဂိုဏ်းသားတွေနှင့် ကွန်မြူနစ်တို့၏ အကြောင်းကို ကောင်းစွာသိထားနှင့်သဖြင့် ဂျင်နရယ်ဝမ်း၏ စိတ်ထဲတွင် ဘာကိုတွေးနေသည်ကို အနည်းငယ် အကဲခတ်နိုင်သည်။

ကျွန်တော်။ 'ဒီမှာ ဒီလိုရှိတယ် ဂျင်နရယ်ဝမ်း၊ ခင်ဗျားတို့ ကျွန်တော့်ကို ခေါ်နိုင်ရင် ဒီလူတွေကိုလဲခေါ်နိုင်ရမယ်၊ ဘာဖြစ်လို့လဲဆိုရင် နိုင်ငံရေးမှာ ဒီလူတွေဟာ ကျွန်တော့်ဆရာတွေပဲ၊ ဒီစစ်ပွဲမှာ ဖက်ဆစ်ဂိုဏ်းကို ချိုးနိုင်မှသာ လူ့အဆင့်အတန်း တိုးတက်မယ်၊ ဖက်ဆစ်ဂိုဏ်းသားတွေ လွှမ်းမိုးရင် လူတွေ လူညွှန့်တုံးကုန်မယ်ဆိုတာကို ကျွန်တော် သဘောပေါက်လာ

အောင် လမ်းပြပေးနိုင်တာ ဒီလူတွေပဲ၊ လွန်ခဲ့တဲ့ ခြောက်လလောက်က တောင် ဒီမိုကရေစီဘက်မှ ကူညီပြီး ဖက်ဆစ်တွေကို တိုက်နိုင်အောင် ထောင်မှ လွှတ်ပေးဖို့ သူတို့တတွေ ဘုရင်ခံဆီကို စာရေးကြသေးတယ်၊ ဘာဖြစ်လို့လဲ မဆိုနိုင်ဘူး၊ ဘုရင်ခံဆီက ဘာသံမှ မကြားရဘူး'

ဂျင်နရယ်ဝမ်း။ (အနည်းငယ် စိတ်ဝင်စားလာသည့် မျက်နှာနှင့်) 'ဟုတ်လား'

ကျွန်တော်။ 'ပြီးတော့လဲ အဲ့ဒီလူတွေဟာ ဗမာလူထုအပေါ်မှာ အတော်ပဲ သြဇာရှိတယ်၊ အမှန်စင်စစ် ဒီလူတွေမပါဘဲနဲ့ ကျွန်တော် တစ်ယောက်ထဲဆိုရင် ဒီမိုကရေစီဘက်က ဘာမျှ ထိထိရောက်ရောက် ကူညီနိုင်မှာ မဟုတ်ဘူး'

ဂျင်နရယ်ဝမ်း။ 'အင်း၊ ကောင်းတယ်၊ သူတို့အားလုံး ဒီအထဲမှာ ရှိသလား'

ကျွန်တော်။ 'တစ်ယောက်တော့ မုံရွာထောင်မှာ ရှိတယ်'

ဂျင်နရယ်ဝမ်း။ 'သူတို့နာမည်ကို ပေးပါ'

ကျွန်တော်။ 'ဒီထောင်မှာ သခင်စိုး ဆိုတာရှိတယ်၊ မုံရွာထောင် ကတော့ သခင်သန်းထွန်းတဲ့၊ ခင်ဗျားမှာ အချိန်ရှိသေးရင် သခင်စိုးနဲ့ ခဏလောက် တွေ့လိုက်ပါလား'

ဂျင်နရယ်ဝမ်းလည်း ထောင်မှူးတစ်ဦးအား သခင်စိုးကိုသွား၍ ခေါ်ရန် အမိန့်ပေးလေသည်။

ကျွန်တော်။ 'ဂျင်နရယ်ဝမ်း၊ သခင်ကျော်စိန် သခင်ဗဟိန်းတို့ကိုလဲ ခေါ်ပါ၊ အဲ့ဒီနှစ်ယောက်ဟာလဲ သခင်သန်းထွန်း သခင်စိုးတို့နဲ့ တစ်ဂိုဏ်း တည်းသားတွေ ဖြစ်တယ်'

ဂျင်နရယ်ဝမ်းလည်း သခင်ဗဟိန်းနှင့် သခင်ကျော်စိန် တို့ကိုပါ ခေါ်လာခဲ့ရန် ထပ်မံအမိန့်ပေးလေသည်။

မကြာမီ သခင်စိုး၊ သခင်ဗဟိန်း၊ သခင်ကျော်စိန်တို့လူစု ရောက်လာကြလေသည်။

အချိန်မှာကား နေ့လယ် ၁ နာရီခန့် ရှိလေပြီ။ ဂျင်နရယ်ဝမ်းတို့လူစုလည်း သူတို့ဖို့ နေ့လယ်စာအတွက် ယူဆောင်လာသော နို့ဘူး၊ ဘီစကွတ်၊ ဖရဲသီး အစရှိသည်တို့ကို ကျွန်တော်တို့ လေးဦးအား ထုတ်၍ ကျွေးရာ မည်သူမျှ ဟန်မလုပ်ဘဲ ယူ၍ စားလိုက်ကြလေသည်။

ကျွန်တော်။ 'ဂျင်နရယ်ဝမ်း၊ ခင်ဗျား ဒီလူတွေနဲ့တွေ့ရတာ အင်မတန်ကံကောင်းတယ်မှတ်ပါ။ ဘာဖြစ်လို့လဲဆိုရင် မားပြတွေ တိုက်နေတုန်း၊ ဘာပေးရမယ် ညာပေးရမယ်နဲ့ ကျွန်တော်က စျေးဆစ်နေသေးတယ်၊ ဟောဒီလူတွေကတော့ ဖက်ဆစ်ဆိုရင် ဘာမှမေးမနေဘူး၊ အသေနှံမယ့်လူတွေပဲ'

သခင်စိုးလည်း ဖက်ဆစ်တိုက်ဖျက်ရန် ကိစ္စနှင့် ပတ်သက်၍ သူ၏ သဘောထား လုပ်ငန်းအစီအစဉ်တို့ကို အတိုချုပ်၍ ပြောပြရာ ဂျင်နရယ်ဝမ်းလည်း အတော်ကျေနပ်သွားလေသည်။

နာရီဝက်ခန့် ဆွေးနွေးကြပြီးနောက် ဘုရင်ခံနှင့် တွေ့ရန်အတွက် သွားရန် ပြင်ကြလေသည်။ ထောင်အဝတွင် တစ်ကြိမ် ထပ်၍

'သခင်နု စိတ်ချနေပါ၊ သံကြိုးရိုက်ဖို့ ဘုရင်ခံကို လေးလေးနက်နက် တိုက်တွန်းလိုက်ပါ့မယ်' ဟူ၍ နှုတ်ဆက်သွားလေသည်။



## အခန်း ၃
## ချွန်ကင်းသို့ အသွား

ဂျင်နရယ်ဝမ်းတို့ လူစုနှင့် ကျွန်တော်တို့ တွေ့ပြီးကြသည့် နောက် နှစ်ရက်ခန့် အကြာတွင် ဦးဘချို၊ ဒေါ်မြစိန်နှင့် ဝီလီယန်ဆင်း ဆိုသူတို့ မန္တလေးထောင်သို့ ကျွန်တော်နှင့်တွေ့ရန် ရောက်လာကြပြန်သည်။

ဝီလီယန်ဆင်းဆိုသူမှာ ဗမာမိတ်ဆက်အဖွဲ့ တရုတ်ပြည်သို့သွားရန်ကိစ္စတွင် အထူးဆောင်ရွက်ခဲ့သူတစ်ဦး ဖြစ်လေသည်။

သူနှင့် ကျွန်တော် တရုတ်ပြည်သို့ သွားစဉ်က အထူးခင်ခင်မင်မင်ဖြစ်လာကြသည်။

ကျွန်တော်။ 'တစ်နေ့က ဂျင်နရယ်ဝမ်းတို့ လာကြတယ်၊ သူကပြောတော့ ဆရာလွှတ်လိုက်လို့ လာခဲ့တယ်တဲ့'

ဦးဘချို။ 'ဟုတ်တယ်၊ မင်းအတွက် ဆရာ စိတ်ပူတာနဲ့ ဂျင်နရယ်ဝမ်းကို တရုတ်ပြည်ကတောင် တမင်မှာယူရတယ်၊ သူနဲ့ အခုပဲ တွေ့ခဲ့တယ်၊

ဘုရင်ခံကို ပြောဖို့ကိစ္စဟာ ပြောပြီးပြီ၊ ဘုရင်ခံကလဲ ဘီလပ်ကို သံကြိုးရိုက်လိုက်တယ်လို့ ဂျင်နရယ်ဝမ်းဆီက ကြားခဲ့တယ်'

ကျွန်တော်။ (ဝမ်းသာလျက်) 'ဟုတ်လားဆရာ'

ဦးဘချို။ 'သခင်စိုးတို့လူစုကို ချွန်ကင်းခေါ်သွားဖို့လဲ ဘုရင်ခံက သဘောတူပြီးပြီ၊ သန်ဘက်ခါ လာခေါ်လိမ့်မယ်'

'ဘယ်နှယ့်လဲ ဒီမှာ ဝမ်းရောဂါတွေ အားကြီးထနေတယ်ဆို'

ကျွန်တော်။ 'အားကြီးပဲဆရာ'

ဦးဘချို။ 'အေးကွာ ရတနာသုံးပါး ကျပ်ကျပ်ဆည်းကပ်၊ မမေ့နဲ့ နော်'

ကျွန်တော်။ 'သခင်သန်းထွန်းတို့ အတွက်ကော ဘယ်လိုစီမံသလဲ'

ဦးဘချို။ 'မုံရွာထောင်ကို အခေါ်လွှတ်လိမ့်မယ်၊ ဒါထက် စကားမစပ် ဒေါက်တာဘမော် မိုးကုတ်ထောင်မှာ မရှိတော့ဘူး၊ ပျောက်သွားပြီ၊ အစိုးရလဲ ဒေါင်းတောက်နေတယ်'

ကျွန်တော်။ 'ဩော် ဒါကြောင့်ကိုး၊ မနေ့က ဂျင်နရယ်ဝမ်းက ကျွန်တော့်ကို မေးတယ်၊ ဒေါက်တာ ဘမော်ကို ကောင်းကောင်း သိသလားတဲ့၊ ဩော် ဒါကြောင့်ကိုး' အနည်းငယ် စကားပြောကြပြီးနောက် ဦးဘချိုတို့ လူစု ပြန်ရန် ထကြလေသည်။

ဦးဘချိုသည် အိတ်ထဲသို့နှိုက်ကာ ရှိစုမဲ့စု ငွေငါးဆယ်ကို ထုတ်ပေး သွားသည်။

အမှန်စင်စစ် ထောင်ဥပဒေအတိုင်းဆိုလျှင် အကျဉ်းသားတစ်ယောက် ကို ငွေမပေးနိုင်။

သို့ရာတွင် ထောင်အရာရှိများနှင့် ကျိတ်၍သွင်းလျှင် ကြိုက်သလို သွင်းနိုင်သည်။

ဝီလီယံန်ဆင်းလည်း ကျွန်တော်တို့၏ အဖြစ်အပျက်ကို မြင်၍ သနားသွားဟန် လက္ခဏာရှိသည်။

သူ့အိတ်ထဲမှ တစ်ရာတန်ငွေစက္ကူ အထပ်ကြီးကို ဆွဲထုတ်ပြီး ပေးသေးသည်။

ထောင်ထဲမှာ ဦးဘချိုငွေလောက်နှင့်ပင် လိုသည်ထက် ပိုနေ၍ လက်မခံလိုက်ဘဲ၊ တရုတ်ပြည်မှ သူကိုယ်တိုင် ယူလာသော ဘဲဥကြီးနှစ်လုံးကိုသာ လက်ခံထားလိုက်သည်။

ကျွန်တော်သည် ထောင်တွင်းသို့ ပြန်ရောက်သောအခါ ရှေ့လုပ်ငန်းအစီအစဉ် တစ်ဦးနှင့်တစ်ဦး ဆက်သွယ်လျှင် မည်သည့် လျှို့ဝှက်သည့် စကားလုံးများဖြင့် ဆက်သွယ်မည် အစရှိသည်တို့ကို သခင်မြသွင်နှင့် တိုင်ပင်နှီးနှော၍ မှာကြားစရာ ရှိသရွေ့ကိုလည်း မှာကြားလျက်ရှိလေသည်။

ဦးဘချိုပြောသွားသည့်အတိုင်း နှစ်ရက် ကြာသောအခါ ချွန်ကင်းသို့ခေါ်ရန် အင်္ဂလိပ်အရာရှိတစ်ဦးနှင့် ယယ်သားတစ်စုတို့ မော်တော်ဘတ်ကားတစ်စီးဖြင့် ထောင်သို့ ရောက်လာကြလေသည်။

အချိန်မှာကား ညနေ နှစ်နာရီခန့်မျှ ရှိလေပြီ။ သခင်စိုး၊ သခင်ဗဟိန်း၊ သခင်ကျော်စိန်နှင့် ကျွန်တော်တို့ လေးဦးသားလည်း အသင့်ပြင်ထားသော ရှိသမျှ အထုပ်ကလေးများကို သယ်ယူကာ ထိုမော်တော်ဘတ်ကားဖြင့် လိုက်သွားကြလေ၏။

ကျွန်တော်တို့ ဘာလုပ်နေသည်ကို နားမလည်ဘဲ အင်္ဂလိပ်အရာရှိတစ်ဦး လာ၍ ခေါ်သဖြင့် တစ်ခုခုထူးမှာပဲဟု အံ့သြနေသော ထောင်သားများသည် ကျွန်တော်တို့လူစုကို ဝိုင်းအုံကြည့်နေကြသည်မှာ ကြိတ်ကြိတ်တိုးမျှ ရှိလေသည်။

ကျွန်တော်တို့၏ ခရီးအစီအစဉ်မှာ ရှေးဦးစွာ ပထမ မေမြို့သို့ သွားရန် ဖြစ်၏။

မေမြို့တွင် ထိုနေ့ည တစ်ညအိပ်၍ နောက်တစ်နေ့တွင် လားရှိုးသို့ သွားပြီး လားရှိုးမှ ချွန်ကင်းသို့ လေယာဉ်ပျံဖြင့် သွားရန် စီစဉ်ထား၏။

ထိုအစီအစဉ်ကို တိုက်ရိုက်စုံစမ်း၍မရ၊ ဘတ်ကားပေါ်တွင် ရောင့်ထားကြသော အရာရှိများထံမှ ဟိုတစ်ခွန်း ဒီတစ်ခွန်း မရမက မေးမြန်း၍ရသော စကားများကို တစ်ခုနှင့်တစ်ခု ဆက်စပ်ပြီး တွေးယူရသော သတင်း ဖြစ်လေသည်။

ထောင်က အထွက်တွင် ကျွန်တော်တို့ လေးဦးသား အထူးရွှင်မြူးနေကြောင်းမှာ ကျွန်တော်တို့၏ မျက်နှာထားများ စကားပြောသည့် လေသံများနှင့် လက်ဟန်ခြေဟန်တို့က သက်သေခံလျက်ရှိသည်။

သခင်စိုးတို့ လူစုမှာမူ ဖက်ဆစ်ဓားပြတွေကို နှိမ်နင်းရန်အတွက် သူတို့ တစ်နှစ်လုံးလုံး ကြိုးပမ်းခဲ့ရသည့် အကြံအစည်ကြီးမှာ အထမြောက်စပြုပြီဟူသော ယုံကြည်ချက်ဖြင့် ဝမ်းသာဟန် လက္ခဏာရှိသည်။

ကျွန်တော့်မှာမူကား တစ်ကိုယ်ကောင်း စိတ်တွေများလွန်းသည်ဟု စွပ်စွဲလျှင်လည်း ခံရပေတော့မည်။

နောင်ရေးတွေကို ဘာမှမတွေးနိုင်ဘဲ ဝမ်းရောဂါတွေ ဝိုင်းနေသော ထိုထောင်ကြီးအတွင်းမှ လွတ်မြောက်ရပြီဟူသော အတွေးဖြင့် ဝမ်းသာခြင်းမက ဝမ်းသာခြင်း ဖြစ်လေသည်။

ဤနေရာတွင် စကားစပ်မိ၍ ကျွန်တော်တို့ကို အခေါ်လာသူများ၏ စိမံချက် အချိုးမကျပုံကို ပြောရဦးမည်။

ထိုအချိန်က အင်္ဂလိပ်တို့မှာ မျက်နှာအမဲဆုံး အချိန်အခါ ဖြစ်လေသည်။

ထိုအချိန်အခါမျိုးတွင် သူတို့ဘက်က လိုက်ပါသူများကို ထိပ်ပေါ်တင်၍ ထားရန် မသင့်ပေဘူးလား။ သို့ရာတွင် ထောင်အထွက်တွင် သခင်

ကျော်စိန်အား နောက်ကျရမည်လားဟု အင်္ဂလိပ်အရာရှိသည် အော်လား ငေါက်လား လုပ်သေးသည်။

ထိုသို့ အော်ငေါက်သည်မှာလည်း ဂျပန် လိုလားနေသည့်သူများ အများအစား ပါဝင်သော ထောင်ပရိသတ်များ၏ ရှေ့တွင် ဖြစ်ရာ 'ကောင်းတယ်ကွာ အင်္ဂလိပ်ကို 'ဆာ' နေတဲ့အကောင်တွေ အအော် ခံရတာတောင် နည်းသေးတယ်'ဟု ဝိုင်း၍ ကြည့်နေသူများက သူတို့ အချင်းချင်း မပြောကြလျှင် ကံကောင်းလှပြီဟု အောက်မေ့ရပေမည်။

မော်တော်ကားထဲသို့ ရောက်ပြန်သောအခါလည်း ကျကျနနနေရ သည် မရှိ။ မော်တော်ဘတ်မှာ တရားခံများကို သယ်ယူသော ဘတ်ကား ဖြစ်သဖြင့် ကျွန်တော်တို့ မော်တော်ဘတ်အထဲသို့ ရောက်လျှင်ရောက်ချင်း အဝင်ပေါက်တံခါးကို သော့ခတ်လိုက်ပြီး ခြောက်လုံးပြူး ခါးထိုးထားသော အရာရှိတစ်ဦးသည် တံခါးဝမှ ထိုင်စောင့်လျက် ရှိလေသည်။

သခင်စိုးတို့ လူစုမှာ ဖက်ဆစ်စားပြများကို တိုက်ဖျက်လိုသည့် ဇောတွေ အားကြီးနေသဖြင့် ဤအဖြစ်အပျက်များကို သတိထားမိဟန် ရှိမည် မထင်ချေ။

ကျွန်တော်တို့၏ အချုပ်ကားကလေးသည် ဤသို့ ရှေ့ရှုမောင်းလာရာ မေမြို့တောင်ခြေရင်းနားဆီသို့ ရောက်သောအခါ ကျွန်တော်တို့ ဘတ် ကားနှင့် မျက်နှာချင်းဆိုင် အရပ်ဆီမှာ မော်တော်ကားတစ်စင်း မောင်းလာ နေသည်ကို တွေ့ရသည်။

ကျွန်တော်တို့၏ အနီးသို့ရောက်သောအခါ ထိုကားထဲမှ အင်္ဂလိပ် အရာရှိတစ်ဦးက ကျွန်တော်တို့၏ ကားကို ရပ်ရန် လက်ပြသည်။

၎င်းနောက် ကျွန်တော်တို့ ကားထဲမှ ဗမာအရာရှိတစ်ဦးသည် ထိုကား ထဲက အင်္ဂလိပ်အရာရှိထံသို့သွား၍ အမိန့်နာခံပြီး ကျွန်တော်တို့၏ ဘတ်ကားကို မန္တလေးထောင်ဘက်ဆီသို့ ပြန်မောင်းခဲ့လေသည်။

ဘာကြောင့်ဟု အကျိုးအကြောင်းကို မည်သူ့အားမျှမေး၍မရချေ။ ဘတ်ကားထဲတွင်ပါလာသော အရာရှိများအားလုံးသည် တုဏှိဘောလုပ်၍ နေကြသည်။

သို့ရာတွင် မန္တလေးမြို့တွင်းရှိ ပုလိပ်ဌာနတစ်ခုသို့ဝင်၍ အင်္ဂလိပ် အရာရှိတစ်ဦးနှင့် ကျွန်တော်တို့၏ ဘတ်ကားတွင်ပါသော အရာရှိတို့ ပြောနေ ကြသည့် စကားထဲမှ 'တစ်လမ်းလုံး မော်တော်ကားတွေ စစ်သားတွေ ဂျန်း ဖြစ်နေသည်၊ ရှေ့သို့ ဘယ်နည်းနှင့်မျှ မသွားနိုင်' ဟူသော စကားလုံး များကို ခပ်သန့်သန့် ကြားရသည်မှတစ်ပါး အခြား ဘာအကြောင်းကိုမျှ မသိရချေ။

ထို့ကြောင့် ကျွန်တော်တို့သည် ချွန်ကင်းသို့ထွက်ခဲ့ရာ ချွန်ကင်းသို့ မရောက်ဘဲ မေမြို့တောင်ခြေလောက်နှင့်ပင် တင်းတိမ်ခဲ့ရပြီးလျှင် ညနေ ငါးနာရီ အချိန်လောက်တွင် ဝမ်းရောဂါတို့ဖြင့် ဝိုင်းရံလျက်ရှိသော မန္တလေး ဗဟိုထောင်ကြီးအတွင်းသို့ ပြန်ရောက်လျက်ရှိလေ၏။



# အခန်း ၄
# လူ နှစ်စု ခွဲကြခြင်း

'တရုတ်  ဗမာ လမ်းမကြီးကို ဂျပန်တို့ ဖြတ်လိုက်ပြီ' ဟူသော သတင်းသည် နောက်တစ်နေ့ နေ့လယ် ၁၁ နာရီလောက်တွင် တစ်ထောင်လုံး နှံ့သွားတော့၏။

ထိုအခါမှ မနေ့က ဌာနတစ်ခုတွင် အရာရှိနှစ်ဦး ပြောနေကြသည့် 'မော်တော်ကားတွေ စစ်သားတွေ ဂျန်း ဖြစ်နေသည်၊ ရှေ့သို့ ဘယ်နည်းနှင့်မျှ မသွားနိုင်'ဟူသော အဓိပ္ပာယ်မှာ ဘွားခနဲ ရှင်း၍လာလေသည်။

ထိုနေ့မှ နာရီပြန် တစ်ချက်လောက်တွင် နိုင်ငံရေးအကျဉ်းသား ၃၀၀ နီးပါးမှတစ်ပါး ‧ အခြားအကျဉ်းသားအားလုံး လွှတ်လေသည်။

ညနေ လေးနာရီလောက်တွင် ထောင်ထောင်မောင်းမောင်း နှုတ်ခမ်းမွေးကြီးနှင့် အင်္ဂလိပ်စစ်ဗိုလ်ကြီးတစ်ဦး ထောင်ထဲသို့ ဝင်လာပြီးလျှင် နိုင်ငံရေး အကျဉ်းသား အားလုံးကို ထောင်ထဲက ရေစက်ကြီးရှိသည့် အချုပ်ခန်းဘက်၌ လာ၍ စုနေရန် အမိန့်ပေးလေသည်။

ဤသို့ အမိန့်ပေးသည်ကိုပင် အမျိုးမျိုးအဓိပ္ပာယ်ကောက်ကြသည်။

တချို့ကလည်း အင်္ဂလိပ်စစ်တပ်နှင့် အတူတူ အိန္ဒိယသို့ ခေါ်သွားရန် အစုခိုင်းထားသည်ဟု တွေးကြသည်။

တချို့ကလည်း ထောင်ကို စစ်ဘက်အပ်လိုက်လျှင် နိုင်ငံရေးသမားတွေကို 'တွယ်' သွားလိမ့်မည်ဟု အတွေးနှင့် လန့်ကြသည်။

ထိုအချိန်အခါမျိုးတွင် 'တွယ်' သွားလိမ့်မည် 'နှံ' သွားလိမ့်မည်ဟူသော အတွေးအခေါ် အသုံးအနှုန်းတို့ကို မည်သူမျှ မကြားချင်ကြချေ။

အဘယ့်ကြောင့်ဆိုသော် ၎င်းတို့သည် ယုတ္တိမည်မျှပင် ဗောင်းနေစေကာမူ လူတိုင်းလိုလိုမှာ စိတ်အားငယ်လျက်ရှိသဖြင့် ၎င်းတို့ကို ကြားလိုက်လျှင် ကြားလိုက်ခြင်း အနည်းဆုံး 'ဒိတ်' ခနဲ ဖြစ်ပြီး ခေါင်းကြီးသွားသေးသည်။

ထို့ကြောင့် ဤသို့ တွေးတတ် ပြောတတ်သူများကို ထိုအချိန်အခါတွင် ကျွန်တော်တို့သည် များစွာရှောင်ကြသည်။ အနားကပ်ပင် မခံချင်ကြပေ။

ထိုအတောအတွင်း လက်ခပ်ဆော့ဆော့ လူတစ်စုက ထောင်တွင်းရှိ ပစ္စည်းများထားရာ စတိုခန်း တစ်ခုဖွင့်၍ မီးခြစ်ထုပ်များကို ယူလာပြီး ကျွန်တော်တို့ အားလုံးကို ဝေလေသည်။

ထိုအခါ ကျွန်တော်အနီး၌ ထိုင်နေသော ဆင်းရဲသား ဝံသာနု ခေါင်းဆောင်တစ်ဦးဖြစ်သည့် ဦးဘွန်စွမ်က ကျွန်တော့်ဘက်သို့ လှည့်၍ ရယ်ပြီးလျှင် 'သခင်နု ဒီမီးခြစ်တွေဝေတာကောင်းတဲ့ နိမိတ်ပဲ၊ မီးဆိုတာ မင်းနဲ့ အတူတူ မဟုတ်ဘူးလား၊ မီးခြစ်ဆိုတော့ မင်းကလဲ ကျွန်တော်တို့ကို ချစ်ပြီး ထောင်ကလွှတ်မယ်ဆိုတဲ့ နိမိတ်ပဲ' ဟု ပြောလိုက်ရာ ထိုစကားလုံးများသည် ကျွန်တော်တို့အား များစွာနှစ်သိမ့်စေလေသည်။

ကျွန်တော်တို့လည်း ထိုနေရာတွင် နှစ်နာရီခန့် စောင့်နေပြီး ခြောက်နာရီလောက် ရှိသည့်တိုင်အောင် အဆိုပါ အင်္ဂလိပ်စစ်ဗိုလ်ကြီး ပေါ်မလာသဖြင့် ကျွန်တော်တို့၏ မူလအိပ်တန်းများသို့ ပြန်ကြလေသည်။

နောက်တစ်နေ့တွင် လွန်ခဲ့သော ၂၄ နာရီ အတွင်းကပင် ပျားပန်းခတ်သလို တရုန်းရုန်းနှင့် ဖြစ်နေသော ထောင်ကြီးအတွင်းမှာ ကျွန်တော်တို့ နိုင်ငံရေးအကျဉ်းသား ၃၀၀ လောက်သာ ကျန်ရစ်ပေတော့သည်။

သခင်စိုး၊ သခင်ဗဟိန်း၊ သခင်ကျော်စိန်၊ သခင်မြသွင်နှင့် ကျွန်တော်တို့လည်း လူရှင်းရာ ထောင့်တစ်ခုသို့သွားပြီး တိုင်ပင် စိုင်းပြင်းပြန်လေသည်။

ကျွန်တော်။ 'ကျွန်တော်တို့ကို အိန္ဒိယခေါ်ဖို့ ကြိုးစားနေကြတယ် ထင်တယ်'

သခင်စိုး။ 'ကြိုးစားချင်လဲကြိုးစားမယ် ထင်တယ်၊ ဒါပေမဲ့ ကိစ္စဟာ မလွယ်ဘူး၊ နောက်ဆုတ်ရတဲ့ စစ်တပ်ဆိုတာ ရသမျှ မော်တော်ကား၊ ရသမျှ သင်္ဘော၊ ရသမျှ လေယာဉ်ပျံတွေကို အရေးကြီးတဲ့ စစ်ပစ္စည်းတွေနဲ့ အရေးကြီးတဲ့ စစ်သားတွေကို သယ်ယူဖို့သုံးနေရမယ်၊ ဒီတော့ ဒီလူတွေ ဘယ်လိုကြိုးစားပေတဲ့လဲ ခေါ်နိုင်မယ် မထင်ဘူး၊ ကျွန်တော်တို့ကို ထားပစ်ခဲ့ရမှာပဲ'

ကျွန်တော်။ 'အဲဒီတော့ ထားပစ်ခဲ့ရင် ဘာဆက်လုပ်ကြအုံးမလဲ'

သခင်စိုး။ 'အပြင်ရောက်ရင် တရုတ်စစ်တပ် တစ်တပ်နဲ့ အဆက်ရအောင်ရှာပြီး သူတို့နဲ့ပဲ တရုတ်ပြည်ကို လိုက်သွားချင်တယ်'

ကျွန်တော်။ 'ကောင်းသားပဲ၊ တရုတ်စစ်တပ်နဲ့ အဆက်ရချင်ရင် ဦးဘချိုကို တွေ့အောင်ရှာပေါ့၊ သူကြိုးစားပေးရင် ပိုလွယ်လိမ့်မယ်'

သခင်ဗဟိန်း။ 'ဟုတ်တယ်'

သခင်စိုး။ 'ကောင်းတယ်၊ အဲ့ဒီတော့ ဘယ်သူတွေ လိုက်ကြမလဲ'

သခင်ကျော်စိန်။ 'ကျွန်တော် လိုက်မယ်'

သခင်မြသွင်။ 'ကျွန်တော် လိုက်မယ်'

ကျွန်တော်။ 'ကျွန်တော်တော့ ဗမာပြည်တွင်းကပဲ လုပ်မယ်၊ ခင်ဗျား တို့သာ သွားကြပေတော့'

ဗမာပြည်တွင်းမှာ အလုပ်လုပ်ရန် နေရစ်မည် ဟူသော ဆင်ခြေကို ပေးလိုက်သော်လည်း အမှန်စင်စစ် ထိုအချိန်အခါတွင် အလုပ်လုပ်ရန် စိတ်ထက် အိမ်ကို လွမ်းသည့်စိတ်က ပို၍များနေလေသည်။

နိုင်ငံရေးနယ်ထဲကို ဝင်လာသည့်အချိန်အတွင်း ဤကိစ္စနှင့် အလားတူ ကိစ္စမျိုးကို ကျွန်တော် မကြာခဏ တွေ့ဖူး ကြားဖူးခဲ့၏။

ဥပမာ သပိတ်တားရန် ကိစ္စတစ်ခုကိုချ၍ စဉ်စားကြသည်ဆိုပါတော့။ ဤသို့စဉ်းစားသည့်အထဲတွင် အဖမ်းခံရမှာ ကြောက်သည့် လူလည်း ပါသည်၊ နံပါတ်တုတ်ကို ကြောက်သည့်လူလည်း ပါသည်၊ ကိုယ်တိုင် ဝင်တားရမည်ကို ကြောင်သည့်လူလည်း ပါသည်။

ထိုလူများသည် သပိတ်တားသည့်ကိစ္စကို ကန့်ကွက်ရာ၌ မိမိတို့၏ စိတ်ထဲတွင် ရှိသမျှကို ဟုတ်တိုင်းမှန်ရာ ဖွင့်မပြောကြချေ။ 'အချိန်မကျ သေးဘူး၊ အလကားပဲ ထိရောက်မှာ မဟုတ်ပါဘူး၊

'အားလုံး ညီရင် ကောင်းတယ်၊ ဒါပေမဲ့ ညီညွတ်မှာလဲ မဟုတ်ဘူး' အစရှိသည့် ဆင်ခြေတို့ဖြင့် ဝိုင်း၍ ဖျက်တတ်ကြသည်။

တစ်ခါတစ်ရံ ထိုလူမျိုးတို့ တွေ့ကရာပေးသော ဆင်ခြေတွေကို အဟုတ်မှတ်ပြီး အလုပ်ကောင်းများသည် ပျက်တတ်ကြလေသည်။

တစ်ဘက်ကအနိုင်ရသွား၍ လုပ်ကြပြန်လျှင်လည်း ထိုလူမျိုးတို့သည် အငြိမ်မနေဘဲ ဆင်သေကို သားရေနှင့် အုပ်သည့်အလား သူတို့၏ သူရဲဘောနည်းခြင်းကို ကာမိစေလိုသည့် သဘောနှင့် စာ နယ် ဇင်းတို့ ထဲမှ တွေ့ကရာတွေ ရေး၊ စင်မြင့်ပေါ်မှ တွေ့ကရာတွေ ပြော အစရှိသည် ဖြင့် ကဖျက်ယဖျက် လုပ်တတ်ကြသေးသည်။

ကျွန်တော်တို့သည် ထိုအစည်းအဝေး၌ပင် လူ နှစ်စု ခွဲသည်။ သခင်စိုး၊ သခင်ကျော်စိန်၊ သခင်မြသွင်တို့က နိုင်ငံခြားသို့ သွား၍ သခင်ဗဟိန်းနှင့် ကျွန်တော်တို့က ဗမာပြည်တွင်းမှ ဆောင်ရွက်ရန် ဖြစ်သည်။

ထိုနေ့တစ်နေ့လုံးတွင်လည်း အင်္ဂလိပ်စစ်ဗိုလ်သည် ပေါ်၍မလာချေ။ ဘာအမိန့်များ ချမည်လဲဟု တထင့်ထင့်နှင့် မျှော်ရသည်မှာ အလွန်အချိန်ကြာသည်ဟု ထင်ရ၏။

ကျွန်တော်တို့အထဲမှာ လက်ခပ်ဆော့ဆော့ လူများလည်း ထိုနေ့တစ်နေ့လုံး ထောင်ထဲရှိ စတိုခန်းများကို ဖွင့်ပြီး ဖျင်အုပ်၊ လုံချည်၊ မီးခြစ်၊ ဆပ်ပြာ အစရှိသည်တို့ကို သယ်ကြပြန်သည်။

တချို့ကလည်း သူတို့ သယ်လာကြသည့် ပစ္စည်းများကို ထောင်မှ လွတ်လျှင် သယ်ထုတ်နိုင်ရန် ထမ်းပိုး တုတ်များကိုခုတ်၍ အသင့်ပြင်ဆင်နေကြလေသည်။

အတော်လောဘကြီးသော သူများပင်တည်း။ ဖြုမည်လား မသိ၊ မဲမည်လား မသိ၊ ခေါင်းနှင့်ပင် ထွက်ရမည်လား၊ ခြေနှင့်ပင် ထွက်ရမည်လား၊ တထိတ်ထိတ် တလန့်လန့်နှင့် ဖြစ်နေရသည့်အထဲတွင် ဤသို့လောဘဇောများ ထွက်နိုင်ကြသည်မှာ အတော်ဆိုးနေ၏။

ထိုသို့ မတရား လောဘဇော ထွက်သူများမှာ နိုင်ငံရေးသမားအခေါ်ခံသူများ ဖြစ်နေပြန်၍ ပိုပြီးဆိုးနေ၏။

သို့နှင့်ပင် တစ်နေကုန်သွားလေ၏။ ည ခုနစ်နာရီ အချိန်လောက်တွင် အရေးကြီးကိစ္စတစ်ခုနှင့် တိုင်ပင်ရအောင်ဟု ခေါ်သဖြင့် ကျွန်တော်တို့လည်း လိုက်သွားကြလေသည်။

ရွှေကျင်မှ နိုင်ငံရေးအကျဉ်းသမား နှစ်ယောက်သည် သတင်းထူးတစ်ခုကို ရလာသည်။ ရရှိသည့် သတင်းမှာကား ဤသို့တည်း။

အင်္ဂလိပ်များ၊ တရုတ်များလည်း မန္တလေးမှ ဆုတ်ကြပြီ။ တစ်ထောင်လုံးတွင်လည်း အခြားအရာရှိများ မရှိကြ။ ထောင်မှူးကြီး တစ်ဦးသာ ကျန်ရစ်တော့၏။

ထိုထောင်မှူးကြီးအား စစ်ဘက်မှပေးခဲ့သော အမိန့်မှာ နိုင်ငံရေးအကျဉ်းသားများကို အစာ ငါးရက်စာထား၍ အပြင်ဘက်မှ ထောင်ကို အလုံပိတ်ခဲ့ရန် ဖြစ်၏။

ထိုသတင်းကိုရသည်မှာလည်း အခြားကြောင့်မဟုတ်။ ထောင်မှူးကြီးနှင့် ဤသူ နှစ်ဦးတို့မှာ ရွှေကျောင်းသားအချင်းချင်း ဖြစ်ကြသောကြောင့် ဖြစ်၏။

'ရွှေကျောင်းသား အချင်းချင်းဆိုလျှင် ထောင်ဖွင့်လွှတ်အောင် ပြောပါလား၊ စစ်ဘက်ကလဲ ရှိတော့တာမှ မဟုတ်ဘဲ၊ ငွေပေးချင်လျှင် ပေးရပေစေ'

အစရှိသည့် အကြံဉာဏ်များသည် အကျဉ်းသားများထဲမှ ကရားမှ ရေလွှတ်သလို တတွတ်တွတ်နှင့် ထွက်လာကြလေ၏။

နောက်ဆုံး၌ အားလုံး သဘောတူကြသည်မှာ ထောင်မှူးကြီးကို ငွေတစ်သောင်းပေးမည် ကတိပေးရန် ဖြစ်၏။

အဘယ်ကြောင့် ကတိသာပေးနိုင်သနည်းဆိုသော် ကျွန်တော်တို့တွင် ရှိသော ငွေများကို ပြေးရေမှ ငွေတစ်ရာထက်ပင် ပိုမည် မဟုတ်သောကြောင့်တည်း။

ငွေတစ်သောင်းအနက် ငါးထောင်ကို ရွှေကျောင်မှ အကျဉ်းသား နှစ်ဦးက ပေးမည်ဟု ဝန်ခံ၏။

ထိုသူများကား ရော်ဘာခြံ သူဌေးများဖြစ်၍ ထိုငွေမှာ သူတို့အတွက် ဝန်မလေး။ သခင် အကျဉ်းသားအားလုံးအတွက် ငွေသုံးထောင် ပေးပါမည်။ ကျွန်တော်က တာဝန်ခံ၍ ဓားမအကျဉ်းသား အားလုံးအတွက် ငွေနှစ်ထောင်ကို ဦးဘွန်စွမ်က တာဝန်ခံရသည်။

(ဂျပန်ခေတ်က ဤငွေ ပေးသင့် မပေးသင့် ငြင်းခုံနေရသည်နှင့် မပေးခဲ့ရသည့်အတွက် စိတ်မကောင်းလှပေ။)

ဤကိစ္စကို ထောင်မှူးကြီးနှင့် စေ့စပ်ရန်အတွက် ဦးဘွန်စွမ်နှင့် ကျွန်တော့်ကို တာဝန်လွှဲကြသည်။ ကျွန်တော်တို့လည်း ထောင်မှူးကြီးနှင့် တွေ့ကြသောအခါ အကျိုးအကြောင်းကို ပြောပြလေသည်။

ထောင်မှူးကြီး။ 'ငွေအတွက်ကတော့ သိပ် အရေးမကြီးပါဘူး၊ မနက်ဖြန် ကျွန်တော့်ပစ္စည်းတွေကို မြို့ပြင်ရောက်အောင် ခင်ဗျားတို့ ကူပြီး သယ်ပေးနိုင်ကြပါမလား'

ကျွန်တော်တို့လည်း ထောင်မှူးကြီး ပြောသည့်အတိုင်း တာဝန်ယူခဲ့ကြလေသည်။

နောက်တစ်နေ့ နံနက် မိုးလင်းသည်နှင့် တစ်ပြိုင်နက် ကျွန်တော်တို့ လူစုလည်း အထုပ်ဆွဲသူက ဆွဲ၊ အထမ်းကို ထမ်းသူက ထမ်းနှင့် ထောင်တံခါးပေါက်ဝနားတွင် စုဝေးလျက်ရှိကြလေသည်။

ထိုနေ့ နံနက် ထောင်မှူးကြီးသည် သူ့အိမ်ပေါ်မှဆင်းလာပြီး ထောင်တံခါးကို ဖွင့်လျှင် သုံးရာခန့်မျှသာရှိသော နိုင်ငံရေးအကျဉ်းသားအားလုံး ထောင်မှလွတ်ကြရမည်မှာ ဧကန်မလွဲပင် ဖြစ်သော်လည်း အချို့လူများသည် ထောင်တံခါးဝကလေးအနီးကို သူ့ထက်ငါ အတင်းတိုးဝှေ့နေသည်မှာ နိုင်ငံရေးသမားများနှင့် မတူတော့ဘဲ ရုပ်ရှင်ရုံဝတွင် လက်မှတ်တိုးဝှေ့၍ ဝယ်နေသူများနှင့် များစွာတူလေသည်။

ဦးဘွန်စွမ် သခင်စိုး ကျွန်တော် အစရှိသည့် မနေနိုင်သည့် သူများလည်း ဤသို့ ဣန္ဒြေမရဖြစ်နေသည်ကို အော်ငေါက်၍ တားကြပါသေးသည်။ သို့ရာတွင် အချည်းနှီးပင် ဖြစ်လေသည်။

မကြာမီ ထောင်မှူးကြီးသည် ဒုတိယတံခါးမကြီးကို ဖွင့်၍ ဝင်လာရာ လွတ်တော့မည် အထင်နှင့် ဝုန်းခနဲ ထလိုက်ကြ၏။

အချို့မှာ ထမ်းထားသည့် ထမ်းပိုးများက လေးလွန်းသဖြင့် နောက်ပက်လက်လန် လဲသူက လဲ၊ အထုပ်တွေ ပြေကျသူက ပြေနှင့် ဖရိုဖရဲ ဖြစ်သွားလေသည်။

ဦးဘွန်စွမ်လည်း မနေနိုင်လွန်း၍ သူ့အနီးတွင်ရှိသော ဘုန်းကြီး တစ်ပါးအား

'ကိုယ်တော် ဘာဖြစ်လို့ ပစ္စည်းတွေ ဒီလောက်တောင် သယ်မလဲ၊ ခရီးက ဘယ်လိုနေမည်ဆိုတာ မပြောနိုင်သေးဘူး၊ လမ်းမှာ အကုန်လုံး လွှင့်ပစ်ခဲ့ရမှာပဲ' ဟု ဝင်လှမ်း၍ ပြောရသေး၏။

ဦးဘွန်စွမ်လည်း နိုင်ငံရေးသမားအချို့၏ အချိုးမကျပုံတွေကို အလွန် စိတ်ထွက်နေဟန်ရှိလေသည်။

ထောင်မှူးကြီးလည်း တံခါးဖွင့်မပေးသေးဘဲ အပြင်မှနေ၍ 'ဟော့ လူတွေ ဣန္ဒြေရရနေကြလေ၊ ဒီလို အတင်းတိုးဝှေ့နေရင် တံခါးဖွင့်မပေးဘူး' ဟု လေးငါးခြောက်ခါ အော်ငေါက်၍ ပြောပြီး ကျွန်တော်တို့တတွေကလည်း ထောင်မှူးကြီးကို ဝိုင်း၍ ထောက်ခံတော့မှ အတော်ကလေး ငြိမ်သက်သွားသည်။

ငါးခုံးမတစ်ကောင်နှင့် တစ်လှေလုံး ပုပ်သည်ဆိုသလို လူနောက်ဆယ့်လေးငါးယောက်လောက်နှင့် နိုင်ငံရေးသမားအားလုံးမှာ သူစိမ်းတစ်ရံဆံ လူများ၏ အရှိသေတန်ခြင်းကိုပင် ခံရသည်။

ဤလူနောက်တွေကို မသတီစရာ ကောင်းသလောက် ကြည်ညိုဖွယ်ရာ ကောင်းသောလူများလည်း ရှိပါသေးသည်။

ထိုသူများသည် အစု လေးငါးခြောက်စု ခွဲ၍ ရွှေတောင်တိုက်ပွဲတွင် အင်္ဂလိပ်တို့ ဖမ်းလာသော ဘီ အိုင် အေ သုံ့ပန်းများအနက် ဒဏ်ရာ အကြီးအကျယ်ရ၍ မထနိုင်သူ လေး ငါး ခြောက်ဦးကို ထမ်းစင်များဖြင့် သယ်၍ ထုတ်ကြသည်။

ဤအချိန်အခါမျိုးတွင် ကိုယ်လွတ်ရုန်းရလုမတတ်ဖြစ်နေသည့်အခါ ကိုယ့်ပစ္စည်းကလေးမျှကိုပင် မသယ်ယူကြဘဲ ဒုက္ခသည်များကို ယခုလို ထမ်းထုတ်နိုင်ကြသည်မှာ ချီးကျူးဖွယ်ရာပင်။

အပြင်သို့ ထွက်ရခါနီးဆဲဆဲကလေး၌ပင် ဝမ်းရောဂါသမားများ ထားရာ တန်းလျားထဲတွင် လွန်ခဲ့သောညများက ပို့လိုက်သော လူများ အနက် တစ်ယောက်မှာ သေကံမရောက် သက်မပျောက်ဘဲ ထိုင်နေသည် ဟု လူတစ်ယောက် လာပြောသဖြင့် သခင်ကျော်စိန်၊ အခြားအမည် မေ့နေသူ တစ်ယောက် နှစ်ယောက်နှင့် ကျွန်တော်တို့ လေး ငါး ဦးသည် အရဲစွန့်ပြီး ဝမ်းရောဂါသမားတို့၏ တန်းလျားသို့ သွားကြလေသည်။

တန်းလျား၏ အခန်းတိုင်းတွင် တုံးလုံးပက်လက် သေနေကြသော အလောင်းများမှာ မြင်မကောင်းပေ။

ကံအားလျော်စွာ အသင်ရှင်နေသေးသော လူမမာ၏ အခန်းတံခါး သော့မခတ်ဘဲ အပြင်ဘက်မှ မင်တုံးဖြင့်သာ ထိုးထားသဖြင့် ကျွန်တော် တို့လည်း မင်းတုံးကိုဖြုတ်၍ တံခါးဖွင့်ပေးလေသည်။ အခန်းထဲသို့ကား မည်သူမျှ မဝင်ရဲပေ။

အပြင်ဘက်မှနေ၍ လူမမာအား ထောင်၏အခြေအနေကို ရှင်းလင်း ပြောပြပြီး ကြိုးစားထရန် ပြောသောအခါ လူမမာလည်း သေရမည့် ဘေးကို ကြောက်သောကြောင့် ကြိုးစား၍ ထပါသေးသည်။

သို့သော်လည်း သုံး လေး ရက်မျှ မြောနေရာမှ မသေ၍ ကျန်ရစ်ရာ အားကုန်ခန်းလုနီးနီး ဖြစ်နေသဖြင့် မထနိုင်ချေ။ မထနိုင်သည့် အကြောင်းကို ကျွန်တော်တို့အား ပြောပြရန်ပင် အားမရှိချေ။

ကျွန်တော်တို့လည်း လက်မလျှော့သေးဘဲ တောင်ဝှေးတစ်ခုကို လိုက်ရှာ၍ ထိုသူကို ပေးပြီးလျှင် ကြိုးစားထရန် တိုက်တွန်းပြန်သည်။

ဤအကြိမ်တွင် တောင်ဝှေး၏ အကူအညီအပြင် သေရမည့်ဘေးကို ကြောက်ပြီး ရှိသမျှအားကို အစွမ်းကုန် ထုတ်လိုက်သောကြောင့် ထနိုင်လာလေသည်။

ကျွန်တော်တို့လည်း ဆေးရုံတွင်းသို့သွား၍ ဖိနိုင်ဆေးတစ်လုံးကို ယူလာပြီး၊ ထိုလူမမာ တစ်ကိုယ်လုံးကို သစ်ခက်များဖြင့် ဆေးဖျန်းပေးလေသည်။

ကျွန်တော်တို့သည် ထောင်အပြင်ဘက်သို့ ရောက်သောအခါ ညက ပေးထားသော ကတိအတိုင်း ထောင်မှူး၏ ပစ္စည်းများကို ထောင်အပေါ် ထပ်ရှိ သူ့အိမ်မှ ထောင်အပြင်ဘက် ဇော်တော်ကားရှိရာသို့ သယ်ချရလေသည်။

ဤသူလည်း အတော် လောဘကြီးဟန်ရှိသည်။ အဘယ့်ကြောင့် ဆိုသော် ဤသို့ သုတ်သီးသုတ်ပျာ ထွက်ရသည့် အချိန်အခါကြီး၌ပင်လျှင် ရေနံဆီပုံးများ ပန်ကန်ပြားများမှ စ၍ အိုး ခွက် အစ် တောင်း ဘုစုခရုပါ မကျန် တစ်အိမ်ထောင်လုံးကို သယ်နေသောကြောင့် ဖြစ်သည်။

သူလောဘကြီးသည်ကား သူ့အတွက် ကောင်းပါ၏။ သို့ရာတွင် သခင်စိုးမှာ ကျွန်တော်တို့ လူစုထဲတွင် အားအကြီးဆုံး ဖြစ်၍ အလေးဆုံး ပစ္စည်းများကို ရွေးပြီးသယ်ရလေရာ ဖတ်ဖတ်မောလျက်ရှိလေသည်။

သယ်ချရုံနှင့် မပြီးသေး။ သူ့မော်တော်ကား ပျက်နေ၍ ထောင်ဝမှ မြို့ပြင်သို့ တွန်းပေးရဦးမည် ဖြစ်၏။

ကျွန်တော်တို့အထဲမှ လူငယ်တစ်စုသည် ထောင်မှူးကြီးကို ဒေါသဖြစ်လာ၍ သူ့ရေနံဆီပုံးများ၊ ပန်းကန်သေတ္တာများကို သူ့ အလစ်တွင် ဝှက်ထားကြလေသည်။

သူမိသွားသောအခါတွင် ရှူးရှူးရှားရှားနှင့် စိတ်ဆိုးနေသဖြင့် ကလေးဆိုးကြီးကို ဝိုင်း၍ ချော့ရသည်။

သို့နှင့်ပင် မြို့ပြင်သို့ရောက်သည့်တိုင်အောင် တစ်မိုင်ကျော်ကျော်မျှ ရှိသော ခရီးကို ကျွန်တော်တို့လူစုသည် ကားတွန်း၍ ပို့ခဲ့ရသေး၏။

ထောင်မှ မြို့ပြင်သို့ထွက်ရန် ဖြတ်လမ်းနှင့် မော်တော်ကားလမ်းဟူ၍ လမ်း နှစ်လမ်း ရှိသည်။ ဖြတ်လမ်းသည် မော်တော်ကား လမ်းထက် တစ်ဆလောက် ပို၍နီးသည်။

ကျွန်တော်တို့သည် မြို့ထောင့်နားသို့ ရောက်ခါနီးတွင် ဖြတ်လမ်းမှ လျှောက်လာသော တောင်ဝှေးဆရာ လူမမာသည် ချည့်နဲ့ချည့်နဲ့နှင့် လျှောက်နေသည်ကို မြင်ရသောအခါ မော်တော်ကားတွန်းရ၍ မောနေသော အမောများသည် ပြေ၍သွားလေသည်။



# အခန်း ၅
# ဆက်လိုက်ရန် ကြိုးစားပုံ

သခင်စိုး၊ သခင်ကျော်စိန်၊ သခင်မြသွင်နှင့် ကျွန်တော်တို့ လေးဦးသည် ကျွန်တော်တို့၏ အဖော်များကို မန္တလေးနှင့် ငါးမိုင်ကွာ ရွာကလေး တစ်ရွာ၌ ထားခဲ့ကြပြီးလျှင် မင်းကွန်းဘက်သို့ ကူးကြသည်။

ရည်ရွယ်ချက်က အခြားမဟုတ်။ မင်းကွန်းဘက်၌ ဒေါက်တာ ဆက် ရှိသည်ဟု သတင်းကြား၍ သူ့ထံမှ အကူအညီရလျှင် မိုင်ခြောက်ဆယ် ကျော် ဝေးသော ရွှေဘိုရှိ ဦးဘချိုထံသို့ သွားရမည့် ဒုက္ခမှ လွတ်ငြိမ်းမည် ဟူသော ရည်ရွယ်ချက်ပင် ဖြစ်လေသည်။

ကျွန်တော်တို့ လှေဆိုက်သော မြစ်ဆိပ်နှင့် ဒေါက်တာဆက်တို့ နေသော အရပ်သည် အတော်အလှမ်းဝေးသေးသည်။

မန္တလေးဘက်ကမ်း၌ ကျွန်တော်တို့ရှိစဉ်က မင်းကွန်းဘက်တွင် အင်္ဂလိပ်စစ်တပ်များ ရှိသေးသည်။ ၎င်းပြင် ဗမာအစိုးရ အရာရှိများလည်း ရှိသေးသည်ဟူသော သတင်းကို ရရှိထားသည်။

ထိုကြောင့် ဒေါက်တာဆက်နှင့် မတွေ့ရဘဲ အင်္ဂလိပ်စစ်တပ်က ကျွန်တော်တို့အား ထပ်၍ဖမ်းမည်ကို ကျွန်တော်တို့လည်း အလွန်လန့် လျက် ရှိလေသည်။

ဤမျှ ခဲခဲယဉ်းယဉ်းနှင့် ထွက်လာပြီးသည့်နောက်မှ ဘာမျှ မလုပ်ရသေးဘဲ ထပ်၍ အဖမ်းမခံချင်ကြပေ။

ထပ်၍ ဖမ်းမိလျှင် အိန္ဒိယသို့ ခေါ်မသွားဘဲ သူတို့စစ်တပ်ရှိရာသို့ စုံးစမ်းရန်လာသော ဂျပန်သူလျှိုတွေဟု အထင်မှားစရာ လမ်းတွေလည်း အများကြီးရှိ၏။

ဤသို့ ထိတ်ထိတ်လန့်လန့်နှင့် လျှောက်လာကြရင်း ခပ်လှမ်းလှမ်းတွင် လူ သုံး လေး ယောက်သည် ကျွန်တော်တို့အား ခပ်စိမ်းစိမ်း စိုက်ကြည့်နေသည်ကို တွေ့ရ၏။

ထိတ်လန့်နေ၍လားမသိ၊ ဤလူများကို မြင်သည်နှင့် တစ်ပြိုင်နက် ကျွန်တော်တို့ လေးဦးစလုံးက ထိုလူများကို ပုလိပ်တွေဟူ၍ ဆုံးဖြတ်ချက်ချကြလေသည်။

ထိုအချိန်တွင် ကျွန်တော်တို့ လေးဦးစလုံး မည်မျှ လန့်နေကြသနည်းဆိုသော် 'ဘယ်သွားကြမလို့လဲ' ဟု ထိုသူတို့က လှမ်းမေးသည်ကိုပင် ရှေ့ဆုံးက လျှောက်လာသော ကျွန်တော်သည် ဘာပြန်ဖြေရမှန်းမသိဘဲ 'မသိဘူး၊ မသိဘူး၊ နောက်မှာမေး' ဟုသာ ဖြေလိုက်ပြီး ရှေ့သာ အတွင်လျှောက်သွားသည်။

ကျွန်တော့်နောက်က သခင်စိုး၊ သခင်ကျော်စိန် တို့ကလည်း ထိုနည်းအတိုင်းပင် 'မသိဘူး၊ မသိဘူး၊ နောက်မှာမေး' ဟူ၍ ဖြေကြသည်။ သခင်မြသွင် တစ်ဦးတည်းကသာ ခပ်အေးအေး ဖြေနိုင်ပေတော့သည်။

ဤမေးခွန်းမျိုးကို နေ့နှင့်အမျှ ဖြေခဲ့ရဖူးပြီး ဘာမျှ ခက်ခဲစရာမရှိ။ သို့ရာတွင် ထိုနေ့က အကြောက်လွန်နေကြ၍ အရပ်သား ရိုးရိုးကိုပင် ပုလိပ်ထင်ပြီး ကပေါက်တိကပေါက်ချာ ဖြေခဲ့ကြလေသည်။

တည်းခိုရန် ဘုန်းကြီးကျောင်း တစ်ကျောင်းသို့ ရောက်မှ ‘အင်း လူဆိုးဓားပြတွေကို ပုလိပ်တွေမိတယ်ဆိုတာလဲ သူ့ဟာနဲ့ သူ အကြောက် လွန်ပြီး မိတာပဲ ထင်ပါရဲ့’ ဟု ပြောပြီး ကျွန်တော်တို့ ရယ်ရသေးသည်။

သခင်စိုး၊ သခင်မြသွင်နှင့် သခင်ကျော်စိန်တို့လည်း ကျွန်တော့်ကို ဘုန်းကြီးကျောင်းမှာထားခဲ့ပြီး ဒေါက်တာဆက် ရှိရာသို့ သွားကြသည်။

ဒေါက်တာဆက်နှင့် သိကျွမ်းသော အင်္ဂလိပ်အရေးပိုင်တစ်ဦးလည်း စစ်ကိုင်းမှ ထွက်ခွာသွားပြီဖြစ်၍ သူလည်း သခင်စိုးတို့လိုသော အကူ အညီကို မပေးနိုင်ချေ။

ထို့ကြောင့် ဦးဘချိုရှိရာ ရွှေဘိုသို့လိုက်ရန် မန္တလေးဘက်သို့ ပြန်ကူး ခဲ့ရလေသည်။

ကျွန်တော်တို့၏ အဖော်များကို ထားပစ်ခဲ့သောရွာသို့ ရောက်သော အခါ ထိုရွာနှင့်တကွ အနီးအနားရှိ ရွာ သုံးလေးရွာမှ ကာလသား အပျို လူပျို အဘိုကြီးအို၊ အမယ်ကြီးအို အစရှိသည်တို့သည် တလှုပ်လှုပ် တရွရွ နှင့် ဖြစ်လျက်ရှိကြသည်ကို တွေ့ရ၏။

တချို့လက်ထဲတွင် ငှက်ပျောသီး ဖရဲသီး အစရှိသော အသီးအနှံ များကို ကိုင်ထားကြသည်။

အချို့ကလည်း ဆွမ်းအုပ်များကို ရွက်လျက်ရှိကြသည်။ မကြာမြင့်မီ ကိုယ်တော် သုံး လေးပါး ပေါက်လာ၍ သူတို့၏ အစီအစဉ်အရ ရွာသူ ရွာသားများသည် နှစ်ယောက် တစ်ဖွဲ့ စီတန်းကြပြီးလျှင် မိန်းမခပ်ကြီးကြီး နှစ်ဦးက စီတန်းသူများအား သပြေပန်းခက်များကို ဝေငှပေးလေသည်။

အမယ်ကြီး သုံး လေးဦးမှာ ကျွန်တွင်းမှ လွတ်ကင်းရတော့မည် ဟူသော ယုံကြည်ချက်ဖြင့် ပါးစပ်ကလည်း အသံ တုန်တုန်ယင်ယင်နှင့်

ရွှေးသီချင်းကြီးများကိုဆို၊ မျက်ရည်ပေါက်များကလည်း တတွေတွေ စီးဆင်းပြီး ပဝါများကို ရင်စည်းလျက် ကွေးနေအောင် ကကြသည်။

'အောင်ပါလေ သပြေပန်းနဲ့ ရေချမ်းကိုလောင်း၊ အောင်ပါလေ သပြေပန်းနဲ့ ရေချမ်းကိုလောင်း' ဟူသော သီချင်းသံကြီးမှာလည်း ဗမာတွေ လွတ်လပ်တော့မည် အထင်နှင့် စိတ်တက်ကြွနေကြသော ရင်တွင်းတို့မှ ထွက်လာသော အသံကြီးဖြစ်ရကား ပတ်ဝန်းကျင်တစ်ခုလုံး တစ်ခဲနက်မျှ ဖြစ်သွားလေ၏။

ဘေးက ကြားရသူများပင်လျှင် ကြက်သီးမွေးညှင်းများ ထလာလေသည်။

ထိုသူများသည်ကား အခြားမဟုတ် 'ဂျပန်တွေက ဗမာတွေကို သိပ်ချစ်တာပဲ၊ ဗမာတွေ့ရင် 'တို့ဗမာ တို့ဗမာနဲ့ နှုတ်ဆက်တယ်'၊ ' ဂျပန်တွေဟာ သူတို့ အသေခံပြီး ဗမာတွေကို လွတ်လပ်ရေးပေးမှာ'၊ 'မြင်းကွန်းမင်းသားကြီးရဲ့ သားတော်တစ်ပါး ဂျပန်တွေ အပေါ်မှာ ဗိုလ်လုပ်ပြီး ပါလာတယ်' အစရှိသည့် တစ်စိတ်ကို တစ်အိတ်ဖြစ်အောင် ပြောတတ်သော ကောလာဟလ သတင်းများ။

'ဗမာပြည်သည် ဗမာများအဖို့ဖြစ်သည်' ဟူသော ဂျပန်ရေဒီယိုမှ လွှင့်သည့် အသံများနှင့် လေယာဉ်ပျံပေါ်မှ ချပေးသည့် စာရွက်စာတမ်းများတို့ကို အယုံကြီး ယုံကြည်လျက် မဟာမိတ် ဂျပန်များကို ခရီးဦးကြိုဆိုရန် သွားကြမည့်သူများပင် ဖြစ်လေသည်။

အချိန်သည်ကား နေ့လယ် ၁၁ နာရီလောက်ရှိ၍ မန္တလေး နေမှာ ခြစ်ခြစ်တောက်ပူလျက်ရှိလေသည်။ သို့သော်လည်း မဟာမိတ် ဂျပန်များကို တွေ့ရဇောနှင့် ထိုသူများသည် ပူမှန်းပင် မသိနိုင်ရှာတော့ပေ။

ညနေ လေးနာရီ အချိန်လောက်တွင် ရွာသူရွာသားများသည် နံနက်ကကဲ့သို့ စီတန်း၍ မဟုတ်တော့ဘဲ၊ သုံးယောက် တစ်တွဲစီ၊ လေးယောက် တစ်တွဲစီ ခြေလေးလေးနှင့် လျှောက်လာကြသည်ကို တွေ့ရသည်။

သူတို့၏ မျက်နှာများမှာလည်း မနက်ကကဲ့သို့ ရွှင်လန်းတက်ကြွခြင်း မရှိ။ ရွာတွင်နေရစ်ခဲ့သော သူများနှင့်ပင် မျက်နှာချင်း မဆိုင်ချင်သလိုလို ဖြစ်နေကြလေသည်။

ကျွန်တော်တို့အနီးသို့ ရောက်လာသော လူတစ်စုအား အကျိုးအကြောင်းကို စုံစမ်းကြည့်ရာ ၎င်းတို့အထဲမှ ခပ်နောက်နောက် လူတစ်ယောက်က ' ဆရာနှယ် မပြောပါနဲ့တော့၊ ကျွန်တော်တို့ ဆွမ်းအုပ်တွေ သွားပို့တာနဲ့ ဂျပန်စစ်ဗိုလ်ကြီးက ကျေးဇူးတင်လွန်းလို့ ထင်ပါရဲ့၊ သူ ဘောင်းဘီအိတ်ထဲကို လက်နှိုက်ထည့်ပြီး ကျွန်တော်တို့ကို ပါးချလိုက်တာ ဖြောင် ဖြောင်နဲ့ နေတာပဲ' ဟု ပြောရာ ဝါးခနဲ ရယ်ကြလေ၏။

'အမ်မာ ဒီလို မတရားမပြောပါနဲ့ကွယ်၊ ရိုက်ပြီးတော့မှ ဆရာနှယ် တုံးတွေ အရှေ့ခိုင်း ရေတွေ အဆွဲခိုင်းနဲ့ ရှေ့လိုက် ဆွဲလိုက်ကြရတာ ခါးကို ချည့်သွားတာပဲ' ဟု နောက်တစ်ယောက်က ပြောလိုက်ရာ ဝါးခနဲ ရယ်ကြပြန်လေသည်။

'ဒါကတော့ကွယ် ခိုင်းစရာရှိ ခိုင်းမှာပေါ့၊ အဲဒီ ခိုင်းပြီးတော့မှ ကျေးဇူးတင်လွန်းလို့ထင်ပါရဲ့ ဆရာရယ်၊ ဒီက ထမင်းတွေ ဟင်းတွေထည့်သွားတဲ့ ဆွမ်းအုပ်တွေကိုပါ တစ်ခါတည်း ယူထားလိုက်တာပါပဲ' ဟု ထပ်၍ သော လိုက်ရာ အားလုံး ဝိုင်း၍ ရယ်ကြပြန်လေသည်။

ဘာပဲပြောပြော စိတ်ညစ်နေရသည့်အထဲတွင် ရယ်စရာကို ကြံဖန် ရှာဖွေပြီး ရယ်နိုင်ကြသော ဗမာတွေကို ကျွန်တော်လည်း ဝမ်းထဲက ကျိတ်၍ ချီးမွမ်းမိလေသည်။

ထိုအချိန်မှစ၍ ဂျပန်တွေ ကြမ်းတယ်ဆိုသော သတင်းမှာ ရွာနီးချုပ်စပ် တစ်ဝိုက်တွင် တောမီးကဲ့သို့ ပြန့်သွားလေ၏။

ကျွန်တော်တို့ တည်းခိုနေသော ရွာကလေးသို့ တိုင်းချစ်ကိုသိန်းဖေတို့ လူစု ရောက်လာကြသည်။

တိုင်းချစ် ကိုသိန်းဖေသည် ကျွန်တော်တို့ မန္တလေးထောင်တွင်းမှာ ရှိစဉ်ကတည်းက အပြင်မှနေ၍ ကျွန်တော်တို့အား များစွာ အကူအညီ ပေးခဲ့သူတစ်ဦး ဖြစ်သည်။

ထိုသူအားဖြင့် နိုင်ငံရေးအခြေအနေ အစုံအလင်ကို ထောင်တွင်း၌ ကျွန်တော်တို့ ကောင်းစွာသိရ၏။ ထိုသူနှင့်အတူတူ ကျွန်တော်တို့သည် ကံပိုင်ရွာသို့ ပြောင်းရွှေ့ခဲ့ကြ၏။

ထိုကံပိုင်ရွာတွင် သိန်းဖေနှင့် ကျော်ငြိမ်းတို့ကို ကျွန်တော်တို့ တွေ့ရ၏။

ထိုအချိန်တွင် သိန်းဖေသည် ဂျပန်တော်လှန်ရေးလုပ်ငန်းကို စ၍ပင် ထားလေပြီ။ သူရေးပြီး လက်နှိပ်စက်နှင့်ရိုက်၍ ဝေထားသော စာတမ်း တစ်စောင်ကို ကျွန်တော်တို့အား ပြလေသည်။

ထို့နေညအဖို့ အနားယူကြပြီး နောက်တစ်နေ့ နေ့လယ်အချိန်တွင် ကံပိုင်ရွာအပြင်ဘက်ရှိ ရေတွင်းတစ်တွင်းတွင် သခင်စိုး၊ ကျော်ငြိမ်း၊ သိန်းဖေ၊ သခင်မြသွင်၊ သခင်ကျော်စိန်နှင့် ကျွန်တော်တို့ စည်းဝေးကြပြီး နောက်တစ်နေ့တွင် သခင်စိုး၊ ကျော်ငြိမ်း၊ သခင်ကျော်စိန်၊ သခင်မြသွင်နှင့် သိန်းဖေတို့သည် မော်တော်ကားကလေးတစ်စီးဖြင့် ဦးဘချိုရှိရာ ရွှေဘိုသို့ ကံပိုင်ရွာမှ ထွက်ခွာသွားကြလေ၏။



## အခန်း ၆
## ဗိုလ်မိုးကြိုးနှင့် တွေ့သောအခါ

ကံပိုင်ရွာတွင် လေး ငါး ရက်မျှ နားနေပြီးနောက် ကျွန်တော်လည်း ရန်ကုန်သို့ ဆင်းလာခဲ့လေ၏။

ထိုအချိန်တွင် ရန်ကုန်၌ သခင်ထွန်းအုပ်ကကြီးမှူး၍ ဗမာ ခေါင်းဆောင်တစ်စုသည် ယာယီအစိုးရဖွဲ့စည်းရန် စိုင်းပြင်းလျက် ရှိကြသည်။

ရှေးကဝိပါက် ခုနစ်ရက်၊ ခု ကာလဝိပါက် နောက်ပိုးတက် ဟူသောစကားသည် ကျွန်တော်တို့အဖို့ အတော်မှန်နေသည်။

အဘယ့်ကြောင့်ဆိုသော် ရှေ့အခါက အင်္ဂလိပ်အလိုတော်ရိတွေဟု ကျွန်တော်တို့လူစုက ပြင်းပြင်းထန်ထန် စွပ်စွဲခဲ့သော လူများနေထိုင်ရာ ရွှေတောင်ကြားအရပ်တွင် ကျွန်တော်တို့လူစု တစ်စုတစ်ဝေးကြီး ရောက်လျက်ရှိသောကြောင့် ဖြစ်သည်။

ကျွန်တော်လည်း ရွှေတောင်ကြားရပ်ကွက်ရှိ ဗိုလ်လက်ျာအိမ်တွင် ခေတ္တ တည်းခိုနေလေသည်။ ဗိုလ်လက်ျာကား အထက်သို့ တက်သွားသဖြင့် အိမ်မှာ မရှိချေ။

ရောက်သည့်ညဉ့်ပင် သခင်ချစ်နှင့်တွေ့ဆုံပြီး နိုင်ငံရေးအခြေအနေကို စုံစမ်းကြည့်ရာ

သခင်ချစ်။ 'ဂျပန်တွေတော့ လိမ်တာ အမှန်ပဲ၊ ဗမာပြည်ထဲ မရောက်ခင်တုန်းကတော့ ဗမာပြည်ထဲကို ဝင်လျှင် ဝင်ချင်း လွတ်လပ်ရေး ကြေညာမယ်လို့ ကတိပေးခဲ့တယ်၊ ထားဝယ်ကိုရောက်တော့ မော်လမြိုင် ရောက်ရင် ကြေညာမယ်လို့ ပြောတယ်၊ မော်လမြိုင်ရောက်ပြီးတော့ ရန်ကုန် ရောက်ရင် ကြေညာမယ်လို့ ပြောတယ်၊ ရန်ကုန်ရောက်တော့ လွတ်လပ်ရေး ဆိုတဲ့ အသံတောင် ပျောက်သွားပြီ၊ ကတိတွေ အမျိုးမျိုးပေးပြီး တစ်ခုမှ မတည်ဘူး၊ ကျွန်တော်တို့ လူစုတောင် အနေရ အတော်ကျပ်နေပြီ၊ ကင်ပေတိုင်က နေ့ဆွဲမလား ညဆွဲမလားလို့ တထိတ်ထိတ်နဲ့ နေရတယ်'

ကျွန်တော်။ 'ကင်ပေတိုင်ဆိုတာ ဘာလဲ'

သခင်ချစ်။ 'ကင်ပေတိုင်ဆိုတာ စစ်ပုလိပ်ပေါ့၊ ဟာ အင်မတန်ဆိုးတဲ့ အကောင်တွေပဲ၊ ဘယ်သူကဖြစ်ဖြစ် သူတို့ကိုသွားတိုင်ရင် လိုက်ဖမ်းတာပဲ၊ ဖမ်းပြီးတာနဲ့ မသက်သာဘူးသာ အောက်မေ့ပေတော့၊ လက်နောက်ပြန် တုတ်ပြီး ထုတ်မှာဆွဲ၊ ခြေထောက်ကို ကြိုးနဲ့ချည်ပြီး ဇောက်ထိုးဆွဲ၊ ဘေးကို သံတုတ်နဲ့ရိုက်၊ ပါးစပ်ထဲကနေ ရေတွေသွင်း၊ ဗိုက်ပူလာတော့ အပေါ်က တက်ခုန်'

ကျွန်တော်။ 'ဟင်'

သခင်ချစ်၊ 'ဒါဘာဟုတ်သေးသလဲ၊ ကျင်စက်နဲ့ ဝှေးစိကို ချည်ပြီးလှဲ့'

ကျွန်တော်။ 'အို'

သခင်ချစ်။ 'ရေနွေး ပွက်ပွက်ဆူနေတာနဲ့ ပက်၊ လက်သည်းခွံ ခွာခွာ ပြီးတော့'

ကျွန်တော်။ 'ဘယ့်နှယ်လဲ၊ လူတွေကို တိရစ္ဆာန်တွေ ညှဉ်းသလို ညှဉ်းနေလို့ ဖြစ်ပါ့မလားဗျာ'

သခင်ချစ်။ 'သခင်နုလဲ နောက်ကို ကိုယ်တိုင် တွေ့ရ ကြားရပါလိမ့်မယ်ဗျာ'

ကျွန်တော်လည်း ထိုစကားကို ကြားရသောအခါ ကျောစိမ့်၍ သွားလေသည်။

သခင်ချစ်။ 'အဲ့ဒီလို နှိပ်စက်ပြီးမှ အပြစ်မရှိရင်လဲ ကောင်းပြီ သွားတော့ဆိုပြီး ပြန်လွှတ်လိုက်တာပဲ၊ အင်မတန် ညှာတာတတ်တဲ့ ကင်ပေနဲ့တွေ့ရင် ပြန်လွှတ်ခါနီး ဝမ်းနည်းပါတယ် ဆိုတာလောက်တော့ လောကွတ်စကားကလေး ပြောလိုက်ပါသေးရဲ့'

ကျွန်တော်။ 'ကျွန်တော်တို့ လူစုတွေထဲကကော၊ ဒီကင်ပေတိုင် ဆိုတာက ဖမ်းပြီလား'

သခင်ချစ်။ 'ကျွန်တော် ခုတင်က ပြောပကော၊ ကျွန်တော်တို့တောင်မှ နေ့ဆွဲမလား ညဆွဲမလားနဲ့ တထိတ်ထိတ်နဲ့ နေရတယ်ဆိုမှပဲ'

ကျွန်တော်။ 'ဩော်'

သခင်ချစ်။ 'တစ်ခု သိပ်ဆိုးနေတာက ကျွန်တော်တို့ ဗမာတွေပဲ၊ သိပ်ပြီး အသုံးမကျတာဘဲဗျာ၊ လူတစ်ယောက်ကို အမြင်ကပ်ရင် ဒီကင်ပေတိုင်ဆီကို ပြေးတာပဲ၊ (ရယ်၍) သခင်နုမှာ မုန်းတဲ့လူရှိသလား၊ ရှိရင် ကင်ပေတိုင်ဆီကိုသွားပြီး အဲ့ဒီလူဟာ အင်တီဂျက်ပနီးစ် (ဂျပန်ဆန့်ကျင်ဘက် ဂိုဏ်းသား) လို့ပြော၊ ဒါမှမဟုတ်ရင်လဲ ကွန်မြူနစ်လို့ပြော၊ အဲဒီနှစ်ခု တစ်ခုခုကိုပြော ကိစ္စချောတာပဲ'

ကျွန်တော်။ 'လူတွေက ဒီလောက်တောင်ပဲ အသုံးမကျ ဖြစ်နေကြသလား'

သခင်ချစ်။ 'သခင်နု ကိုယ်တိုင် တွေ့ပါလိမ့်မယ်ဗျာ၊ ဒီလို ကတုံးကတိုက်လုပ်နေတဲ့ လူတွေဟာ ကင်ပေတိုင်ရုံးမှာ တစ်နေ့ တစ်နေ့ ခြေချင်းကို

လိမ်နေတာပါပဲ၊ အောက်တန်းစားသမားတွေ ဆိုတာတော့ ထားလိုက်ပါဦး၊ အထက်တန်းသမားဆိုတဲ့ လူစားတွေပါ ခြေချင်းလိမ်နေတာက သာဆိုးတယ်'

ကျွန်တော်။ 'ဒီလိုဆိုရင် ဗမာတွေ နာမှာပေါ့၊ ဗမာတွေ သိပ်အသုံး မကျတာဘဲ' ဟု ဒေါသအလျှောက် လွှတ်ခနဲသာ ပြောလိုက်ရသည်။ ကျွန်နိုင်ငံသားဟူသရွေ့ တရုတ်ဖြစ်စေ၊ ကုလားဖြစ်စေ၊ ဗမာဖြစ်စေ မည်သူပင်ဖြစ်စေကာမူ ဤသို့ စိတ်ယုတ်မာမျိုး ရှိကြမည်မှာ မလွဲပေ။

အချင်းချင်း တို့မီးရှို့မီးလုပ်ခြင်း၊ လူဆိုသည့် ဂုဏ်သိက္ခာကလေး ကိုမှ မငဲ့နိုင်ဘဲ နိုင်ငံခြားသားများအား မျက်နှာလို မျက်နှာရ လုပ်ခြင်း၊ အမေကျော် ဒွေးတော်လွမ်းခြင်း အစရှိသည့် စိတ်ယုတ် စိတ်ညစ် စိတ်ကြမ်း စိတ်သရမ်းတို့မှာ ကျွန်ဖြစ်နေရသော လူမျိုးတိုင်း ခံစားနေရသော ဝေဒနာ ဆိုးကြီးပင် ဖြစ်လေ၏။

နောက်တစ်နေ့တွင် ရွှေတောင်ကြားထဲရှိ ဝန်ကြီးဟောင်း ဦးလှဖေ၏ အိမ်သို့ အစည်းအဝေးတက်ရန် ဖိတ်ခေါ်သဖြင့် ကျွန်တော် ရောက်သွားသည်။

ထိုအစည်းအဝေးပွဲတွင် ဦးကျော်မြင့်၊ ဦးထွန်းမောင် (နယူးဘားမား) သခင်မြ၊ သခင်ချစ်၊ ဦးလှဖေ၊ သခင်ဘစိန်၊ ဗိုလ်စကြာ၊ ဦးဘဝင်းနှင့် အခြား အမည်မေ့နေသောသူများ တက်ရောက်ကြသည်။

ဆွေးနွေးရန်အချက်မှာကား ဂျပန်စစ်တပ်က ခွင့်ပြုသော အုပ်ချုပ် ရေးကို ဖွဲ့မည် မဖွဲ့မည် ဟူသော အချက်ပင်ဖြစ်လေသည်။

ဗမာခေါင်းဆောင်တစ်စုက လွတ်လပ်ရေး ကြေညာ၍ ဗမာနိုင်ငံကို သမ္မတနိုင်ငံအဖြစ် ထူးထောင်ရန် ကြိုးပမ်းခဲ့ကြ၏။

ဂျပန်စစ်တပ်က ခွင့်ပြုသည့် အုပ်ချုပ်ရေးမှာကား ငြိမ်းချမ်းရေးအဖွဲ့ သာသာမျှရှိသော (Preparatory Committee) ခေါ် စီစဉ်မှုကော်မတီသာ ဖြစ်၏။

သို့ဖြစ်သောကြောင့် အတောင်းနှင့် အပေးမှာ ကွာချင်တိုင်း ကွာခြားလျက်ရှိရာ ဤအစည်းအဝေးတွင် ခေါင်းဆောင်အချင်းချင်း သဘောကွဲလွဲလျက်ရှိသဖြင့် ဆုံးဖြတ်ချက် မရနိုင်သေးဘဲ ရက်ရွှေ့ဆိုင်းလိုက်ရလေသည်။

**ဗိုလ်မိုးကြိုး နဲ့ တွေ့ခြင်း**

ဤအစည်းအဝေးအပြီးတွင် မကြာမီကမှ ထောင်ကထွက်လာသော လူသစ်များဖြစ်ကြသည့် သခင်ဘစိန် နှင့် ကျွန်တော့်ကို ဗိုလ်မိုးကြိုးနှင့် တွေ့ဆုံရန် သခင်မြက ခေါ်သွားလေသည်။

ဗိုလ်မိုးကြိုး ဆိုသူ၏ ဂျပန်နာမည်မှာ ကာနယ်ဆူဇုကီး ဖြစ်သည်။ ထီးရိုးကို မိုးကြိုးပစ်မည် ဟူသော တပေါင်အရ မှည့်ခေါ်သည်ဟု စုံစမ်းသိရှိရသည်။

ကျွန်တော်တို့ မန္တလေးမှာ ရှိစဉ်အခါက ဗိုလ်မိုးကြိုး ဆိုသူမှာ မြင်းကွန်း မင်းသားကြီး၏ သားတော်ဖြစ်သည်၊ မင်းမျိုး မင်းနွယ် အစရှိသဖြင့် ကောလာဟလသတင်းများကို နားရှုအောင် ကြားခဲ့ရသေးသည်။

သို့ရာတွင် ယခု ကျွန်တော်တို့ မြင်ရသော ဗိုလ်မိုးကြိုးမှာ ဂျပန်မှ အစစ် ရေမရောသောဂျပန် ဖြစ်လေသည်။

ပုံပန်းသဏ္ဌာန်မှာကား ပုပုပြတ်ပြတ်၊ ပိန်ပိန်ပါးပါး နှုတ်ခမ်းမွေး ခပ်ရေးရေး ရှိသည်။ သူ့အသံမှာ အတော်မြည်သည်။ ခပ်ဖြည်းဖြည်း ပြောသည့်အခါ၌ပင် အော်ပြောသကဲ့သို့ ထင်ရ၏။

သူ့ကို မြင်လျှင်မြင်ချင်း အကဲခတ်ရသည်မှာ ဗမာများကို အတော်လိုလားသည့်သူတစ်ဦး ဖြစ်ဟန်ရှိသည်။

ဤအကဲခတ်ချက် လွဲလျှင်လည်း ဗိုလ်မိုးကြိုးသည် အတော်ပရိယာယ် အလုပ်ကောင်းသူတစ်ဦး ဖြစ်ရမည်။ ပထမ စ၍တွေ့သော အကြိမ်၌ပင်

'လွတ်လပ်ရေးအတွက် ဘာမှမပူပါနဲ့၊ လွတ်လပ်ရေးဆိုတာ သူများဆီက သွားပြီး တောင်းယူရတာမျိုး မဟုတ်ဘူး၊ ကိုယ့်ဟာကိုယ် ကြေညာရတာ၊ ဂျပန်က အခု လွတ်လပ်ရေး မပေးဘူးနော်၊ တို့ဟာတို့ တွံတေးလိုဆီကို သွားပြီး အတင်းကြေညာ၊ အစိုးရအဖွဲ့ကို အတင်းထောင်မယ်၊ ဘာခက်တာလဲ၊ သူတို့က ပစ်ရင် ပြန်ပစ်တာပေါ့' သူသော အဓိပ္ပာယ်ရှိသည့် စကားများကိုပင် ပြောလေသည်။

သခင်မြနှင့် ကျွန်တော်လည်း သခင်မြ၏အိမ်သို့ ပြန်ရောက်၍ နှစ်ယောက်တည်း ရှိသောအခါ တောင်မြောက်လေးပါးကို ကြည့်ပြီးနောက်

ကျွန်တော်။ 'ဘယ့်နှယ်လဲ သခင်မြ၊ ဒီဂျပန်ဟာ ဟုတ်မှ ဟုတ်ကဲ့လား'

သခင်မြ။ 'သူကတော့ ဘယ်သူနဲ့တွေ့တွေ့ ဒီလိုပဲ ပြောပြောနေတာပဲ'

ကျွန်တော်။ 'ကျွန်တော်တို့ သဘောကိုများ သိရအောင် နှိုက်နေတာလား'

သခင်မြ။ 'ကျွန်တော့်ဆီက စကားထွက်ဖို့တော့ သခင်နုလဲ အသိသားပဲ၊ မိုးကြိုး မပြောနဲ့ မိုးကြိုး ဘိုးအေတောင် မရပါဘူး'

နောက်သုံးရက်မျှအကြာတွင် ဗိုလ်မိုးကြိုးက ကျွန်တော့်ကို တွေ့ချင်သည်ဟု မှာသောကြောင့် သခင်မြနှင့် ကျွန်တော် ဗိုလ်မိုးကြိုးထံသို့ သွားကြရပြန်သည်။ ဟိုစကား ဒီစကား အနည်းငယ်မျှ ပြောပြီးသည်နောက်

ဗိုလ်မိုးကြိုး။ 'သခင်နုတို့ ရွှေတောင်ကြားထဲ ညတိုင်း အစည်းအဝေးလုပ်တယ်၊ အစည်းအဝေးလုပ်တဲ့ အိမ်ကိုလဲ ဗမာ့တပ်မတော်က စစ်သားတွေ ဝိုင်းထားလို့ အပြင်လူဆိုရင် ဘယ်သူမှမဝင်ရဘူး ဆိုပါလား'

ကျွန်တော်လည်း အတော်လန့်သွားသည်။ ဤသတင်းသည် မမှန်တစ်ဝက် မှန်တစ်ဝက် သတင်းမျိုးဖြစ်သည်။

ကျွန်တော် တည်းခိုနေသောအိမ်မှာ ဗိုလ်လက်ျာ၏အိမ် ဖြစ်သည်။ ထိုအခါက စစ်ဗိုလ်ကြီးများ၏ အိမ်တိုင်းတွင် ဗမာ့တပ်မတော်က စစ်သားများကို အစောင့်ချထားသည်။

ၚင်းပြင်လည်း နေ့ရော ညပါ ဆိုသလို သိဟောင်း ကျွမ်းဟောင်း မိတ်ဆွေသင်္ဂဟတို့သည် ကျွန်တော်ထံသို့ အလည်လာပြီး ဘာရယ်ဟု မည်မည်ရရမရှိဘဲ ရောက်တတ်ရာရာတို့ကို လျှောက်၍ပြောတတ်ကြသည်။

ထိုသို့ မိတ်ဆွေများ အလည်လာခြင်းနှင့် စစ်သားစောင့်ခြင်း ဟူသော အချက် နှစ်ချက်ကို အခြေခံပြီး ဂျပန်သူလျှိုတို့သည် ဂျပန်ထံသို့ ကျွန်တော်တို့တစ်တွေ ဂျပန် ပြန်ချရေး အစည်းအဝေးများ လုပ်နေသည်ဟု သတင်းပို့လိုက်ဟန်ရှိလေသည်။

ကျွန်တော်။ 'ကျွန်တော် ဗိုလ်လက်ျာအိမ်မှာ တည်းနေတယ်၊ စစ်ဗိုလ် အိမ်တိုင်းမှာ စစ်သားတွေကတော့ စောင့်နေကြတာပဲ၊ ပြီးတော့လဲ ကျွန်တော့် မိတ်ဆွေတွေဆိုတာ နေ့တိုင်းလိုလို ကျွန်တော်နဲ့ စကားပြောရအောင် လာနေကြတာပဲ၊ ကျွန်တော် မှတ်မိသလောက် အစည်းဝေးရယ်လို့ တစ်ခါမှ မလုပ်မိပါဘူး'

ဗိုလ်မိုးကြိုး။ 'ကိစ္စမရှိပါဘူး၊ ကျုပ်ရတဲ့ သတင်းကို သခင်နု သိရအောင် ပြောပြတာပါ'

သခင်ချစ် ပြောသွားသည့် 'သူလျှိုတွေ ခြေချင်းလိမ်နေတာကို သခင်နု ကိုယ်တိုင် သိပါလိမ့်မည်' ဆိုသော စကားများ၏ မှန်ကန်ပုံမှာ ကျွန်တော်၏ မျက်စိရှေ့တွင် တစိမ့်စိမ့် စ၍ ပေါ်လျက်ရှိလေသည်။

ကျွန်တော်။ (ရုတ်တရက် ကြံမိကြံရာကို ကြံပြီး) 'အင်္ဂလိပ်တွေ ထွက်ပြေးသွားတုန်းက သူတို့ရဲ့ သူလျှိုတွေကို ငွေတွေ အများကြီးပေးပြီး ထားခဲ့တယ်လို့ ကျွန်တော် သတင်းကြားရတယ်၊ ဒီလူတွေရဲ့ အလုပ်တစ်ခုက

ကျွန်တော်တို့ရဲ့ မိတ်ဆွေ ဂျပန်တွေနဲ့ ကျွန်တော်တို့နဲ့ အယုံအကြည်ပျက်ပြီး အလုပ်လုပ်မဖြစ်အောင် လုပ်ဖို့ပဲတဲ့၊ အဲဒီတော့ ကျွန်တော်တို့ အစည်းအဝေးတွေ ဘာတွေ လုပ်တယ်ဆိုပြီး တွေ့ကရာ သတင်းတွေပို့နေတာဟာ ကျွန်တော်တို့အချင်းချင်း အထင်မှားအောင် လုပ်နေတာများလားမှ မဆိုနိုင်ဘဲ'

ဤစကားကို အခြား ကြံမရ၍ ပြုန်းခနဲ ပြောမိခြင်း ဖြစ်သည်။ ပြောပြီးမှ မှားသွားမှန်း သိသည်။

အဘယ်ကြောင့်ဆိုသော် 'ဒီသတင်းကို ဘယ်က ရသလဲ၊ အဲ့ဒီလူကို ခေါ်ပေးရမယ်' ဟု ဆက်၍လာလျှင် အကျပ်တွေ့မည် ဖြစ်သောကြောင့်တည်း။ သို့ရာတွင် ကံကောင်းထောက်မ၍လားမသိ။

ဗိုလ်မိုးကြိုး။ 'အို၊ ဒီလိုလား၊ ဒီလို သူလျှိုမျိုးကို တွေ့ရင် ပြောပါ၊ ကျုပ်ကိုယ်တိုင် ဒီကောင်ကို ခေါင်းဖြတ်ပြီး သူ့ခေါင်းကို မြို့လယ်ခေါင်မှာ ဆွဲထားမယ်'

ကျွန်တော်။ 'ကောင်းပါပြီ'

ဗိုလ်မိုးကြိုး။ 'ဒါတွေထားလိုက်ပါလေ၊ သိပ်အရေးမကြီးပါဘူး၊ ဒီနေ့ ပြောချင်တာက ဒီလို၊ ဒေါက်တာဘမော် မန္တလေးမှာ ရောက်နေပြီ၊ ကျုပ်ဆီကို ဒေါက်တာဘမော် ခေါ်ပေးနိုင်မလား'

ကျွန်တော်။ 'ကြိုးစားကြည့်တာပေါ့'

ဗိုလ်မိုးကြိုး။ (အနည်းငယ်စဉ်းစားပြီးနောက်) 'နေပေစေလေ၊ ကျုပ်လဲ မန္တလေးကိုသွားဖို့ ကိစ္စရှိသေးတယ်၊ အဲဒီတော့ လေး ငါးရက် ကြာရင် သခင်နုလဲ မန္တလေးကို ရောက်အောင်လာပါ၊ မန္တလေးရောက်မှပဲ ကျုပ်တို့ နှစ်ယောက် အတူတူ ဒေါက်တာဘမော်နဲ့ တွေ့တာပေါ့'

သခင်မြ၏အိမ်သို့ ပြန်ရောက်သောအခါ

ကျွန်တော်။ 'ဘယ့်နှယ်လဲ သခင်မြ၊ သူလျှိုတွေရဲ့ လက်ချက်ကတယ်မြန်ပါလား'

သခင်မြ။ (ရယ်လျက်) 'အင်း မြန်တယ်၊ ဒါကြောင့်မို့ တိတ်တိတ်နေ ပြည်တန်တယ် ဆိုတဲ့အတိုင်း ကျွန်တော်တော့ ဘာမှ မပြောဘူး'

ကျွန်တော်။ 'မဟုတ်ဘူး၊ ပြောမိလို့ ပြောသလောက်ကို တိုင်မယ် ဆိုရင် ခံနိုင်တယ်၊ အခုတော့ ဘာမှလဲ မပြောရသေးဘဲနဲ့ ပြောတယ် ဆိုတော့ မလွန်လွန်းဘူးလား'

သခင်မြ။ 'သည်းခံပြီး အရေထူထူသာ ထားပေတော့'

ကျွန်တော်။ 'ဒါတွေတော့ ထားလိုက်ပါအုံးလေ၊ ဒေါက်တာဘမော်ကို အခေါ်ခိုင်းတာက ဘာသဘောလဲ'

သခင်မြ။ 'တွေ့ချင်တဲ့ သဘောပေါ့'

ကျွန်တော်။ 'မဟုတ်ပါဘူးလေ၊ သခင်ထွန်းအုပ်ကိုလဲ ခေါင်းဆောင် လို့ အသိအမှတ်ပြုပြီး အခွန်တွေဘာတွေ ကောက်ဖို့ကိုတောင် သူကိုယ်တိုင် လက်မှတ် ထိုးပေးထားတယ် မဟုတ်လား၊ အခုလဲ ဒေါက်တာဘမော်ကို အခေါ်ခိုင်းပြန်ပြီ၊ ဘယ့်နှယ်လုပ်တာလဲ'

သခင်မြ။ 'သခင်နုက ခုထက်ထိ သဘောမပေါက်သေးဘဲကိုး၊ ဂျပန် နိုင်ငံရေးက အဲ့ဒါပဲ၊ တပည့်မွေးပြီး သူတို့က အပေါ်က ဆရာလုပ်မှာပဲ'

နောက် ငါးရက်ခန့် ကြာသောအခါ ကျွန်တော်လည်း ချိန်းထားသည့် အတိုင်း အမရပူရရှိ ဗိုလ်လက်ျာတို့ စခန်းချနေသော စစ်ရုံးသို့ ရောက်နှင့် နေသည်။

ဗိုလ်မိုးကြိုးလည်း ည ခုနစ်နာရီလောက် စစ်ရုံးသို့ ပေါက်လာပြီး နောက်တစ်နေ့ နံနက် ရှစ်နာရီလောက်တွင် ဗိုလ်မိုးကြိုး ဗိုလ်လက်ျာနှင့် ကျွန်တော်တို့လည်း ဒေါက်တာဘမော်နှင့် တွေ့ရန် မန္တလေးသို့ ထွက်သွား ကြလေသည်။ ဗိုလ်မိုးကြိုး ဗိုလ်လက်ျာနှင့် ကျွန်တော်တို့ သုံးဦးသည် အိမ်အပေါ်ထပ်ရှိ ဧည့်ခန်းထဲတွင် သုံးမိနစ်ခန့် ထိုင်မိသောအခါမှ ယောဂီ

ရောင် သိုရင်းသဏ္ဍာန်ရှိသော အင်္ကျီနှင့် ယောဂီရောင် ဘောင်းဘီအပွ တို့ကို ဝတ်ဆင်လျက် ဒေါက်တာဘမော်သည် သူ့အခန်းထဲမှ ထွက်လာလေသည်။

ဗိုလ်မိုးကြိုးနှင့် ကျွန်တော်တို့လည်း ထိုင်ရာမှ ထကြသည်။

ဒေါက်တာဘမော်သည် ကျွန်တော်တို့အား ထိုင်ကြရန် ပြောပြီး သူကိုယ်တိုင် မထိုင်သေးဘဲ ပြတင်းပေါက်မှ အိမ်အောက်သို့ လှမ်း၍

'ဟေ့ ဝင်းတံခါးတွေ ပိတ်ထားလိုက်၊ ဘယ်သူမှ အိမ်ထဲကို မဝင်စေနဲ့' ဟု ဝင်းထဲတွင် မော်တော်ကားအပျက်တစ်စီးကို ဝိုင်း၍ တွန်းနေကြသော သူ့တပည့်များအား ခပ်ထန်ထန် အမိန့်ပေးလေသည်။

ကျွန်တော်လည်း ဝင်းတံခါးဆီသို့ လှမ်းကြည့်လိုက်ရာ ခေတ်ပျက်စဉ်က အလစ်သမားများ ဖျက်ယူသွား၍လားမသိ၊ ဝင်းခြံမှာ ပိတ်စရာ တံခါးမရှိ ဖြစ်နေသည်ကို တွေ့ရ၏။

ဂုဏ်ပြင်လည်း ထိုနေ့က ဗိုလ်မိုးကြိုးလာသော ကိစ္စမှာ လျှို့လျှို့ ဝှက်ဝှက် တိုင်ပင်ရန် ဘာမျှမရှိ။ မိတ်ဖြစ်ဆွေဖြစ် လာ၍ လည်ခြင်းပင် ဖြစ်သဖြင့် 'အိမ်ဝင်းထဲသို့ ဘယ်သူမှ မဝင်ပေစေနဲ့' ဟူသော အမိန့်ပေးခြင်းမှာ 'ဝင်းတံခါးတွေကို ပိတ်ထားလိုက်' ဟူသောအမိန့်နှင့် အဓိပ္ပာယ် အတူတူ ဖြစ်သည်ဟု ကျွန်တော် မှတ်ထားလိုက်မိ၏။

ဗိုလ်မိုးကြိုးလည်း သူ တတ်သမျှ မှတ်သမျှ အင်္ဂလိပ်စကားနှင့်

'ဒီစစ်ကြီးဟာ အရှေ့အာရှတိုက်သားတွေ အားလုံး ကောင်းစားဖို့ တိုက်ရသော စစ်ကြီးဖြစ်သည်'၊ 'အရှေ့အာရှတိုက်သားတွေ တစ်ယောက်နှင့် တစ်ယောက် ယုံယုံကြည်ကြည် ရှိရမည်၊ အရှေ့အာရှတိုက်သားတွေ ညီအစ်ကိုတွေ ဖြစ်ကြသည်'၊ 'ဗမာပြည်အတွက် လွတ်လပ်ရေးဟာ ဧကန်မုချ ရရမည်' အစရှိသည့် စကားတို့ကို လျှောက်၍ပြောလေသည်။

ဤသို့ ပြောနေစဉ် ဒေါက်တာဘမော်သည် ကောင်းစွာ နားထောင်သည်မရှိ။ ဆေးလိပ်မီးညှိလိုက် တခြားဘက်သို့ လှည့်ကြည့်လိုက် 'ပြောသာပြောပါ၊ ပြောသာ ပြောပါ' ဟု ပါးစပ်ကပြောပြီး အိမ်တွင်းသို့ အစေခံတစ်ဦးဦးအား လှမ်း၍ခေါ်လိုက်နှင့် လုပ်နေသဖြင့် ဗိုလ်မိုးကြိုးလည်း စကားပြောနေရာမှ မကြာခဏ အရှိန်ရပ်ရပ်ထားရသည်။

နှစ်ခါက သုံးခါ၊ သုံးခါက လေးခါ ငါးခါသို့ ရောက်လာသောအခါ ဗိုလ်မိုးကြိုးမျက်နှာကို အကဲခတ်ရသည်မှာ ခပ်အန်းအန်း ဖြစ်၍နေသည်ကို တွေ့ရ၏။

အရှိန်နှင့် ပြောခွင့်မရသောကြောင့် ဗိုလ်မိုးကြိုးလည်း ဝမ်းထဲ ရှိသမျှကို မပြောတော့ဘဲ အတိုရုံး၍ ရပ်လိုက်ပုံရ၏။

ဒေါက်တာဘမော်သည် အဘယ်ကြောင့် ဤကဲ့သို့ လုပ်ရသည်ကို ကျွန်တော်လည်း အတိအကျမပြောနိုင်။ ဆရာလုပ်နေသည် ထင်၍လား၊ တစ်ဖက်သား၏စကားထဲတွင် စိတ်မဝင်စား၍လား၊ သို့မဟုတ်လျှင်လည်း အကြံတစ်ခုခုတွင် စိတ်ဝင်စား အားကြီးနေ၍လား။

အလားတူ ကိစ္စမျိုးတစ်ခုကို သတိရ၍ ဖောက်ပြီးပြောလိုက်ရဦးမည်။ စစ်အုပ်ချုပ်ရေးအတွင်းက အလံပြဘုရားလမ်းရှိ တို့ဗမာဆင်းရဲသားအစည်းအရုံး ဌာနချုပ်သို့ အိန္ဒိယ ယာယီအစိုးရ၏ အတိုင်ပင်ခံအရာရှိ ရပ်စ် ဘီဟာဘို့စ် အလည်လာသည်။

ဘို့စ်လည်း အာဏာရှင် ဒေါက်တာဘမော်အား စကားပြောနေစဉ် အာဏာရှင်ကြီးသည် သူ့ ရှေ့တွင် ရှိသော သတင်းစာ တစ်စောင်ကို ကောက်၍ ဖတ်နေလေ၏။

ကျွန်တော်လည်း ကျွန်တော့်အနီးတွင်ရှိသော သခင်သန်းထွန်းကို လက်ကုတ်၍ 'သခင်သန်းထွန်း ဟိုမှာ လုပ်ပြန်ပြီ' ဟု ပြလိုက်ရသေး၏။

ဘို့စ်လည်း စကားပြောဖို့ ခေတ္တရပ်ထားရလေသည်။ နှစ်မိနစ်လောက်ကြာမှ ဘို့စ် စကားပြောနေသည်ကို သတိရသည့် ဟန်ဖြင့် အာဏာရှင်ကြီးသည် ဘို့စ်ဘက်သို့လှည့်၍ 'ပြောပါ ပြောပါ' ဟု ဆိုမှ ဘို့စ်လည်း ထပ်၍ ဆက်ရသည်။

ဗိုလ်မိုးကြိုးလည်း အားရအောင်မပြောရဘဲ စကားဖြတ်လိုက်ရပြီးသည့်နောက် ဟိုစကား သည်စကား လျှောက်၍ပြောနေစဉ် ဘီအိုင်အေအချို့က သူ့နောက်လိုက် ငယ်သားတို့အား နယ်တွင် ညှဉ်းဆဲပုံအကြောင်းနှင့်ပတ်သက်၍ ဒေါက်တာဘမော်က ဗိုလ်မိုးကြိုးအား တိုင်ကြားလေသည်။

မတ္တရာက ဗိုလ်ဘအုပ် ဆိုသူမှာ သူ့တပည့်များကို သတ်ပစ်ရန်လိုက်လံရှာဖွေနေကြောင်းနှင့် ယခုပင် တိုင်ချက်ရသည့် အကြောင်းကို ပြောလိုက်၏။

အမှုမှာ ဘာမျှမကြီးကျယ်။ ဤအမှုမျိုးကို ဗိုလ်မိုးကြိုးလို ဘီအိုင်အေ သေနာပတိချုပ်ကြီးတစ်ဦး မပြောထားနှင့်၊ သူ့အောက် ခြောက်ဆင့်လောက်ငယ်သော မေဂျာလိုစစ်ဗိုလ်မျိုးပင် ကိုယ်တိုင် တိုင်ရန်မလို။ ကက်ပတိန်လောက် လက်ဖတင်နင်လောက်နှင့်ပင် ကောင်းစွာပြီးနိုင်၏။

သို့သော်လည်း ဒေါက်တာဘမော်၏ရှေ့တွင် ဂိုက်ထုတ်ရန် အူယားနေသော ဗိုလ်မိုးကြိုးကလည်း ဝင်းတံခါးပိတ်လိုက်ရန် သူ့တပည့်များအား ဒေါပါပါနှင့် ဒေါက်တာဘမော်က အမိန့်ပေးသကဲ့သို့

'ဗိုလ်ဘအုပ်ကို ယနေ့ချက်ချင်း မင်းကိုယ်တိုင် လိုက်ပြီး ဖမ်းရမည်၊ ဖမ်းပြီး ရန်ကုန်ကို ပို့ရမည်၊ ရန်ကုန်ရောက်လျှင် ငါကိုယ်တိုင် စစ်မည်'

ဟု ဘီအိုင်အေတွင် မေဂျာ ဂျင်နရယ်ဖြစ်သော ဗိုလ်လကျာ်အား ဒေါပါပါနှင့် အမိန့်ပေးလိုက်လေ၏။



# အခန်း ၇
# ဗမာပြည် သေပြီ

ကျွန်တော်တို့ ရန်ကုန်သို့ ပြန်ရောက်သည်မှာ ၁၀ ရက်ခန့် ရှိလေပြီ။ တစ်နေ့သ၌ ဒေါက်တာဘမော်က ကျွန်တော်တို့အား မေမြို့တွင် တွေ့လို၍ နောက်တစ်နေ့တွင် ရန်ကုန်မှထွက်ရမည်ဟု အိမ်တော်ကြီး* မှ အကြောင်းကြားလေသည်။

နောက်တစ်နေ့တွင် ချိန်းထားသည့်အတိုင်း နံနက် ခြောက်နာရီခွဲအချိန်တွင် ကျွန်တော်လည်း အိမ်တော်ကြီးသို့ သွားလေသည်။

အိမ်တော်ကြီးတွင် ဦးလှဖေ၊ ဗန္ဓုလဦးစိန်နှင့် သခင်ဗစိန်တို့ကို တွေ့ရသည်။ ခရီးထွက်ရန် မော်တော်ကားများကို စီစဉ်နေစဉ် ကျွန်တော်တို့ လေးဦးလည်း စစ်အုပ်ချုပ်ရေးမှူး ကာနယ်နဂါတာနှင့် စကားထိုင်ပြောနေကြ၏။

ကျွန်တော်တို့ ဘာကိစ္စနှင့် မေမြို့သို့ သွားရမည်ကို ကာနယ်နဂါတာလည်း မပြောပြနိုင်။ သူ့ထံမှ သိရသည်မှာ ထိုနေ့နံနက်၌ပင် သခင်

---

* အိမ်တော်ကြီးဆိုသည်မှာ ယခင်က အင်္ဂလိပ်ဘုရင်ခံနေသောအိမ် ဖြစ်၍ ယခုခေတ်တွင် အိမ်တော်ကြီးဟု ခေါ်ကြသည်။ ၎င်းနေရာတွင် ဂျပန်စစ်အုပ်ချုပ်ရေးအဖွဲ့ချုပ် ရုံးစိုက်သည်။

ကိုယ်တော်မှိုင်း၊ သခင်မြနှင့် သခင်ထွန်းအုပ်တို့မှာ လေယာဉ်ပျံနှင့် မေမြို့သို့ သွားကြမည့်အကြောင်းပင် ဖြစ်၏။

နောက်တစ်နေ့နံနက် မေမြို့သို့ရောက်၍ ဒေါက်တာဘမော်နှင့် တွေ့ရမှ Preparatory Committee ခေါ် စီစဉ်ရေး ကော်မီတီအဖွဲ့ ဖွဲ့ရန် အတွက် ကျွန်တော်တို့ကို ခေါ်ယူခြင်းဖြစ်ကြောင်းကို သိရှိရ၏။ ဤစကား ကို ကြားလိုက်သောအခါ ကျွန်တော့်မှာ ခေါင်းကြီးသွားလေသည်။

အကြောင်းကား ဤသို့တည်း။ ကောလိပ်ကျောင်းသို့ ရောက်စ ကတည်းက ကျွန်တော် စာအရေးအသားတွင် အတော် ဝါသနာကြီးခဲ့၏။ အခြားစာများထက် ပြဇာတ်များထဲတွင် ပို၍ ဝါသနာကြီးခဲ့၏။ ကောင်း သည် မကောင်းသည်မှာ ပဓာနမဟုတ်။ ရောဂါများစွဲသလို မရေးရလျှင် မနေနိုင်အောင် ဖြစ်၏။

ဟိုစဉ်အခါက ကိုယ့်ဟာကိုယ် အထင်ကြီး၍ ဝေလမင်းသား ဆုပွဲ ၌ပင် ပြဇာတ် ငါးစောင် ရေး၍လည်း ဝင်ခဲ့၏။ အင်္ဂလိပ်လို ရေး၍လည်း ဘိလပ်သို့ ပို့သေး၏။

ယခုအချိန်တွင် ခပ်အေးအေး ပြန်ဖတ်ကြည့်သောအခါ ထိုပြဇာတ် များမှာ ရယ်စရာများဖြစ်နေသည်ကို တွေ့ရ၏။ သို့သော်လည်း ဟိုစဉ် အခါက ဤလို ရေး၊ ဤလို ပြိုင်ပွဲဝင်၊ ဤလို ဘိလပ်သို့ပို့ချင်သော စိတ်ဓာတ် များမှာ ရောဂါလိုဖြစ်နေ၍ မရေးရ၊ မဝင်ရ၊ မပို့ရလျှင် ဒုက္ခရောက်ကောင်း ရောက်ပေလိမ့်မည်။

ကုန်ကုန်ပြောလိုက်မည်။ ကောလိပ်ကျောင်းတွင် ရခိုင်နှုန်းငါးဆယ်မျှ သေချာခဲ့ဖူးသော ကောလိပ်ကျောင်းသူကလေး တစ်ဦးထံသို့ မေတ္တာစာ ပေးသည့်အခါ၌ပင်လျှင် ပြဇာတ်များရေး၍ ပေးလေ့ရှိလေသည်။

ထို့ကြောင့် ၁၉၂၉ ခုနှစ် ဘီအေ အောင်ပြီး ကျောင်းက ထွက်မည်ရှိသောအခါ အင်္ဂလိပ်စာကို အထူးလိုက်စား၍ အင်္ဂလိပ်လို စာရေးဆရာလုပ်ရန် သန္နိဋ္ဌာန်ချခဲ့လေသည်။

သို့ရာတွင် 'တစ်နွယ်ငင် တစ်စဉ်ပါ' ဆိုသလို အငြိမ်မနေတတ်သည့် ဝါသနာကလေးကြောင့် ဟိုပါ ဒီပါနှင့် ပါလာရာမှ တစ်စတစ်စ ဆိုသလို နိုင်ငံရေးသမား မဟုတ်ဘဲနှင့် နိုင်ငံရေး နယ်နိမိတ်ထဲသို့ ခြေစုံပစ်ပြီး ဝင်မိပြီးလျက်သား ဖြစ်၍နေလေသည်။

၁၉၄၀ ပြည့်နှစ်၊ အင်းစိန်ထောင်အတွင်းသို့ ရောက်သည့်အခါ စာရေးဆရာလုပ်ရန် သန္နိဋ္ဌာန်ချခဲ့သော နှစ်ပေါင်းမှာ ၁၀ ကျော် ၁၁ နှစ်ခန့်ရှိလေပြီ။ ထိုနှစ်ပရိစ္ဆေဒအတွင်း မည်မျှ အဓိဋ္ဌာန်မြောက်ခဲ့သနည်းဟု ကျွန်တော့်ကိုယ်ကို ကျွန်တော် လေးနက်စွာ စစ်တမ်းထုတ်ခဲ့မိလေ၏။

ဘာကိုမျှ မည်မည်ရရ မပြနိုင်သဖြင့် ကုန်ခဲ့သော အချိန်ကာလကြီးကို တွေးမိတိုင်း နှမြောပြီး 'သည်တစ်ခါ ထောင်ကထွက်လျှင် စာရေးဆရာလုပ်တော့မည်' ဟု ဒုတိယမွှ သန္နိဋ္ဌာန်ချလိုက်ပြန်၏။

သို့ကြောင့်လည်း အင်းစိန်ထောင်ထဲတွင် သခင်စိုးက မာ့စ်စာအုပ်တွေ တစ်ပုံကြီးပေးသော်လည်း ပုံသာထားလိုက်သည်၊ မဖတ်မိချေ။ တစ်နေ့သ၌ သခင်စိုးက

'သခင်နု၊ ခင်ဗျား နိုင်ငံရေးစာအုပ်တွေကိုတော့ နည်းနည်းမှ မဖတ်ဘူး၊ ပြဇာတ်စာအုပ်ဆိုရင်တော့ ညဘက်တောင် မီးထွန်းဖတ်တယ်'

ဟု ညည်းလိုက်သောအခါ

'သခင်စိုး ဗမာပြည်မှာ ခင်ဗျား လီနင်ဖြစ်လာရင် ကျွန်တော်က မက်ဇင်ဂေါ်ကီ* ပေါ့'

---

* မက်ဇင်ဂေါ်ကီသည် ရုရှားပြည်၏ စာရေးဆရာတစ်ဦး ဖြစ်သည်။

ဟု ရယ်၍ ပြန်ပြောလိုက်ဖူး၏။

ထောင်ထဲတွင်လည်း တစ်နှစ်ခွဲလောက် အချိန်အတွင်း ဖတ်ရင်း ရေးရင်း ရေးခဲ့ရာ ပြဇာတ် ငါးစောင် ဝတ္ထု နှစ်ပုဒ် ပြီးခဲ့သေး၏။

ဤကဲ့သို့ ဒုတိယသန္နိဋ္ဌာန်ချခဲ့ပြီး၍ ဘာမျှမကြာသေးမီ နိုင်ငံရေးထဲသို့ ခြေစုံပစ်၍ ဝင်ရန်မှာ ကျွန်တော့်အတွက် အခက်ကြီး ခက်လျက် ရှိတော့၏။ ထို့ကြောင့် ထိုနေ့ညတွင် ဒေါက်တာဘမော်နှင့် ထပ်မံတွေ့ဆုံပြီး။

ကျွန်တော်။ 'ကျွန်တော် ဒီအုပ်ချုပ်ရေးအဖွဲ့ထဲကို မဝင်ချင်ဘူး'

ဒေါက်တာ။ 'ဘာဖြစ်လို့လဲ'

ကျွန်တော်။ 'ကျွန်တော့်မှာ အကြောင်းရှိလို့ပါ'

ဒေါက်တာ။ 'သခင်နုတို့က တယ်ပြီး စိတ်ကူးလွဲတာကိုး၊ နိုင်ငံရေးဆိုတာ အဖျက်နဲ့ကြီးပဲ ပြီးတာမဟုတ်ဘူး၊ အလုပ်ကလဲ ရှိသေးတယ်၊ ကိုယ်တို့တတွေဆိုတာလဲ နောက်ကို အကြာကြီး လုပ်နိုင်ကြဲတော့မယ် မဟုတ်ဘူး၊ နောက်ဆိုရင် ဗိုလ်အောင်ဆန်းတို့ သခင်သန်းထွန်းတို့ သခင်နုတို့ပဲ ရှိတော့တယ်၊ အဲ့ဒီတော့ အလုပ်သဘောကို အခုထဲကစပြီး အခွင့်ရတဲ့အခါ သင်ကြစမ်းပါ၊ ကိုယ် ကောင်းကောင်း လက်ထပ်သင်ပေးစမ်းပါရစေ'

ကျွန်တော်။ 'ဗိုလ်အောင်ဆန်းတို့ သခင်သန်းထွန်းတို့ကို သင်ပေးပါ၊ ကျွန်တော့်အတွက်ကတော့ ဒီဘက်မှာကို နည်းနည်းကလေးမှ ဝါသနာမပါဘူး'

ဒေါက်တာ။ 'ဘယ်ဘက်မှာ ဝါသနာပါသလဲ'

ကျွန်တော်။ 'စာရေးတဲ့ဘက်မှာ'

ဒေါက်တာ။ (ဟက်ဟက်ပက်ပက်ရယ်၍) 'ကိုယ့် အဟုတ်များလားလို့၊ လူငယ်တွေဆိုတာ ဒီလိုပဲ၊ တစ်ခါတော့ ရူးစမြဲပဲ၊ ကိုယ်လဲ ငယ်ငယ်တုန်းက ဒီလို ရူးခဲ့ဖူးတာပဲ၊ ပြီးတော့လဲ ပြီးသွားတာပဲ'

ကျွန်တော်။ 'ကျွန်တော့်ကို မထည့်လို့ မဖြစ်ဘူးလား'

ဒေါက်တာ။ 'နာမည်စာရင်းတွေတောင် ပေးပြီးပြီ'

ကျွန်တော်။ 'ဒါဖြင့် ဒီလိုလုပ်ပါ၊ အခု ကော်မီတီဘ၀က အစိုးရအဖွဲ့အထိ တိုးချဲ့ဖွဲ့တဲ့အခါ ကျွန်တော့်ကို ဖြုတ်ပစ်ခဲ့ပါ'

ဒေါက်တာ။ 'ကောင်းပြီ ကောင်းပြီ'

နောက်တစ်နေ့တွင် မေမြို့ရှိ ဂျပန်စစ်ရုံးချုပ်သို့ သခင်ကိုယ်တော်မှိုင်း၊ ဒေါက်တာဘမော်၊ သခင်မြ၊ ဗန္ဓုလ ဦးစိန်၊ ဒေါက်တာ သိန်းမောင်၊ သခင်ထွန်းအုပ်၊ ဦးလှဖေ၊ သခင်ဗစိန်၊ ဓားမ ဦးဘသိန်းနှင့် ကျွန်တော်တို့ သွားကြသည်။

ဦးဘဝင်းကို ဖျာပုံမှ ခေါ်ယူနေရသဖြင့် နောက်ကျနေသောကြောင့် ထိုနေ့က ရန်ကုန်မှ မေမြို့သို့ လေယာဉ်ပျံဖြင့် ပို့ရသည်။ ပွဲမစမီ နာရီဝက်လောက်တွင် စစ်ရုံးချုပ်သို့ ရောက်လာသည်။

ပွဲမစမီ ၁၅ မိနစ်လောက်တွင် ဇာတ်တိုက်ရန် ကာနယ်ဟီရာအိုးကားသည် ကျွန်တော်တို့ ဗမာတွေ ထိုင်နေသော ဧည့်ခန်းတွင်းသို့ ဝင်လာသည်။

'ခင်ဗျားတို့ ခန်းမကြီးထဲမှာ အရင်ဝင်ပြီး ထိုင်နေပါ၊ နောက်ပြီးတော့ စစ်ဗိုလ်အကြီးဆုံးကြီး ဝင်လာမယ်၊ ဝင်လာရင် ခင်ဗျားတို့ ထိုင်နေရာက မတ်တတ်ထပါ၊

'စစ်ဗိုလ်အကြီးဆုံးကြီး သူ့နေရာကိုရောက်ပြီး ကျွန်တော်က ကရေးလို့ အော်လိုက်ရင် ခင်ဗျားတို့ ခါးညွှတ်ပြီး အရိုအသေ ပေးပါ၊ စစ်ဗိုလ်အကြီးဆုံးကလည်း ခါးပြန်ညွှတ်လိမ့်မယ်၊

'ပြီးတော့ စစ်ဗိုလ်အကြီးဆုံးကြီးက စကားပြောလိမ့်မယ်၊ စကားပြောပြီးမှ အားလုံးထိုင်မယ်'

စစ်ဗိုလ်အကြီးဆုံးကြီး စကားပြောနေစဉ် ဦးဘဖေသည် အခန်းထဲသို့ ဝင်လာသည်။ သူဝတ်ထားသောအင်္ကျီမှာ သက္ကလပ်အင်္ကျီ အနက်ဖြစ်၍ လုံချည်မှာ ပိုးလုံချည်တစ်ပတ်နွမ်း ဖြစ်လေသည်။ ခေါင်းပေါင်းလည်း မပါ၊ လက်ထဲတွင် စီအိုင်ဗီဦးထုပ်ကို ကိုင်လျက်ရှိသည်။

သူ့မျက်နှာကို ကြည့်ရသည်မှာလည်း မေ့မြောသွားရာမှ သတိပြန်ရလာသောအခါ မိမိပတ်ဝန်းကျင်တွင်ရှိသော လူများကို ကြည့်၍နေသည့် မျက်နှာထားမျိုး ဖြစ်လေသည်။

ပွဲပြီး၍ ဗမာညှော်ခန်းတွင်းသို့ ပြန်ရောက်သောအခါ

ဦးဘဖေ။ 'ဘာမှန်းလဲ မသိဘူး၊ စစ်ပုလိပ်က ကျုပ်အိမ်လာပြီး ထမင်းစားနေရာမှာ 'ခင်ဗျား ဦးဘဖေလားတဲ့' ဟုတ်တယ်ဆိုတော့ 'လာပါ' ဆိုပြီး အတင်းဆွဲခေါ်လာတာပဲ၊ အဝတ်အစားတောင် လဲဖို့ အချိန်မပေးဘူး၊ ကျုပ် ဒီလိုပဲ ရှေ့ဘိုကတောင် လိုက်လာခဲ့ရတာ'

အားလုံးဝိုင်း၍ ရယ်ကြသည်။

ဦးဘဖေ။ 'နေပါအုံး၊ ဒီနေ့ဟာ ဘာလုပ်ကြတာလဲ'

ဒေါက်တာဘမော်။ 'Preparatory Committee ဖွဲ့တယ်လေ၊ အားလုံး ဂိုဏ်းဂဏတွေပါအောင် ဦးဘဖေကိုလဲ ထည့်ထားလိုက်တာပဲ'

ဦးဘဖေ။ 'ဒါ ထားပါအုံးလေ၊ ဘယ်စည်းမျဉ်းအရ ဖွဲ့တာလဲ'

ဒေါက်တာဘမော်။ 'စည်းမျဉ်းကတော့ ဘယ်စည်းမျဉ်းမှ မရှိသေးဘူး၊ ခုနေအခါ ဘယ်စည်းမျဉ်းမှလဲ သူတို့ကို ပြောလို့ မရသေးဘူး'

ဦးဘဖေ။ 'ဗမာပြည် သေပြီ၊ ဗမာပြည် သေပြီ'

ဒေါက်တာဘမော်။ 'ဘာသေတာလဲ'

ဦးဘဖေ။ (မျက်နှာမဲ့၍ ကွန်တော်တို့ဘက်သို့ လှည့်ပြီး) 'ဗမာပြည် သေပြီ'

ဦးဘဖေလည်း 'ဗမာပြည်သေပြီ' ဟူ၍ မကြာခဏ မြည်လျက်ပင် ရှိသည်။ သို့သော်လည်း ဘာကြောင့်သေသည် ဘယ်လိုသေသည် အစရှိသည်တို့ကိုကား ရှင်း၍မပြချေ။

လက်သည်းခွာ၊ ရေနွေးပူနှင့်လောင်း၊ ထုတ်မှာ ဇောက်ထိုးဆွဲလျက်ရှိသော ဂျပန်စစ်ပုလိပ်များကို စိတ်ထဲတွင် တရေးရေး မြင်နေဟန် လက္ခဏာရှိလေသည်။



## အခန်း ၈
## တရုတ်လိုလားသူလော ကွန်မြူနစ်လော

မေမြို့တွင်ရှိနေစဉ် တစ်နေ့သ၌ တိုင်းချစ် ကိုသိန်းဖေ၏ အစ်မကြီး ဒေါ်မြရင်သည် ကိုသိန်းဖေကို ဖမ်းထားသည့် ကိစ္စနှင့် ပတ်သက်၍ ကျွန်တော်တို့၏ အကူအညီကို လာတောင်းလေသည်။

ဒေါ်မြရင် ကြားရသည့် သတင်းအတိုင်းဆိုလျှင် ကိုသိန်းဖေကို သတ်ပြီးသလိုလိုပင် ဖြစ်သည်။

တိုင်းချစ် ကိုသိန်းဖေသည် သခင်စိုးနှင့် သိန်းဖေတို့လူစု ကံပိုင်ရွာမှ ဦးဘချိုရှိရာ ရွှေဘိုမြို့သို့သွားရန် ခရီးအတွက် စီစဉ်ပေးရသူဖြစ်သည်။

၎င်းသတင်းကို ဂျပန်စစ်ပုလိပ်များ ရဟန်လက္ခဏာ ရှိသည်။ ထို သတင်းနှင့် ဘီအိုင်အေက ဂျပန်တွေကို ပြန်ချမည်ဆိုသော သတင်းနှစ်ခု ပေါင်းပြီး သူ့ကို ဖမ်းလိုက်ခြင်းပင် ဖြစ်ဟန်တူသည်။

ကျွန်တော်လည်း အကျိုးအကြောင်း အစုံအလင်ကို ဒေါက်တာ ဘမော်သို့ ပြောကြားပြီး အကူအညီတောင်းရ၏။

ထိုအခါက ဒေါက်တာဘမော်နှင့် ရင်းနှီးသော ကက်ပတိန် မွန်ဒီ ဆိုသူ စစ်ပုလိပ်တစ်ဦးရှိ၏။ ထိုစစ်ပုလိပ်သည် ဒေါက်တာ ဘမော်ကို တောထဲမှ ရှာတွေ့လာသူဖြစ်၏။

ထိုသူလည်း ဒေါက်တာဘမော်ထံသို့ အလည်လာခိုက်နှင့် ကြုံကြိုက်သဖြင့် ဒေါက်တာဘမော်က ကျွန်တော်နှင့် မိတ်ဖွဲ့ပေးပြီး တိုင်းချစ်ကိုသိန်းဖေ အကြောင်းကို ကျွန်တော်ကိုယ်တိုင် အပြောခိုင်း၏။

အကျိုးအကြောင်းကို နားထောင်ပြီးနောက် ကက်ပတိန်မွန်ဒီသည် စုံစမ်းပါမည်ဟု ပြောပြီး ပြန်သွားလေ၏။

နှစ်နာရီလောက်ကြာသောအခါ ဗမာလို မွတ်နေအောင်တတ်သော သူ့စကားပြန် ဂျပန်တစ်ဦးအား ကျွန်တော့်ထံသို့ လွှတ်လိုက်လေ၏။

ကျွန်တော်လည်း ထိုစကားပြန်ကို မြင်သောအခါ ကိုသိန်းဖေ၏ အကြောင်းကို ကြားရတော့မည်ဟု ဝမ်းသာမိလေ၏။

သို့ရာတွင် စကားပြန်သည် ကျွန်တော့်ကို တွေ့လျှင် တွေ့ချင်း

'ခင်ဗျား ချွန်ကင်းကို သွားဖူးတယ် မဟုတ်လား' ဟု မေးလိုက်ရာ ကျွန်တော်၏ တစ်ကိုယ်လုံး ထူပူ၍သွားလေသည်။

'ဟုတ်တယ်'

ဟု ဣန္ဒြေလုပ်ကာ ကျွန်တော်လည်း ပြန်ဖြေလိုက်၏။

စကားပြန်။ 'ဘာကိစ္စသွားတာလဲ'

ကျွန်တော်။ 'မိတ်ဆက်သွားတယ်'

စကားပြန်။ 'မိတ်ဆက်၊ မိတ်ဆက်ဆိုတာ ဘာလုပ်တာလဲ'

ကျွန်တော်။ 'သူငယ်ချင်းဖြစ်အောင် လုပ်တာ'

စကားပြန်။ 'သြော် သြော်'

ကျွန်တော်။ 'ကိုသိန်းဖေရဲ့ အကြောင်းကော မသိရသေးဘူးလား'

စကားပြန်။ 'မသိရသေးဘူး'

ကျွန်တော်လည်း ရန်ကုန်သို့ပြန်ရောက်ပြီး ဆယ်ရက်ခန့်အကြာတွင် ဗိုလ်မိုးကြိုး၏အိမ်သို့ ကိစ္စတစ်ခုနှင့် သွားရ၏။ ဗိုလ်မိုးကြိုးလည်း အိမ်ပေါ်

တွင်ရှိနေ၍ အစောင့်တစ်ယောက်သည် ကျွန်တော့်ကို သူ၏အပါးတော်မြဲ ဂျပန်ထံသို့ ခေါ်သွားလေ၏။

ထိုဂျပန်က ကျွန်တော်၏နာမည်ကို ရေးပါဆို၍ ကျွန်တော်၏နာမည် ကို ရေးချပြီး ပေးလိုက်၏။

ဂျပန်လည်း ကျွန်တော်၏ နာမည်ကို ဖတ်မိသည်နှင့် တစ်ပြိုင်နက် သူ့မျက်နှာမှာ ဒေါသတွေဖြစ်လာပြီး

'မင်း သခင်နုလား၊ မကောင်းဘူး၊ ချွန်ကင်းကိုသွားပြီး တို့ရန်သူ တွေကို ကူတယ်၊ ဒီမှာကြည့်စမ်း (သူ့ညာဘက်မျက်လုံးကို လက်ညှိုးနှင့် ထိုး၍) ဒီတရုတ်တွေ စိန်ပြောင်းနဲ့ပစ်တာ ငါ့မျက်လုံး ကန်းသွားတယ်၊ ကျောက်မျက်လုံး ထည့်ထားရတယ်'

ကျွန်တော်လည်း သနားသည့်အမူအရာကို ပြလိုက်လျှင် သက်သာ မည်လားဟု ထင်မှတ်၍ သနားသည့် မျက်နှာထားဖြင့်

'ကျွတ် ကျွတ်'

ဟု စုပ်သတ်လိုက်ရာ ထိုအပါးတော်မြဲက ပို၍ဒေါသဖြစ်လာပြီး

'ဘာ ကျွတ်ကျွတ်လဲ၊ မင်း သိပ်မကောင်းတဲ့ ကောင်ပဲ၊ ရန်သူတွေကို သွားပြီးကူတယ်'

ဟု ပြောပြီး ထိုးမည် ကြိတ်မည် ဖြစ်လာလေ၏။

ကျွန်တော်လည်း ကြံရာမရသဖြင့် မေမြို့တွင် ကော်မီတီဖွဲ့၍အပြီး စစ်ဗိုလ်အကြီးဆုံးဆိုသူ ဂျင်နရယ်အီဒါးနှင့် အဖွဲ့ဝင်များ အတူတူရိုက်ခဲ့ သော ဓာတ်ပုံကလေးကို ဘေးအိတ်ထဲမှ ထုတ်၍ ဂျပန်ကိုပြလျက်

'မင်း ငါ့ကို ဘာထင်သလဲ၊ ဒီမှာ ကြည့်စမ်း၊ ဂျင်နရယ်အီဒါး၊ ဒီမှာ ငါ'

ဟု ကျွန်တော်တို့၏ ရုပ်ပုံများကို လက်ညှိုးနှင့် ထိုးပြလေ၏။ ဤသို့ ပြသော်လည်း ဂျပန်သည် လန့်မသွားဘဲ

'ဂျင်နရယ်အီဒါး ဘာဖြစ်သလဲ၊ တို့ဂျပန်မှာ ဖြောင့်ဖြောင့်လုပ်ရင် ဘယ်သူ့မှ ကြောက်ဖို့ မရှိဘူး၊ မင်းနေအုံး၊ အခု သိမယ်'

ဟု ပြောပြောဆိုဆို အပြင်ဘက်သို့ ထွက်သွားလေ၏။

ကျွန်တော့် အထင်မှာကား ထိုအပါးတော်မြဲသည် ကျွန်တော့် လက်သည်းကို ခွာရန်အတွက် သူ့အသိထဲက စစ်ပုလိပ်တစ်ယောက်ကို သွားခေါ်သည်ဟုပင် ထင်မိ၏။

ထိုအတောအတွင်း ကံကောင်းထောက်မ၍ ဗိုလ်အောင်ဆန်းနှင့် စစ်ဗိုလ်တစ်စု ထိုအခန်းထဲသို့ ရောက်လာ၏။

သူတို့နှင့်အတူရောၡ လိုက်သွားမိသဖြင့် အပါးတော်မြဲနှင့် သူ့မိတ်ဆွေ စစ်ပုလိပ်တို့မှာ ကျွန်တော့် လက်သည်းကို မခွာလိုက်ကြရတော့ပေ။

ဂျပန်ကြိမ်းလိုက်သည့် စကားများမှာကား အမှန်စင်စစ် မကြိမ်းလွန်းလှချေ။ သို့ရာတွင် ထိုဂျပန်အား လည်စိကိုကိုင်ပြီး 'မင်းလားကွ ငါ့ကို ဒီလိုပြောတာ' ဟု ယောက်ျားပီသစွာ မထိုးခဲ့ရသည့်အတွက် နေမထိ ထိုင်မသာ ဖြစ်လျက်ရှိလေ၏။

'ဒီဂျပန် ငါထိုးလိုက်ရင် နိုင်ပါတယ်၊ မြို့မတုန်းက သူ့ထက် ဗလ ကောင်းတဲ့ အကောင်ကြီးတွေတောင် ငါ့ လက်သီးတစ်ချက် ထိုးလိုက်ရင် ပုံလျက်သား ကျခဲ့ရတာပဲ၊ ဒါပေမဲ့ ငါထိုးလိုက်ပြန်ရင် တသီတတန်းကြီး မီးပွားလာအုံးမယ်'

အစရှိသဖြင့် ဂျပန်ကြိမ်းလွှတ်လိုက်သည့်အတွက် ရှက်နေသော အရှက်များကို ပြေစေရန် ကျွန်တော်လည်း အမျိုးမျိုး ကိုယ့်ကိုယ်ကိုယ် လှည့်စားလျက် ရှိရလေ၏။

ဤသို့ အရှက်မှ မပြေသေးမီ တစ်ညခင်းအချိန်တွင် ဒေါက်တာ ဘမော်ထံမှ အရေးတကြီးကိစ္စနှင့် ပတ်သက်၍ အလျင်အမြန် လာရန် မှာသောကြောင့် သွားရလေ၏။

ဒေါက်တာဘမော်။ 'နေ့လယ်က ဒေါက်တာ စူဇူကီးလာပြီး ပြော သွားတယ်၊ သခင်နုကို စစ်ပုလိပ်က ဖမ်းမလို့တဲ့'

ကျွန်တော်။ 'ဟုတ်တယ်၊ ကျွန်တော့်ဆီကိုလဲ ဟီဂူချီဆိုတဲ့ ဂျပန် ကလေးတစ်ယောက် လာပြောသွားတယ်၊ ဖမ်းမယ့် အကြောင်းကတော့ တခြားဟာ မဟုတ်ပါဘူး၊ ကျွန်တော်တို့ ချွန်ကင်းသွားတုန်းက တရုတ် အစိုးရအဖွဲ့ဝင်တွေနဲ့ အတူတူ ရိုက်ခဲ့တဲ့ ဓာတ်ပုံတွေကို အယ်လ်ဘမ် (ဓာတ်ပုံစာအုပ်)နဲ့ ချုပ်ထားတာ ရှိတယ်၊ အဲ့ဒါကြီးတစ်ခုလုံး စစ်ပုလိပ် လက်ထဲရောက်နေပြီ၊ စစ်ပုလိပ်ကလဲ ကျွန်တော်ဟာ ကော်မတီအဖွဲ့ဝင် ဖြစ်နေလို့ အရမ်းမဖမ်းသေးဘဲ အုပ်ချုပ်ရေးမှူး ကာနယ်နဂါတာနဲ့ ဖမ်းဖို့ ကိစ္စ တိုင်ပင်တယ်တဲ့၊ ကာနယ်နဂါတာကတော့ ဖမ်းဖို့ မလိုဘူး၊ အခု ကော်မတီအဖွဲ့ဝင် ဖြစ်နေပြီလို့ အကြံပေးလိုက်တယ်တဲ့၊ ဒါပေမဲ့ သူတို့ စစ်ပုလိပ်ဆိုတာက တော်တော်ခက်တယ်၊ ကာနယ်နဂါတာ ပြောတာကို နားထောင်ချင်မှ ထောင်မယ်တဲ့'

ဒေါက်တာဘမော်။ 'ဟုတ်တယ်၊ စူဇူကီးကလဲ ဒီတိုင်းပဲ ပြောတယ်၊ ဒါပေမဲ့ ကိုယ်ကတော့ တိတိလင်းလင်းပဲ ပြောလိုက်တယ်၊ သခင်နုကို ဖမ်းမယ်ဆိုရင် ကိုယ့်ကို အရင်ဖမ်းရလိမ့်မယ်လို့'

ကျွန်တော်။ 'စူဇူကီးကြီးဟာ သူ့ကို စစ်ပုလိပ်က ခိုင်းလိုက်လို့ သူ ဦးဘမော်ရဲ့ စိတ်ကို လာစမ်းတာနဲ့တူတယ်'

ဒေါက်တာဘမော်။ 'ဟုတ်ချင်လဲ ဟုတ်မှာပဲ၊ ဒါပေမဲ့ ဘာပဲဖြစ်ဖြစ် ကိုယ်ကတော့ တိတိလင်းလင်း ပြောလိုက်ပြီ'

ထိုကဲ့သို့ ခေါ်မတွေ့ခင် သုံးရက်ခန့်ကပင် ကျွန်တော်၏ ပြောချက် အရ ဒေါက်တာဘမော်သည် ဒီးဒုတ် ဦးဘချိုအတွက် ကာကွယ်ရေး လက်မှတ်တစ်စောင်ကို ထုတ်ပေးလိုက်သေးသည်။

ဦးဘချိုမှာ အများသိကြသည့်အတိုင်း ဂျပန်တွေ တက်လာစဉ်က ရွှေဘို အထိပြောင်းသွားပြီး ဂျပန်ဆန့်ကျင်ရေး စာတမ်းများကို ရေးခဲ့ဖူးလေသည်။

သူ့ စာတမ်းများကို ဂျပန်သိမ်းထားသော နယ်များတွင် လေယာဉ်ပျံ ပေါ်မှ ကြဲချခဲ့လေသည်။ စစ်မဖြစ်မီကလည်း ဂျပန် ဆန့်ကျင်ရေးဝါဒ တွေကို အဖြန့်ဆုံးသူတစ်ဦးဖြစ်၍ ဂျပန် နဂါးနက်အသင်းမှ ဦးဘချိုကို ချောင်းသတ်ရန် ကိုယ်စားလှယ်တစ်ယောက် ရန်ကုန်သို့ရောက်နေသဖြင့် အသွားအလာ အထူးဆင်ခြင်ရန် မိတ်ဆွေများ၏ တိုက်တွန်းချက်အရ အတော်ဆင်ခြင်ခဲ့ရသေး၏။

ရွှေဘိုမှ အောက်သို့ပြန်အလာ ရန်ကုန်သို့ တိုက်ရိုက်မလာရဲဘဲ ပဲခူးရှိ သခင်တင်၏အိမ်တွင် ဦးဘချိုနှင့် မိသားတစ်စုကို ခေတ္တ ဝှက်ထားရသေး၏။

ထိုအတွင်း စစ်ပုလိပ်ရန် တစ်နေ့တခြား ဆိုးလာသဖြင့် ဦးဘချိုသည် သားသမီးမယားတို့နှင့် ခွဲခွာပြီး တောပုန်းလုပ်ရလုမတတ်ပင် ဖြစ်သွားခဲ့ သေး၏။ နောက်မှ အကြံရ၍ ဒေါက်တာဘမော်ထံမှ အကူအညီတောင်း ရခြင်း ဖြစ်သည်။

ထို့နေက ဒေါက်တာစူဇူကီးနှင့်တွေ့ပြီး တရုတ်နှင့် အဆက်ရှိခဲ့ဖူး သော သူများ၏ အခြေအနေမှာ အတော်ဆိုးလာသည်ကို သိရသဖြင့် သူရေးပေးထားသော ကာကွယ်ရေးလက်မှတ်ကို ဦးဘချိုသို့ မပေးရသေး လျှင် ပြန်ပေးပါဟူ၍ပင် ဒေါက်တာဘမော်သည် သူ၏ တပည့်တပန်း များ၏ တိုက်တွန်းချက်အရ ကျွန်တော့်ထံမှ တောင်းရသေး၏။

နောက်ပြီးမှ

'ဟာ ဘာပဲဖြစ်ဖြစ်လေ၊ ဖြစ်ချင်ရာ ဖြစ်ပေစေ၊ ဦးဘချိုကိုသာ ကိုယ်မသိဘဲနဲ့ ဘာမှမလုပ်ဖို့ ပြောလိုက်ပါ'

ဆိုပြီး လက်မှတ်ကို ပေးမြဲ ပြန်ပေးခဲ့လေသည်။

ထို့နောက် တနင်္ဂနွေ တစ်ပတ်မျှအကြာ နံနက် ရှစ်နာရီလောက်တွင် အမြန်လာရန် အခေါ် လွှတ်သဖြင့် ဒေါက်တာဘမော်ထံသို့ သွားရပြန်လေ၏။

ဒေါက်တာဘမော်။ 'ဘယ့်နှယ်လဲ သခင်နု၊ ကိစ္စက ခဏခဏပဲ ပေါ်နေပါလား၊ (မန္တလေး စစ်ပုလိပ်က သူ့ထံသို့ လူကြုံနှင့် လွှတ်၍ စုံစမ်းခိုင်းလိုက်သော စာရွက်ကလေးကို ကျွန်တော့်အား လှမ်းပေးရင်း) ဟောဒါကို ဖတ်ကြည့်စမ်း'

ကျွန်တော်လည်း စာရွက်ကိုယူ၍ ဖတ်ကြည့်ရာ ဂျပန်ကို ပုန်ကန်ရန် လှုံ့ဆော်သည့် မင်နီနှင့်ရိုက်ထားသော စာတမ်းဖြစ်ကြောင်းကို တွေ့ရ၏။ အောက်တွင် လက်မှတ်ရေးထိုးထားသူ သုံး လေးဦးအနက် ကျွန်တော်၏ နာမည်လည်း ပါ၏။

-- ကျွန်တော်။ (ငိုအားထက် ရယ်အားသန်လျက်) 'ကျွန်တော်တော့ မပြောချင်တော့ဘူး၊ ဗမာတွေ ဒီလောက် စုတ်ပဲ့မှန်းကို အခုမှပဲ ကျွန်တော် သိရတော့တယ်၊ ဒီစာရွက်ဟာ ကျွန်တော်တို့ ပုံနှိပ်တာ ဘယ့်နှယ်ဖြစ်နိုင်မလဲ၊ ကျွန်တော်တို့ တကယ်လုပ်ရင်လဲ နာမည်ထိုးပါ့မလား၊ နာမည်ထိုးချင်ပြန်ရင်လဲ ကျွန်တော်တို့ ပုန်းနေမှာပေါ့၊ ဒီခေတ်ကြီးမှာ ဒီလိုစာရွက်မျိုးကိုလဲ လက်မှတ်ထိုးပြီးဝေမယ်၊ ဗြောင်လဲနေမယ်ဆိုတာ အရူးမှ နေမှာ'

(ဒေါက်တာ ဘမော်လည်း ခေါင်းညိတ်လျက်ရှိ၏။)

'ကျွန်တော်တို့ ချောက်ကျရောဆိုပြီး ဗမာအချင်းချင်း ချောက်တွန်းလိုက်တာပဲ' ဟု ပြောပြီး ကျွန်တော်လည်း ပြန်ခဲ့သည်။

မြွေပူရာ ကင်းမှောင့် ဆိုသလို စိတ်ညစ်စရာများလည်း တစ်ခုပြီး တစ်ခု ဆင့်၍လာလျက် ရှိပြန်၏။

နယ်တွင် ကျွန်တော်တို့နှင့် နီးစပ်ရာ လူများကိုလည်း စစ်ပုလိပ်က တရကြမ်း ဖမ်းဆီးလျက်ရှိသဖြင့် စစ်ပုလိပ်၏ စက်ကွင်းမှ လွတ်လာကြသူ

များသည် ရန်ကုန်သို့ ပြေးလာကြသည်မှာ တစ်ပုံတစ်ခေါင်းကြီး ရှိလေသည်။

နယ်တွင် ဂျပန်များနှင့်တကွ သူတို့၏တပည့် ဗမာ လက်ပတ်များ၏ ကြမ်းပုံ ရမ်းပုံ လုယက်ပုံ ဖျက်ဆီးပုံ သတင်းမျိုးစုံကို သူတို့ထံမှ ကြားသိရသည်မှာ ကြားရသူအား မူးထိုးလဲလုမတတ်ပင် ဖြစ်တော့၏။

စစ်ပုလိပ်က ဖမ်းဆီးသည့် အကြောင်းထဲတွင် ဗမာ နယ်အရာရှိများ၏ ချောက်တွန်းချက်များ ၇၅ ရာခိုင်နှုန်းလောက် ပါသည်။

အင်္ဂလိပ်များ ဗမာပြည်မှ ထွက်သွားစဉ်က ထိုအရာရှိများသည် မျက်နှာမဲ့လျက်ရှိကြသည့်အခါ ဘီအိုင်အေ အမည်ခံသူတစ်စုသည် ထိုသူများထံမှ သေနတ်သိမ်းခြင်း ကားသိမ်းခြင်း မထေမဲ့မြင်ပြုခြင်း အစရှိသည်တို့ကို လုပ်ခဲ့ကြသည်။

စီစဉ်ရေးအဖွဲ့ ဖွဲ့စည်းပြီးသောအခါ ထိုအရာရှိ အားလုံး လိုလိုကို အလုပ်ပြန်ခန့်လေသည်။ ထိုအချိန်တွင်လည်း ဘီအိုင်အေကို ရုပ်သိမ်းပြီး ဘီဒီအေ အသစ် ဖွဲ့စည်းလိုက်သဖြင့် နယ် ဘီအိုင်အေများမှာ အလုပ်လက်မဲ့ ဖြစ်သွားသည်။

ထိုအခွင့်ကို အခွင့်ကောင်းဟု သဘောထားကာ ရှေးက ခံခဲ့ရသော နယ်အရာရှိများသည် သူတို့ငြိုးခဲ့သော သူများကို သူတို့ကိုယ်တိုင် ညှဉ်းနိုင်လျှင်လည်း ညှဉ်းကြသည်၊ သူတို့ မတတ်နိုင်လျှင်လည်း စစ်ပုလိပ်ကို တွန်းပေးကြသည်။

ဤကိစ္စမျိုးနှင့် ပတ်သက်၍ စာအားဖြင့်သော်လည်းကောင်း၊ လူကြုံအားဖြင့်သော်လည်းကောင်း၊ ကိုယ်တိုင်သော်လည်းကောင်း တိုင်တန်းကြသည်မှာလည်း မူးထိုးလဲလုမတတ်ပင် ရှိလေ၏။

ဤကဲ့သို့ ချက်ကြီး နှင့် ရွှေပန်း ကိစ္စမျိုးကို ဗမာများ ပြုလုပ်ခဲ့ကြသည်မှာ အမှန်စင်စစ် အံ့ဩစရာမရှိပေ။

ကျွန် နိုင်ငံသားများဖြစ်ရသည်မှာ နှစ်ပရိစ္ဆေဒကြာသော သူတိုင်းတွင် ကိုယ့်ကိုယ်ကိုယ် ရှိသေတတ်သော စိတ်ဓာတ် (ဝါ) ကိုယ့်လိပ်ပြာကိုယ်ရှက်တတ်သော စိတ်ဓာတ်များ ခေါင်းပါးလျက်ရှိကြပြီ။

ထိုကြောင့် ကိုယ့်အမျိုးသားအချင်းချင်း စည်းလုံးခြင်းမှ ရရှိသော အင်အားကို အဖိုးတန်သည်ဟု မထင်။ ထိုစည်းလုံးခြင်းမှ ရရှိသော အင်အားဖြင့် ကိုယ့်အမျိုးသားများ တိုးတက်ကောင်းစားရေးကို မဆောင်ရွက်ချင်။ နိုင်ငံခြားသားနှင့် စည်းလုံးခြင်းဖြင့် ရရှိသော အင်အားကိုမှ အဖိုးတန်သည်ဟု ထင်သည်။

ထိုအင်အားကို ရရှိပြန်လျှင်လည်း ကိုယ့်အမျိုးသားများ တိုးတက်ကောင်းစားရေးအတွက် မဆောင်ရွက်ကြဘဲ ကိုယ့်အချင်းချင်း လည်မျိုဖြတ်ရန် အရေးအတွက်သာ သုံးတတ်ကြလေသည်။

ကျွန်တော်တို့ကို ဓာတ်မသိကြသူများကလည်း အဟုတ်ကြီးထင်ခါ ကျွန်တော်တို့ ကလောင်တစ်ချက် ရမ်းလိုက်လျှင် အရေးဟူသမျှ အားလုံးပြီးစီးတော့မလိုလို ယုံကြည်လျက်ရှိကြ၏။

ကျွန်တော်လည်း ကိုယ့်အဖြစ်အပျက်ကို ကိုယ်ပြန်ကြည့်မိပြီး ထိုသူများနှင့်ပင် မျက်နှာချင်းဆိုင် နိုင်လောက်အောင် လိပ်ပြာမရဲသောကြောင့် ထိုအခါက ရှုံးတက်လျှင် မလွှယ်ပေါက်က တက်၍ ရှုံးဆင်းလျှင်လည်း မလွှယ်ပေါက်က ဆင်းခဲ့ရလေသည်။

နိုင်ငံရေးလုပ်လာခဲ့သည့် အချိန်မှစ၍ တစ်ခါဖူးမျှ ထိုအချိန်အခါလောက် စိတ်မဆင်းရဲခဲ့ဘူးပေ။

ရှေးက ပြတ်လျှင်လည်း ပျော်ပျော်၊ ငတ်လျှင်လည်း ပျော်ပျော်၊ ထောင်ကျလျှင်လည်း ပျော်ပျော်၊ လွတ်လျှင်လည်း ပျော်ပျော်။

ယခုတစ်မူကား ရွှေကျောင်းပြောင်ပြောင် ဝမ်းခေါင်ခေါင် ဆိုသည့်အတိုင်း မော်တော်ကားစီးပြီး တိုက်ကြီးမှာနေရသော်လည်း ကိုယ့်အတွက်ပူရ ကိုယ့်လူတွေအတွက် ပူရနှင့် ကျွန်တော်တို့ လူစုမှာ တစ်နေ့မှစိတ်ချမ်းသာရသည် မရှိတော့ချေ။

တစ်နေ့သ၌ ဒေါက်တာဘမော်သည် အကြံတစ်ခုရ၍ ကျွန်တော့်ကိုခေါ်လေသည်။

ဒေါက်တာဘမော်။ 'သခင်နု၊ အရှေ့အာရှ လူငယ်များ အစည်းအရုံးမှာ တရားတစ်ပုဒ် ဟောပါလား'

ကျွန်တော်။ 'ဘာတရားလဲ'

ဒေါက်တာဘမော်။ 'နိုင်ငံရေးပေါ့၊ ပြောမယ်ဆိုရင် ထည့်ပြောဖို့အချက်တွေကို ကိုယ် ရေးပေးမယ်'

'အစချီပြီး ပြောရမှာက

ကမ္ဘာ့ရာဇဝင်တစ်ခုလုံးဟာ အခြားဟာမဟုတ်ဘူး၊ အရှေ့နဲ့အနောက် စစ်ပွဲကြီး ငါးကြိမ်ဖြစ်ခဲ့တဲ့အကြောင်းကို ရေးထားတာပဲဖြစ်တယ်၊ ပဉ္စမမြောက် စစ်ပွဲကြီးဟာ ၁၉၀၅ ခုနှစ် ရုပ်ရှား ဂျပန်စစ်ပွဲက စခဲ့တယ်၊ အခုထက်ထိ မပြီးသေး၊ အခု အရှေ့ အာရှရဲ့စစ်ပွဲဟာ ဟိုဟာရဲ့ အဆက်ပဲ။

အဲဒီ စစ်ပွဲကြီးမှာ ဂျပန်ရဲ့ ခေါင်းဆောင်ချက်အရ အနောက်နိုင်ငံသားတွေကို အရှေ့အာရှတိုက်မှ မောင်းထုတ်ပစ်ရမှာပဲ။

ဆိုတဲ့ တရားကိုဟော၊ စစ်ပုလိပ်တွေ ဒီစကားကြားပြီးရင် သခင်နုအပေါ်မှာ အတော် စိတ်ပြောင်းသွားလိမ့်မယ် ထင်တယ်၊ အခုတော့အတော်ငြိုးနေပုံရတယ်၊ ပြောမလား'

ကျွန်တော်။ 'ပြောတာပေါ့'

ဒေါက်တာဘမော်လည်း သူ့လက်ရေးတိုသမားကိုခေါ်ပြီး ရာဇဝင်အရ အရှေ့နှင့် အနောက် ဖြစ်ပျက်ခဲ့သော စစ်ပွဲကြီးငါးခု အကြောင်းကို လျှောက်ပြောသည်။ ပြီးတော့မှ အင်္ဂလိပ် ပုံနှိပ်စက်နှင့် ရိုက်ထားသော စာရွက်တစ်စောင်ကို ကျွန်တော့်အား ပေးလေသည်။

မျှားမကြာမီ ဥက္ကဋ္ဌ ကိုဗဂျမ်းကို သူ့အစည်းအရုံးတွင် တရားတစ်ပွဲ စီစဉ်ပေးရန် ပြောလေသည်။

အထက်ပါအချက်များကို ပြော၍အပြီး မေးခွန်းများမေးရန် ခွင့်ပြုရာ ရခိုင်ဝတ်လုံတစ်ယောက်သည် ထတဲ့ပြီး

'ဂျပန်က ဗမာကို လွတ်လပ်ရေးပေးမလား'

ဟု ဂျပန်သူလျှိုတွေပြည့်နေသော လူလယ်ခေါင်တွင် မေးလေသည်။ ဤမျှလောက် ကြောက်နေရသည့်အခါကြီးတွင် ဤမျှ အကင်းမပါးပုံကို မြင်ရသောအခါ ကျွန်တော်လည်း ဒေါသအတော်ဖြစ်မိသည်။

'ပေးမှာပေါ့'

ဟု ကျွန်တော် ထ၍ဖြေရာ

'ကျွန်တော် မယုံဘူး'

ဟု ထိုဝတ်လုံက ထပ်၍ပင် ကွန့်ပြန်သည်။ ပရိသတ်များလည်း မီးကို ရေနှင့် သတ်လိုက်သလို တိတ်သွားလေသည်။

ကျွန်တော်သည် အစပထမတွင် ဒေါသဖြစ်မိသော်လည်း တယ် သတ္တိရှိတဲ့လူပဲဟု ကျိတ်၍ ချီးမွမ်းမိလေသည်။

သို့ရာတွင် ဒီဝတ်လုံတော့ ရေနွေးပူလား ကျင်စက်လား ဘယ်နည်း နှင့်မဆို စစ်ပုလိပ်တို့၏ ဆုတော်တစ်ခုခုကို အနေးထက် အမြန် ရရ်တော့ မှာပဲ ဟူ၍လည်း သနားမိလိုက်၏။

❐

## အခန်း ၉
## တို့ဗမာ ဆင်းရဲသား အစည်းအရုံး

စီစဉ်ရေးကော်မတီအဖွဲ့ကို ဖွဲ့ပြီး၍ နှစ်လမျှ ကြာသောအခါ စစ်အုပ်ချုပ်ရေး လက်အောက်ခံ ဗမာအစိုးရအဖွဲ့တစ်ခု ဖွဲ့စည်းရန် ဂျပန်စစ်တပ်မှ အခွင့်ရလာပြန်သည်။

အစိုးရအဖွဲ့ကို ဩဂုတ် ၁ ရက်နေ့တွင် စတင် ဖွဲ့စည်းမည်ဖြစ်ရာ အစိုးရ အဖွဲ့ဝင်များ၏ စာရင်းကို ဇူလိုင် လကုန်လောက်တွင် စီစဉ်ရ၏။

ကျွန်တော်လည်း အစိုးရအဖွဲ့သစ်ထဲတွင် မပါလိုကြောင်း ဒေါက်တာဘမော်ကို ပြောပြရာ မေမြို့တွင်ပေးခဲ့သော ကတိအတိုင်း ဒေါက်တာဘမော်လည်း သဘောတူလိုက်ရ၏။

သို့ရာတွင် ဂျပန်သူလျှိုတွေက ဤအကြောင်းနှင့် ပတ်သက်၍ မည်ကဲ့သို့ ရှု့ထားသည် မသိ။ ထိုအခါက ဂျပန် စစ်အုပ်ချုပ်ရေးမှူးဖြစ်ခဲ့သော ကာနယ်နာစူးက အိမ်တော်ကြီးတွင်ပေးသော စစ်သေနာပတိချုပ်၏ ထမင်းစားပွဲတစ်ခုတွင်

'ခင်ဗျား ရာထူး လက်မခံတာဟာ ကျုပ်တို့ကို မကူချင်လို့လား'

ဟူ၍ ခပ်တည်တည် မေးခဲ့ဖူးသေးသည်။

'ကျွန်တော် ရာထူးလက်မခံတာဟာ တခြားမဟုတ်ပါဘူး၊ ဂျပန် ဗမာ ချစ်ကြည်ရေးကို ထိထိရောက်ရောက် ဆောင်ရွက်ချင်လို့ပါ'

ဟု အလျှောက်ကောင်းသောကြောင့် ထိုအခါက အထောင်း သက်သာသွားလေသည်။

အစိုးရ အဖွဲ့သစ်ကို မဖွဲ့စည်းရသေးမီ သုံးရက်လောက် အလိုတွင် အရေးကြီးသော ကိစ္စတစ်ခုနှင့် အမြန်လာပါဟု အခေါ်လွှတ်သောကြောင့် ဒေါက်တာဘမော်၏အိမ်သို့ သွားရ၏။

ဤအချိန်သည်ကား ဗမာတစ်နိုင်ငံလုံး ရာထူးများ ပြန်လည် ခန့်ထားရာ၌ လူသစ်များ ၁၂၀ လောက် ခန့်ထားသည့်အနက် သခင်နှင့် ဘီအိုင်အေ အဟောင်းများသည် ဒေါက်တာဘမော်ကို အလွန်စိတ်ဆိုးလျက် ရှိသောအခါ ဖြစ်လေသည်။

သခင်မြနှင့် သခင်သန်းထွန်း တို့ပင်လျှင် ရာထူးမှ ထွက်ကြရန် အပြင်းအထန် စဉ်းစားလျက် ရှိကြရ၏။

သို့သော်လည်း ရှေ့လုပ်ငန်းများအတွက် အစိုးရအဖွဲ့ဝင် အဖြစ်နှင့် နေခြင်းသည် အကောင်းဆုံးဖြစ်သည်ဟု အတွင်းလူများ အဖွဲ့ (Inner Circle) က ဆုံးဖြတ်ကြသောကြောင့်သာ မထွက်ဖြစ်လေ၏။

အကယ်၍ ဟိုအခါက စိတ်လိုက်မာန်ပါ ထွက်လိုက်ကြပါလျှင် သခင် ဓားမ ရန်ပွဲမှာ တစ်ပြည်လုံးသို့ ကူးစက်သွားဖွယ်ရာ အကြောင်းရှိသည်။

မကွဲ ကွဲအောင် ဖြရန် အအက် အပြကို အမြဲရှာနေသော ဂျပန်အတွက် ဤရန်ပွဲသည် အကောင်းဆုံး အခွင့်အလမ်းပင် ဖြစ်တော့မည်။

ကျွန်တော်လည်း ဒေါက်တာဘမော်နှင့် တွေ့သောအခါ

ဒေါက်တာဘမော်။ 'ဘယ့်နှယ်လဲ သခင်နု၊ သခင်ချစ်တို့ လူစုဟာ အတော်လွန်နေပြီ၊ ကိုယ်က သခင်နုတို့ သခင်မြတို့ မျက်နှာကြောင့်ပဲ၊ ဒါမှမဟုတ်ရင် သူတို့ ဒုက္ခရောက်သွားတာ ကြာပြီ'

ကျွန်တော်။ 'ဘာသတင်းများ ထပ်ပြီးရလာပြန်လို့လဲ'

ဒေါက်တာဘမော်။ 'သခင်ကျော်ငြိမ်းဆိုတဲ့ လူရဲ့အိမ်မှာ တစ်နေ့က သခင်တွေကို ထမင်းကျွေးတယ်၊ အဲဒီ ထမင်းပွဲမှာ သူတို့ သစ္စာရေ သောက်ကြတယ်၊ အခု ဩဂုတ်လ ၁ ရက်နေ့ အစိုးရအဖွဲ့ ဖွဲ့တဲ့အခါမှာ ကိုယ်နဲ့ ဒေါက်တာဘဟန်ကို သူတို့သတ်ဖို့ သစ္စာရေသောက်တာပဲ'

ကျွန်တော်။ 'နေပါအုံး ဦးဘမော်ရဲ့၊ သတင်းထောက်တွေရလာတဲ့ သတင်းထဲမှာ ဒီထမင်းစားပွဲကို ဘယ်သူတွေ ဘယ်သူတွေ တက်ကြသတဲ့လဲ'

ဒေါက်တာဘမော်။ (အနည်းငယ် စဉ်းစားပြီးနောက်) 'သခင်ချစ် ရယ်၊ သခင်လူအေး၊ ပြီးတော့ စကော့ဈေးမှာလုပ်နေတဲ့ သခင်ထွန်းသင် ဆိုလား'

ကျွန်တော်။ 'ထွန်းအုံ၊ ထွန်းအုံ'

ဒေါက်တာဘမော်။ 'အင်း အဲဒီလူရယ်၊ ဝတ်လုံ ချန်ထွန်းရယ်၊ ဒီအပြင်လဲ လေး ငါးယောက် ပါသေးတယ်'

ကျွန်တော်။ 'ကျွန်တော်တော့ ဒီသတင်းကို မယုံဘူး'

ဒေါက်တာဘမော်။ (ဒေါသအနည်းငယ်ဖြစ်လျက်) 'ဘယ်သတင်း ကိုမှ ယုံမလဲ၊ သခင်နုကို ပြောလိုက်ရင် ဘယ်သတင်းမှ ယုံတာ မရှိဘူး'

ကျွန်တော်။ 'ဒီသတင်းမျိုးတွေ ခဏခဏ ရတယ် မဟုတ်ဘူးလား၊ ဒါတွေဟာ မှန်ရင် အခုလောက်ရှိရင် ဦးဘမော် သေတာကြာပြီ'

ဒေါက်တာဘမော်။ 'ကြံတိုင်းလဲ သေရရောလား၊ မသေတာနဲ့ မကြံဘူးဆိုတာ သိပ်မှားတာပဲ'

ကျွန်တော်။ 'ဒီကိစ္စမှာတော့ မဖြစ်နိုင်ဘူးဆိုတာ ကျွန်တော် တစ်ထစ်ချ ယူထားတယ်'

ဒေါက်တာ။ 'ဘာဖြစ်လို့လဲ'

ကျွန်တော်။ 'ဝတ်လုံဦးချန်ထွန်းနဲ့ သတ်တဲ့ဖြတ်တဲ့ ကိစ္စဟာ တခြားစီပဲ၊ ဒီကိစ္စထဲမှာ သူပါတယ်ဆိုတာနဲ့ပဲ မဖြစ်နိုင်ဘူးလို့ ကျွန်တော် တထစ်ချ ယူထားတာပဲ'

ဒေါက်တာဘမော်။ 'အင်းလေ၊ သခင်နု သိအောင် ပြောပြတာပဲ'

ကျွန်တော်။ 'နောက်ပြီးတော့လဲ ဒီလူတွေရဲ့ သတင်းထဲမှာ သခင်ချစ် အကြောင်း မပါရင် မပြီးတော့ဘူးလား၊ သခင်ချစ်အပြင် ဗမာပြည်မှာ စုံထောက်စရာလူ မရှိတော့ဘူးလား'

ဩဂုတ်လ ၂ ရက်နေ့ နံနက်တွင် တစ်ကြိမ် ခေါ်ပြန်၍ ဒေါက်တာဘမော်ထံသို့ ကျွန်တော် သွားရပြန်သည်။

ကျွန်တော်။ 'သခင်ချစ်ရဲ့အကြောင်း မဟုတ်လား'

ဒေါက်တာဘမော်။ 'ဟုတ်တယ်'

ကျွန်တော်။ 'ကျွန်တော်ပြောတာ မှန်တယ်ဆိုတဲ့ အကြောင်းကို ခေါ်ပြောမလို့ မဟုတ်လား'

ဒေါက်တာဘမော်။ 'မှားတယ်ဆိုတာ ခေါ်ပြောမလို့၊ ဟောဒီမှာ ဖတ်ကြည့်စမ်း' (သူ့စုံထောက်များထံမှ ရေးပို့လိုက်သော စာရွက်ကလေးကို လှမ်းပေးလိုက်သည်။)

စာရွက်တွင် ပါသည့် အဖြစ်အပျက်မှာ ဩဂုတ်လ ၁ ရက်နေ့က ဖြစ်ပေါ်ခဲ့သော အဖြစ်အပျက်ကလေးတစ်ခု ဖြစ်သည်။

ထိုနေ့တွင် ဒေါက်တာဘမော် ကြီးမှူးလျက် အစိုးရသစ်ကို ဖွဲ့သည်။ မြို့တော်ခန်းမကြီးထဲတွင် ပရိသတ်ရှေ့၌ အစိုးရအဖွဲ့ ဖွဲ့စည်းကြောင်းကို

ကြေညာပြီးနောက် ဘီအေအေ ဘောလုံးကွင်းတွင် အစိုးရ၏ လုပ်ငန်းသစ် ဝါဒသစ်တို့ကို ဝန်ကြီးချုပ် ဒေါက်တာဘမော်နှင့်တကွ သူ့ဝန်ကြီး အဖွဲ့ဝင်များက ဟောပြောရမည်ဖြစ်၏။

ထိုနေ့က ဝန်ကြီးချုပ်ဒေါက်တာဘမော် အလှည့်သို့ ရောက်သည့်အခါ ထ၍ စကားပြောမည်အလုပ်တွင် အသံချဲ့စက် ပူနေသဖြင့် မပြောရသေးဘဲ ပြန်ထိုင်လိုက်ရ၏။

ဤအချက်ကို တရားပွဲသို့လာကြသော ပရိသတ်အားလုံး အမြင်ဖြစ်၏။

ဒေါက်တာဘမော်၏ စုံထောက် ဝိဇ္ဇာများလည်း ဤအဖြစ်အပျက်ကလေးကို အခြေခံပြု၍ ဒေါက်တာဘမော်ထံသို့ သတင်းရေးပို့ခြင်းဖြစ်လေသည်။

၎င်းတို့သတင်းအရ ဝန်ကြီးချုပ် ဒေါက်တာဘမော်သည် ပြန်၍ ထိုင်လိုက်ရသောအခါ သခင်လူအေးက သခင်ချစ်ဘက်သို့ လှည့်ပြီး

'ဆရာ ကြွားချင်လှတဲ့ ကောင်၊ ဒီတစ်ခါတော့ အရှက်ကွဲသွားပြီ'

ဟု ပြောလိုက်ရာ သခင်ချစ်က

'ဒီညီအစ်ကိုတွေ မိုးကောင်းတုန်း ကောင်းပေါ့ကွာ၊ ဒီနေ့ မလုပ်ရပေတဲ့ မကြာခင် အခွင့်ကောင်းတော့ ပေါ်အုံးမှာပါပဲ၊ စောင့်ကြည့်နေပါကွာ' ဟု ပြန်ဖြေလိုက်သည်။ အစရှိသည်ဖြင့် စီကာပတ်ကုံး ရေးထားသည်ကို တွေ့ရ၏။

ထိုသတင်းကို ဖတ်ပြီးလျှင် ထိုစုံထောက်ဝိဇ္ဇာတို့၏ ဉာဏ်သွားပုံကို ကျွန်တော်လည်း စိတ်ထဲက ကျိတ်၍ ချီးမွမ်းလျက်ရှိမိ၏။

အဘယ့်ကြောင့်ဆိုသော် ထိုနေ့က ထိုတရားပွဲသို့ သခင်ချစ်၊ သခင်လူအေးနှင့် ကျွန်တော်တို့ အတူတူသွားပြီး တရားပွဲတွင် ကျွန်တော်က အလယ်က၊ သခင်ချစ်က ကျွန်တော့်လက်ဝဲက၊ သခင်လူအေးက ကျွန်တော့်

လက်ျာက အတူတူထိုင်လျက်ရှိသောကြောင့် သခင်လူအေးက ပြောပြော၊ သခင်ချစ်က ပြောပြော၊ ကျွန်တော့်ကို ဖြတ်ပြီးမှ ပြောရမည်ဖြစ်၏။

အကယ်၍ ပြောပြန်လျှင်လည်း ဤကဲ့သို့စကားမျိုးကို ကျွန်တော် မကြားဘဲ ဘယ်နည်းနှင့်မျှ မဖြစ်နိုင်ပေ။ ထိုအကြောင်းကို ကျွန်တော် ပြောပြလိုက်ရာ

ဒေါက်တာဘမော်။ 'သခင်နုနဲ့ အတူတူလား'

ကျွန်တော်။ 'အတူတူပါ၊ ကျွန်တော်ကပြောရင် တစ်ဂိုဏ်းတည်းသား ချင်းမို့ မယုံပါနဲ့အုံး၊ ကျွန်တော်တို့ရဲ့ နောက်တန်းမှာကပ်ပြီး ဦးထွန်းဝင်းရဲ့ မိန်းမရယ်၊ ဦးဘမော်တို့ အိမ်က ဒေါ်ဒေါ်ရင်ရယ် ထိုင်နေကြတယ်၊ ဒီစကားသာ လူအေးက သခင်ချစ်ကို ပြောရိုးမှန်ရင် ဒီအဒေါ်ကြီးတွေလဲ ကြားရမယ်၊ အဲ့ဒီတော့ သူတို့ကို မေးကြည့်၊ ဟုတ်တယ်ဆိုရင် ဇက်ဖြတ်ခံမယ်'

ဒေါက်တာဘမော်။ 'သခင်နုနဲ့ အတူတူလား'

ကျွန်တော်။ 'ကျွန်တော်ကို မမေးပါနဲ့လေ၊ အဒေါ်ကြီးတွေကိုသာ မေးကြည့်ပါ'

ဒေါက်တာဘမော်။ (အတွေးရခက်လျက်) 'ဒီကောင်တွေ ဘယ့်နှယ် လုပ်တာလဲ'

ကျွန်တော်။ 'ဘယ့်နှယ် လုပ်တာရမလဲ၊ လိမ်စားလို့ ကောင်းမှန်း သိတာနဲ့ လိမ်နေတာပေါ့၊ အဒေါ်ကြီးတွေက နောက်ဘက်မှာ ရှိပေလို့ပဲ၊ မရှိရင် ဒီမီးဟာ ဘယ်အထိ လောင်အုံးမယ် မဆိုနိုင်ဘူး'

ဒေါက်တာဘမော်။ 'သခင်ချစ်ဆိုတာ ဘယ်လို လူစားလဲ'

ကျွန်တော်။ 'လူကောင်းပါ၊ သူက ကျောင်းဆရာ လုပ်ခဲ့ဖူးတော့ ဘီအိုင်အေထဲမှာ သူ့တပည့်တွေ အတော်ပါတယ်၊ ဘယ်သွားသွား ဆရာ

ဆရာနဲ့ နာမည်အတော်ကြီးနေတယ်၊ အဲဒီတော့ လူတစ်ယောက်ဟာ သူ့ကိစ္စနဲ့ သူ ပျောက်သွားရင်လဲ သခင်ချစ်ရဲ့ လက်ချက်ပဲလို့ လူတွေက စွပ်စွဲတယ်၊ သူ့ဟာသူ စိတ်ညစ်ပြီး ရေထဲခုန်ချရင်လဲ သခင်ချစ်ရဲ့ လက်ချက်ပဲ၊ ဒီလူ အလကား နေရင်းထိုင်ရင်း နာမည်ကြီးနေတယ်'

ဒေါက်တာဘမော်။ 'ဒီလူကို တစ်ခါလောက် ကိုယ့်ဆီကို ခေါ်ခဲ့စမ်းပါ'

ကျွန်တော်။ 'အဲဒါပြောတာပေါ့၊ အစည်းအရုံး မြန်မြန်ထောင်ပါ ဆိုတာ ဒီအတွက် ပြောတာ၊ အလုပ်အတူတူလုပ်ရမယ့် လူတွေဟာ ခုလို စိမ်းနေတော့ ကြားက ဝင်ရှုပ်နိုင်တာပေါ့၊ အစည်းအရုံးတစ်ခုရှိရင် လူချင်း ခဏခဏ တွေ့နိုင်မယ်၊ ဒီလိုတွေ့ရရင် ပိုပြီး ရင်းနှီးမယ်၊ ပြီးတော့လဲ ဦးဘမော် ခဏ ခဏ ပြောနေတဲ့အတိုင်းပဲ၊ တိုင်းပြည်က ကျွန်တော်တို့ရဲ့ နောက်မှာ ကျောထောက်နောက်ခံရှိတယ်ဆိုရင် ဂျပန်တွေလဲ ထင်သလို မရမ်းနိုင်ဘူး၊ ဒီလို ကျောထောက်နောက်ခံရဖို့အတွက် အကောင်းဆုံးဟာ အစည်းအရုံးပဲ'

ဒေါက်တာဘမော်။ 'ဟုတ်တယ်လေ၊ လုပ်ကြလေ၊ ဒါကြောင့် ကိုယ် ခဏခဏ ပြောနေတာပဲ၊ လုပ်ပါ၊ လိုချင်တဲ့ အကူအညီ ကိုယ့်ဆီမှာ တောင်းပေါ့'

နောက်တစ်နေ့ ဒေါက်တာဘမော်နှင့် တွေ့လျှင် တွေ့ချင်း

'ဟိုအကောင်တွေ အကုန်လုံး ဖြုတ်ပစ်လိုက်ပြီ'

ဟု ပြောလေသည်။ ဟိုအကောင်တွေ ဆိုသည်မှာ တခြားမဟုတ်။ သတင်းကို လိမ်၍ ပို့နေသူများပင်ဖြစ်သည်။

အမှန်စင်စစ်ပြောရလျှင် ဒေါက်တာဘမော်တွင် လူငယ်လူရွယ်များ နှင့် နိုင်ငံရေးကို လွတ်လွတ်ကျွတ်ကျွတ် ဆောင်ရွက်လိုသော စိတ်ဓာတ်များ မကြာခဏ ပေါ်လေ့ရှိသည်။

ဤသို့ပေါ်သည့်အခါများတွင် သခင်မြ၊ သခင်သန်းထွန်း၊ ကိုဗဂျမ်း၊ ကျော်ငြိမ်း၊ ကျွန်တော် အစရှိသော လူငယ်များနှင့် ဝင်ဆံ့သည့်သူများနှင့် ‘ဘာလုပ်မည်၊ ဘာကိုင်မည်’ အစရှိသည်ဖြင့် ခေါ်၍ တိုင်ပင်လေ့ရှိ၏။

သို့ရာတွင် လူငယ်စုနှင့် ဒေါက်တာဘမော်တို့ စည်းလုံးသွားမည်ကို မနှစ်မြို့သော သူများရှိ၍ ထိုသူများက ကြားမှ မကြာခဏ စက်ပုန်းခုတ်၍ လားမသိ၊ ဘာလုပ်မည် ဘာကိုင်မည် ဆိုသည့် အကြံများမှာ မကြာခဏ ပြိုကွဲ ပျက်စီးကုန်ကြရ၏။

ဥပမာ။ စီစဉ်ရေးကော်မတီအဖွဲ့ ဖွဲ့စည်းပြီးသောအခါ အခြားလူများသည် မေမြို့မှ ရန်ကုန်သို့ ပြန်ကြသည်။ ဒေါက်တာဘမော်က တားထားသဖြင့် ကျွန်တော် နေရစ်ခဲ့ရ၏။

ထိုအချိန်မှစ၍ ရန်ကုန်သို့ ပြန်ရောက်သည့်အထိ

‘၄၊ ၅၊ ၁၀ ရက်အတွင်း ဗမာနိုင်ငံသစ်ကြီးကို လူငယ်များနှင့် အတူတူ မည်ကဲ့သို့ ထူထောင်လိုက်မည်၊ လူငယ်တွေကို သူကိုယ်တိုင် မည်ကဲ့သို့ ကိုယ်ဖိရင်ဖိ အလုပ်သင်ပေးမည်၊ လက်တွေ့ နိုင်ငံရေးသမား တစ်ယောက် အနေနှင့် ပြောရလျှင် ဗမာ့လွတ်လပ်ရေးအတွက် ဂျပန် အသေခံမည်ဆိုသည်မှာ လိမ်လုံးမျှ ဖြစ်သည်။ သို့သော် ဗမာတွေညီလျှင် ဂျပန် မလိမ်နိုင်’

အစရှိသည့် ဗမာ့နောင်ရေးများကို ဒေါက်တာဘမော်သည် ကျွန်တော့်အား ကရားမှ ရေလွှတ်သကဲ့သို့ တတွတ်တွတ် ပြောကြားခဲ့ဖူးသည်။

ကျွန်တော်တို့ကလည်း ဒေါက်တာဘမော် အလိုရှိသည့် ညီညွတ်ရေးအတွက် ကျွန်တော်တို့ကိုယ်ကို ထိုးအပ်ခဲ့ကြသည်။

ဗိုလ်အောင်ဆန်း၊ ဗိုလ်နေဝင်း အစရှိသော ဗမာ့တပ်မတော်ခေါင်းဆောင်များကမူကား

'ဂျပန်တော့ လိမ်ပြီ၊ ဗမာကို ကယ်နိုင်မှာ ညီညွတ်ရေးတစ်ခုပဲ ရှိတော့တယ်၊ အဲဒီညီညွတ်ရေးရဖို့အတွက် ကျွန်တော်တို့နဲ့ ဗမာစစ်တပ်တစ်တပ်လုံးကို ထားချင်တဲ့နေရာမှာ ထားပါ'

ဟူသော အဓိပ္ပာယ်မျိုးပါသည့် စာတစ်စောင်ကိုပင် လက်မှတ်ထိုးပြီး ဒေါက်တာဘမော်ကို မေမြို့တွင် ပေးခဲ့ကြဖူးသည်။

သခင်သန်းထွန်းကလည်း ညီညွတ်ရေးအတွက် ဖိတ်ခေါ်သော သခင်ခေါင်းဆောင်များ၏ အစည်းအဝေးတစ်ခုတွင်

'အခု အရေးကြီးလာပြီ၊ ညီညွတ်ကြ၊ မညီညွတ်တဲ့လူရှိရင် ကျုပ်တို့မှာရှိတဲ့ အင်အားအကုန်လုံးနဲ့ နှိမ်နင်းမယ်'

ဟူသော ဒေါက်တာဘမော်ကို ထောက်ခံသည့် စကားမျိုးကို တိတိလင်းလင်း ပြောကြားခဲ့ဖူးသည်။

အမှန်အတိုင်းပြောရလျှင် ဒေါက်တာဘမော်လည်း လူငယ်များထံမှ ညီညွတ်ရေးအတွက် ဤကဲ့သို့ ထုတ်ဖော်ပြသကြသော စေတနာတို့ကို အထူးယုံကြည်လျက် အစစ်အမှန် နှစ်ထောင်းအားရ ရှိခဲ့ဖူးသည်။

သို့သော်လည်း ဒေါက်တာဘမော်ကို မမှန်သတင်း ပေးလိုသူများက ဒေါက်တာဘမော် ရန်ကုန်သို့ ရောက်ပြီဟူသော သတင်းကို ကြားသည်နှင့် တစ်ပြိုင်နက် လုပ်ဇာတ်အမျိုးမျိုးဖြင့် စက်ပုန်းခုတ်ကြသည်။

'သခင်တွေ ခင်ဗျားကို သတ်လိမ့်မယ်'၊ 'သခင်ချစ်ကို သတိထား'၊ 'ဗိုလ်လင်းယုံ ဆိုသူက ခင်ဗျားကို တွယ်ဖို့ ရှာနေတယ်'

အစရှိသည့် တိုက်လုံးခိုက်လုံးတို့ဖြင့် ပေါက်ခါစ ညီညွတ်ရေး သစ်ပင်ကလေးများကို ဝိုင်းဖျက်ကြလေသည်။

ညီညွတ်ရေးကြီး အက်သွားအောင် အစပြုပေးခဲ့သော ရာထူးခန့်ထားရေးမှာ ထိုကြမ်းပိုးများသာ ကြားမှဝင်၍ မထိုးခဲ့ပါလျှင် အမှန်စင်စစ် ဤမျှ ဆိုးစရာ မရှိပေ။

ဒေါက်တာဘမော်၏ စုံထောက်ဝိဇ္ဇာများကို ဖြုတ်ပစ်လိုက်ပြီးကြောင်း ပြောဆိုပြီး၍ များမကြာမီ အစည်းအရုံး ထူထောင်ရန် စိုင်းပြင်းကြလေသည်။

သို့ရာတွင် အစည်းအရုံး လုပ်ရန်အတွက် အခက်အခဲ နှစ်ခု သုံးခု ရှိနေသည်။

နာမည်ကို ဘယ်လိုမှည့်မည်လဲ။ သခင်တွေကလည်း တို့ဗမာအစည်းအရုံးဟု မှည့်ချင်သည်။ ဓားမတွေကလည်း ဆင်းရဲသား ဝံသာနု ဟူသောအမည်ကို မြုပ်မသွားစေချင်။

ထို့ကြောင့် အတော်ကြာကြာ ဆွေးနွေးပြီးနောက် နှစ်ဦး နှစ်ဘက် ကျေနပ်စေရန် တို့ဗမာဆင်းရဲသားအစည်းအရုံးဟု မှည့်လိုက်သည်။

နာမည်မှည့်ပြီးနောက် ဒုတိယအရေးကြီးသော ကိစ္စမှာ စည်းမျဉ်း ရေးဆွဲရန်ပင်ဖြစ်၏။

သခင်သန်းထွန်း ရေးဆွဲသောစည်းမျဉ်းကို အနည်းငယ် ပြင်ဆင်ဖြည့်စွက်ပြီး အတည်ပြုလိုက်ကြသည်။

ဤစည်းမျဉ်းအရ ဒေါက်တာဘမော်သည် အစည်းအရုံး၏ အာဏာရှင်ဖြစ်လာသည်။

အစည်းအရုံး၏ တတိယအရေးကြီးသောကိစ္စမှာ နယ်အစည်းအရုံးများ၏ ခေါင်းဆောင်နှင့် အတွင်းရေးမှူး ခန့်ထားရေးပင်ဖြစ်၏။

များသောအားဖြင့် ဓားမထဲမှ ခေါင်းဆောင်များဖြစ်၍ အတွင်းရေးမှူးများမှာ သခင်များဖြစ်ကြ၏။

အချို့နယ်အတွက် ခေါင်းဆောင်နှင့် အတွင်းရေးမှူး ရွေးကြရာတွင် ရှေးက ရွေးကောက်ပွဲများကို ပြေး၍ သတိရမိ၏။ အာဏာရှင် အိမ်တော်၏ ထမင်းစားခန်းသည် ရွေးကောက်ပွဲစင်မြင့်ဖြစ်၍ သခင်နှင့် ဓားမခေါင်းဆောင်

များသည် ကိုယ့်လူ အရွေးခံရအောင် ကြိုးစားနေကြသော မဲတရားဟော ဆရာများ ဖြစ်ကြသည်။

အကြိတ်အနယ်ရွေးရသော နယ်များတွင် မဲတရားဟောသမားတို့၏ သဘာဝအတိုင်း သတိတွေလစ် ဒေါသတွေဖြစ်ကြပြီးလျှင်

'ဟာ၊ ဒီလူတော့ ခေါင်းဆောင်ခန့်ဖို့ ဘယ်နည်းနဲ့မှ သဘောမတူနိုင်ဘူး၊ အလကား တွင်းအောင်းခားမပဲ၊ လက်ဖက်ရည်ပွဲတို့ ရာထူးယူဖို့ တို့ပေါ်မှ ခားမဦးထုပ်ဆောင်းပြီး တွင်းထဲက ပေါ်လာတာ'

ဟု သခင်ဘက်က ထုလိုက်သည့်အခါ

'သခင်ကကော တစ်မတ်သခင် မဟုတ်လား၊ ဘီအိုင်အေတုန်းက သေနတ်တွေ သိမ်းပြီး ခားပြတွေ လျှောက်တိုက်တာကော' အစရှိသဖြင့် ခားမတွေက ပြန်နှက်လေ၏။ နောက်ပြီးမှ သတိပြန်ရကြပြီး ဝါးခနဲ ရယ်လိုက်ကြလေသည်။

'ဩော် နိုင်ငံရေးသမား ဖြစ်နိုင်ဖို့ရန် ဒါလိုတာကိုး'

ဟု နိုင်ငံရေးသမားတို့၏ သင်ခန်းစာ နံပါတ် ၁ ကို ထိုသူများအား ကြည့်ရင်း ကျွန်တော်လည်း စိတ်တွင်းက မှတ်လျက်ရှိလေ၏။

ဤမျှနှင့်မပြီးသေး။ အရေးကြီးသောကိစ္စတစ်ခု ကျန်သေးသည်။ ထိုကိစ္စသည်ကား အလံကိစ္စ ဖြစ်သည်။

သခင်များက သုံးရောင်ခြယ်နှင့် ဒေါင်းအလံကို အဆိုသွင်းသည်။ ခားမများက သုံးရောင်အနက် အဝါရောင်ကို လိုချင်သည်။ ဒေါင်းမှာလည်း ခေတ်မမီ၍ မလိုချင်ဟု အကြောင်းပြသည်။ တော်တော်နှင့် သဘောချင်း မတိုက်ဆိုင်ကြသောကြောင့် အလံအစည်းအဝေးကို မကြာခဏ ရွှေ့ဆိုင်းရ၏။

နောက်ဆုံးတွင် အဝါရောင် သုံးပုံနှစ်ပုံအောက်က အစိမ်းရောင် တစ်ပုံခံ၍ အစိမ်းရောင်ပေါ်တွင် နေတစ်ခြမ်းထွက်နေသည့် ပုံကို ရွေးချယ်ကြလေသည်။

ဂုဏ်းအလံသည် ကြည့်လိုက်လျှင် အဝါရောင် နောက်ခံရှိသော ပင်လယ်ပြင်ကြီးတွင် နေထွက်စပြုနေပုံ သဏ္ဌာန်ရှိလေသည်။

ဂုဏ်းအလံတွင် အဝါရောင်က သုံးပုံ နှစ်ပုံ ပါသဖြင့် အဝါရောင် များများလိုချင်သော ဓားမများကလည်း ကြိုက်၊ ဝါ စိမ်း နီ ဟူသော သုံးရောင် ပါသဖြင့် သခင်များကလည်း မငြင်းနိုင်။

နေထဲတွင် ဒေါင်းရုပ်ရှိသည်ဟု ဗမာများ အယူရှိကြသဖြင့် ဒေါင်းကို အလိုရှိသော သခင်များကလည်း စိတ်ကို ဖြေနိုင်သည်။

ဒေါင်းကို မကြိုက်သော ဓားမများအတွက်လည်း အလံထဲတွင် ဒေါင်းရုပ် မဟုတ်တော့ဘဲ နေလုံးဖြစ်နေသဖြင့် လိုသည့်ဆန္ဒ ပြည့်ဝကြလေသည်။

သို့အတွက် သခင်နှင့် ဓားမ ခေါင်းတည်၍ ထူထောင်ထားသော အစည်းအရုံးအတွက် ဤအလံသည် ရာခိုင်နှုန်းအများဆုံး လက်ခံနိုင်သော အလံပင် ဖြစ်လေသည်။

အလံ၏ ပုံသဏ္ဌာန်ကိုကား စဉ်းစား၍ ပြီးလေပြီ။ ဤအလံကို သိဒ္ဓိတင်ရန် ကိစ္စကား လိုနေပေသေး၏။

ထို့ကြောင့် အလံ သိဒ္ဓိတင်ရန် အစီအစဉ်များကို စဉ်းစားရန် အစည်းအဝေးတစ်ခု ကျင်းပ၍ အောက်ပါအတိုင်း ဆုံးဖြတ်ကြလေသည်။

မန္တလေးနန်းတော်ကြီးထဲတွင် အကောင်းဆုံး ပိုးသားနှင့် အောင်လံတော်ကို ချုပ်မည်၊ အောင်လံတော်ပြီးချိန်နှင့် ကိုက်၍ ရွှေဘိုမှ အောင်မြေကို ယူလာမည်။

မန္တလေးသို့ရောက်လျှင် အောင်မြေနှင့် အောင်လံတော်ကို တို့ဗမာဆင်းရဲသားခေတ်က အောင်မြေဟု သမုတ်ခဲ့သော ကန်တော်ကြီး အဝင်ဝရှိ ကွက်လပ်သို့ ယူဆောင်လာမည်။

ယူဆောင်လာရာ၌ ရိုးရိုးမဟုတ်။ အောင်မြေနှင့် အောင်လံတော်ကို စထွက်သည့် အချိန်မှစ၍ နောက်ဆုံး အောင်မြေသို့ရောက်သည့်အထိ မည်သည့်နေရာတွင်မှ မရပ်ရ။

ရွှေဘိုမှ ရန်ကုန်အထိ အစည်းအရုံးများက လမ်းတစ်လျှောက်လုံးတွင် လူအထောက်များချထား၍ တစ်ဆင့်စီ ပို့ပေးရန် တာဝန်ယူရမည်။

ထိုသို့ ယူဆောင်ရာ၌ အတီးအမှုတ် အကအခုန်တို့ကို မိမိတို့ကြိုက်သလို စီမံနိုင်၏။

အရေးအကြီးဆုံး အချက်မှာကား ရွှေဘိုကထွက်သည့် အချိန်မှစ၍ အောင်မြေသို့ ရောက်သည်အထိ ဘယ်နေရာမှာမှ မနားရန်ပင်ဖြစ်လေသည်။

အာဏာရှင်ကြီးနှင့် သူ့အတိုင်ပင်ခံ အဖွဲ့ဝင်များသည် အောင်မြေနှင့် အောင်လံတော်တို့ကို အလံပြဘုရားလမ်းရှိ အစည်းအရုံး၏ ဌာနချုပ်ရုံးရှေ့မှ ဆီး၍ကြိုပြီးလျှင် မြို့ကိုပတ်၍ အောင်မြေသို့ ယူဆောင်သွားရမည်ဖြစ်၏။

အောင်လံတော်တွင် အာဏာရှင်ကြီးနှင့်တကွ အတိုင်ပင်ခံအဖွဲ့ဝင် များက လက်မောင်းမှ သွေးများနှင့် မိမိတို့၏ နာမည်များကို ရေးထိုးရမည် ဖြစ်၏။

တစ်နိုင်ငံလုံးရှိ အစည်းအရုံးများ၏ အလံများကို ဤအောင်လံတော်ကြီးမှ တစ်ဆင့်ပွားရမည်။ ပွားရမည်ဆိုသည်ကား အခြားမဟုတ်။

ဥပမာ- မြောင်းမြခရိုင် အစည်းအရုံးအတွက် အလံတစ်ခုလုပ်ပြီးလျှင် ပထမ အောင်လံတော်ကြီးအောက်တွင် ထား၍ အရှိန်ယူရမည်။ ဤသို့ အရှိန်ယူပြီးမှ အစည်းအရုံး၏ အလံအဖြစ်သို့ ရောက်မည်။

မြို့နယ် ကျေးရွာ အစည်းအရုံးများမှ အလံများကိုကား ပထမ အောင်လံတော်ကြီးထံသို့ ယူလာရန် မလို။ ထိုအောင်လံတော်ကြီးထံမှ

အရှိန်ယူပြီးသဖြင့် အလံအဖြစ်သို့ ရောက်ပြီးသော အလံတစ်ခုခု အောက်တွင် အရှိန်ယူနိုင်သည်။

ဤသို့အားဖြင့် အလံများကို ဆင့်ကဲ ဆင့်ကဲ ပွားသွားနိုင်လေသည်။ ဤသို့ အရှိန်မယူရသေးသမျှ ကာလပတ်လုံး အဝတ်စမျှသာ ဖြစ်သည်။ အစည်းအရုံး၏အလံ မဖြစ်နိုင်။

စိတ်ကူးအစီအစဉ်ကား အလွန်ကောင်းပါ၏။ သို့သော် အာဏာရှင်တွင် အာဏာသာရှိ၍ စိတ်ကူးကို အလုပ်ဖြစ်အောင် လက်နက်ရှင် ဂျပန်စစ်တပ်ထံမှ အမိန့်ခံယူရပေလိမ့်ဦးမည်။

သို့ဖြစ်သောကြောင့် အမိန့် ခံယူလိုက်ရာ လက်နက်ရှင်သည် အာဏာရှင်၏ ခွင့်ပန်ချက်ကို ပယ်ဖျက်ချလေ၏။

'တို့တတွေ အစီအစဉ်တွေလဲ လုပ်ပြီးသလောက် ရှိကုန်ပြီ'

ဟု အာဏာရှင်က စောဒကဝင်လိုက်ရာ လက်နက်ရှင် လွှတ်လိုက်သော သံတမန်က

'ဘာပဲဖြစ်ဖြစ် ဒါ စစ်တပ်ရဲ့ အမိန့်'

ဟု ခပ်မာမာပြန်ပြောသဖြင့် အာဏာရှင်ကြီးလည်း ဘာမျှမပြောသာတော့ဘဲ

'အေး မင်းတို့က စစ်တပ်ရှိပေတာကိုးကွ၊ ဒီလိုပြောနိုင်မှာပေါ့'

ဟုသာ ပြန်ဖြေလိုက်ရပေတော့၏။

သို့ရာတွင် အာဏာရှင်ကြီးသည် လွယ်လွယ်နှင့် အရှုံးပေးတတ်သော လူစားမဟုတ်။ အောင်လံတော်ကို မလုပ်ရသော်လည်း မူလချိန်းထားသော ရက်ချိန်းတွင် နယ်မှခရိုင်ခေါင်းဆောင်နှင့် အတွင်းရေးမှူးများကို ဌာနချုပ်သို့ ဆင့်ခေါ်ပြီး ရာထူးခန့်ပွဲတစ်ရပ် ကျင်းပလေသည်။

ထိုပွဲတွင် စည်းလုံးညီညွတ်ရေး၏ အဖိုးတန်ပုံကို ထည့်သွင်း ပြောကြားရာ၌

'ဂျပန်တွေလို ဟိုနေရာမှာ အာဏာပြ၊ ဒီနေရာမှာအာဏာပြ၊ တွေ့ကရာရှောက်ပြ နေနိုင်တာဟာ ဘာမှ အံ့ဩနေစရာ မလိုဘူး၊ သူတို့ ဒီလိုအာဏာပြတာတွေကို ကျုပ်တို့တတွေ မခံချင်ဘူးဆိုရင် သူတို့လိုပဲ ကျုပ်တို့တတွေ အာဏာပြချင်ကြရင် ကျုပ်တို့အားရှိအောင် လုပ်ကြ၊ ဒီလိုလုပ်နိုင်ဖို့ဟာ အားကလွဲပြီး ဘာမှ မတတ်နိုင်ဘူး၊ သူတို့လဲ အားရှိလို့ အာဏာပြနိုင်တယ်၊ ကျုပ်တို့လဲ အာဏာပြချင် ကြရင် သူတို့လို အားရှိဖို့ လုပ်ရမယ်၊ သေတယ်ဆိုတာ ဘာမှ အထူးအဆန်း မဟုတ်ဘူး၊ ကျုပ်တို့တတွေဟာ ဒီမှာ အသက်ကို ကိုယ်ထဲမှာ မထားဘဲ လက်ထဲမှာ ကိုင်သွားနေကြတယ်ဆိုတာ ကောင်းကောင်းမှတ်သွားလိုက်ကြပါ'

အစရှိသော စကားလုံးများကို တစ်ကိုယ်လုံး ဆတ်ဆတ်တုန်လှုပ်ခါ ထည့်သွင်းပြောကြားသွားလေသည်။

ကျွန်တော့် အနီး၌ထိုင်နေသော သခင်သန်းထွန်းက ကျွန်တော့် ဘက်သို့လှည့်၍။

'ဆရာကြီး ဒီကနေ့ တယ်ကြမ်းပါလား' ဟု ပြောလိုက်ရာ ကျွန်တော်က

'စကားပြောနေတုန်း စစ်တပ်က တစ်နေ့က လာကြိမ်းသွားတာ သတိရတယ်ထင်တယ်'

ဟု ပြန်ပြောလိုက်လေသည်။



## အခန်း ၁၀
## တောင်ငူက သန်းဖေ

အစည်းအရုံး တည်ထောင်၍ များမကြာမီ ဂျပန်စစ်ပုလိပ်များသည် ခြေချင်းလိမ်လျက်ရှိကြ၏။

တိုက်ရန်၊ ရှုံ့ရန် အဆင်သင့် စောင်နေသူများလည်း အခါကောင်းကြီးနှင့် ကြုံကြိုက်လာပြီ ဟူသော သဘောဖြင့် စာတိုနှင့် တစ်တန်၊ စာရှည်နှင့်တစ်ဖုံ၊ လူကိုယ်တိုင်ဖြင့် တစ်နည်း၊ အနည်းနည်းအဖုံဖုံ၊ မီးကုန်ယမ်းကုန် တိုက်ကြတွန်းကြလေ၏။

'အစည်းအရုံးရဲ့ နာမည်ထဲမှာ ဆင်းရဲသားဆိုတာ ဘာဖြစ်လို့ ထည့်တာလဲ၊ ဆင်းရဲသားဆိုတာ ကွန်မြူနစ်လို့ ဆိုတာလား'

'အစည်းအရုံးရဲ့ ရည်ရွယ်ချက်က ဘာလဲ'

'သခင်နု ဘာဖြစ်လို့ အစိုးရအဖွဲ့ထဲမှာ မပါသလဲ'

'အစည်းအရုံးထဲမှာပါတဲ့ သခင်တွေက ဒေါက်တာဘမော်ကို မကျေနပ်ဘူးဆိုတာ မှန်သလား'

'နယ်မှာ အစည်းအရုံးတွေ ဘယ်လောက်ထောင်ပြီးပလဲ'

'အစည်းအရုံးဝင်ပေါင်း ဘယ်လောက်ရှိမလဲ'

'အစည်းအရုံးထဲကို မဝင်ရင် အစိုးရက အရေးယူမယ် ဆိုတာ မှန်သလား'

အစရှိသော မေးခွန်းပေါင်းများစွာကို ကင်ပေတိုင် ဂျပန် သတင်းစာဆရာ၊ စစ်ဌာနချုပ်မှ အထူးခန့်ထားသော ဂျပန် စုံထောက် အစရှိသည့်သူများသည် နေစဉ်နှင့်အမျှ အလွန်ဆုံး ခြားလှလျှင် သုံးလေးရက်မျှ ခြား၍ ကျွန်တော့် ကိုယ်တိုင်ကသော်လည်းကောင်း၊ ကျွန်တော်နှင့် အတူတူ ဌာနချုပ်တွင် လုပ်လျက်ရှိသော အရာရှိများ၊ စာရေးများ၊ လုပ်သားများကိုသော်လည်းကောင်း မေးမြန်းစုံစမ်းလျက်ရှိလေသည်။

သူတို့စုံစမ်းပုံမှာ အမှတ်တမဲ့ ကြည့်လိုက်လျှင် တယ်ရိုးပါလားဟု ထင်ပေလိမ့်မည်။ ရိုးသည်ဟု မထင်ကြပေနှင့်။

ဥပမာ။ ရှေးဦးစွာ သူ့ကိုယ်သူ ကင်ပေတိုင်ပဲဟု ပြောင်ပြော၍ စုံစမ်းသောသူ လာ၍ မေးခွန်းများကို မေးလိမ့်မည်၊ 'သခင်နု ဘာဖြစ်လို့ အစိုး၍ အဖွဲ့ထဲမှာ မပါသလဲ' ဟူသော မေးခွန်းကို မေးသည့်အခါ 'ဂျပန်ဗမာ ချစ်ကြည်ရေးကို ထိထိရောက်ရောက် လုပ်ချင်လို့ပဲ' ဟု ပြန်ဖြေလိုက်လျှင် ဒီမေးခွန်းနှင့်ပတ်သက်သည့် ပြဿနာသည် အေးရောဟု မထင်လိုက်လေနှင့်။

ဂျပန်တွေ၏ ထူအန်းအန်း မျက်နှာများကိုကြည့်ပြီး ဂျပန်တွေကို တစ်ပတ်အရိုက်ရ လွယ်သည်ဟု ဆုံးဖြတ်ထားသောသူများက ဤကဲ့သို့ ဖြေပြီးသည့်အခါ 'ဂျပန်ကို ကျူပ် လှိမ့်လိုက်တာ လိမ့်သွားတာပဲ' ဟု ပြောတတ်ကြသည်။

ထိုကင်ပေတိုင်လည်း ဖြေသမျှစကားကို အကုန်ရေးယူလိမ့်မည်။ သို့ရာတွင် မကြာမီ ဂျပန်သတင်းထောက်တစ်ယောက် ပေါက်လာပေလိမ့်မည်။ 'ခင်ဗျားတို့ရဲ့ အစည်းအရုံးကြီးကို ဂျပန်သတင်းစာထဲမှာ ထည့်ချင်တယ်' ဟူ၍ အစချီပြီး မေးခွန်းပေါင်း အမြောက်အမြား မေးလိမ့်မည်။

သတင်းစာဆရာကား ကင်ပေဆိုသူထက် အနည်းငယ် ပို၍ လူရည်သန့်သည်။ အပြောအဆို စကားနှိုက် စကားယူတွင် ကင်ပေထက် လည်ပတ်သည်။

အမှားမပါအောင် အတော် သတိထားရသည်။ သတင်းထောက်နှင့် တွေ့၍လည်း လိုရာကို ပြောလိုက်ရသည်ဆိုပါတော့။ ဤကိစ္စ ပြီးပြီလား၊ မပြီးသေးပါ။

သကြားကလေးအစ စီးကရက်ကလေးအစ ပေးကမ်းရင်းမှ အကျွမ်းတဝင်ဖြစ်နေသော ဂျပန်သည် သူ့တစ်ယောက်တည်းသော်လည်းကောင်း ပေါ်လာလိမ့်မည်။

ထိုသူကား မလည့်တလည်ထဲကဆိုလျှင် ခပ်လည်လည် ဂျပန် တစ်ယောက်ယောက်ကို ခေါ်လာပြီး သူ့မိတ်ဆွေပဲဟု မိတ်ဖွဲ့ပေးလိမ့်မည်။

ထိုသူကား ဂျပန်ကင်ပေတိုင် ဂျပန်စစ်သား ဂျပန်ကုန်သည် အစရှိသောသူများ မကောင်းသည့်အကြောင်းကို ပြောလိမ့်မည်။ 'တယ်ဟုတ်တဲ့ ဂျပန်ပါလား' ဟု အဆွေ ဝမ်းထဲတွင်ရှိသော ဂျပန်ဆန့်ကျင်ရေး စကားများကို မပြောလိုက်လေနှင့်။

ထိုသူများနှင့် တွေ့ပြီးရုံနှင့် မပြီးသေး။ အဆွေ့ကို ကွန်မြူနစ်ဟု ဂျပန်များက သံသယဖြစ်နေလျှင် သူ့ကိုယ်သူ ကွန်မြူနစ်ပဲဆိုသော ဂျပန်များလည်း လာကြလိမ့်ဦးမည်။ ကွန်မြူနစ်ဖြစ်သော သူ့ညီတစ်ယောက် ဂျပန်ပြည်မှာ အဖမ်းခံနေရသည်။

ဂျပန်အစိုးရသည် ကွန်မြူနစ်များကို အလွန်ရက်စက်သည်။ တစ်နေ့မှ ထမင်းတစ်ဆုပ် ရေတစ်မှုတ်ကိုသာ တိုက်သည်။ တယ်ဆိုးတဲ့ အစိုးရပဲဟူသော စကားများဖြင့်လည်း အဆွေထံမှ စကားများကို နှိုက်လိမ့်မည်။

အချို့ကလည်း ကွန်မြူနစ်ဝါဒဆိုတာ အင်မတန်ကောင်းတဲ့ ဝါဒ၊ ဆင်းရဲသားတွေ ကောင်းစားအောင်လုပ်တဲ့ ဝါဒ၊ ဂျပန်အစိုးရ ကိုယ်တိုင်ပင်

ကွန်မြူနစ်ဝါဒထဲမှ လုပ်ငန်းများကို အများကြီးယူပြီး လုပ်နေရတယ် အစရှိသည်ဖြင့်လည်း အဆွေ့အား ရေလာမြောင်းပေး လုပ်ကြပေလိမ့်မည်။

သူတို့၏ ထူအမ်းအမ်း မျက်နှာကြီးကို ကြည့်ပြီး အဆွေ့ကိုယ်ကို အဆွေ လည်လှပြီဟူ၍ တစ်ပတ်ရိုက်မည် မကြံပါနှင့်။ 'ပြောပါများ အမှားပါ' ဟူသော စကားအတိုင်း ပြောသည့်အထဲမှ အမှားတွေ ပါချင် လျှင်လည်း ပါသွားပေလိမ့်မည်။

အဆွေက အမှန်ကိုပင် ပြောစေကာမူ စကားပြန်က တွေ့ကရာတွေ ပြန်လိုက်လျှင်လည်း အခက်ကြုံတတ်သည်။

ထိုကဲ့သို့ ကင်ပေတိုင်၊ သတင်းထောက်၊ မိတ်ဆွေ၊ ကွန်မြူနစ် အစ ရှိသော သူများသည် အဆွေ့ထံမှရသော သတင်းဟူသရွေ့ကို ဌာနချုပ်သို့ အစီရင်ခံရသည်။

ဝင်းပြင် အသင်းရုံ၊ ပွဲရုံ၊ ဈေးရုံ၊ ဘိန်းခန်းအစ လမ်းလျှောက်နေသော ဂျပိုးတွေ အလယ်၊ အဆွေ့ကို အမြင်ကပ်နေသော သူများ အဆုံးအထိ တွေ့ကရာမေးပြီး တွေ့ကရာဖြေထားသော အဖြေများနှင့် အတူတူ အထက်ပါအစီရင်ခံစာများကို ဌာနချုပ်မှ ယှဉ်၍ ဖတ်လေသည်။

ဤသို့ ဖတ်ပြီးမှ အဆွေသည် ဘာဆိုသည်ကို ဆုံးဖြတ်ချက်ချ လိမ့်မည်။

အထက်ပါ နည်းများကိုကား အဆွေသည် ရာထူးနှင့် မျက်နှာကြီး ဖြစ်လျှင်သာ အသုံးပြုလိမ့်မည်။ အကယ်၍ အဆွေသည် တော်ရုံတန်ရုံ လူစားထဲကဆိုလျှင် အဆွေသည် ဘာဖြစ်သည်ကို ဆုံးဖြတ်ရန် မခက်ပါ။

ရေနွေးပူတစ်ခွက်လောက် လောင်းလိုက်လျှင်သော်လည်းကောင်း၊ လက်သည်း သုံးလေးချောင်းလောက် ခွာလိုက်လျှင်သော်လည်းကောင်း၊ အဆွေ့ 'ငွေး' ကို ကျင်စက်နှင့် နှစ်ပတ်လောက် လှည့်လိုက်လျှင်သော်

လည်းကောင်း ဟုတ် ဟုတ်၊ မဟုတ်ဟုတ် သူတို့ထင်သည့်အတိုင်း အဆွေ ကိုယ်တိုင်က လျှင်လျှင်မြန်မြန်ကြီး ဝန်ခံလိမ့်မည်မှာမလွဲပေ။

ထို့ကြောင့် အစည်းအရုံးကိစ္စနှင့် ပတ်သက်၍ ဂျပန်တွေ ခြေရှုပ်လာသည့်အခါ ကျွန်တော်သည် လှမောင်နှင့် သခင်ချစ်ကို ခေါ်၍ တိုင်ပင်ရလေသည်။

လှမောင်သည် အင်္ဂလိပ်များ ဗမာနိုင်ငံမှ ထွက်သွားသည့်နှစ်တွင် ကျောင်းသားများ သမဂ္ဂအသင်း၏ ဥက္ကဋ္ဌဖြစ်သည်။

လှမောင်သည် တစ်ထွာပြလျှင် တစ်တောင်မြင်သောသူ ဖြစ်သည်။

သူသည် ဂျပန်တို့၏စိတ်ကို ထိခိုက်စေနိုင်မည့် မစ်ဇုအီရာ့ဇု ဟက္ကိုးအီချိယု အစရှိသော စကားများကို စုံစမ်းရှာဖွေ မေးမြန်းထားပြီးလျှင် သူ့ချက်နှင့်သူ ကြည့်ကြည့်ပြီး သုံးတတ်သည်။

သူပြောသည့်အခါ ကျွန်တော်တို့ပြောသည်ထက် ဂျပန်၏ စိတ်ကို ပိုပြီး ထိသဖြင့် အရေးကြီးလျှင် သူ့ကိုပင် လွှတ်ရသည်။

မကြာခဏ သွားရလွန်းအားကြီး၍ ကာနယ်ဟီရာအိုကာက တစ်နေ့သ၌ ကျွန်တော်နှင့်တွေ့ရာ

'သခင်နု၊ လှမောင်က ကျုပ်ကို ဆိုက်ကားလုပြေးတဲ့ကိစ္စကလေးတွေအထိ လိုက်အလုပ်ခိုင်းနေပြီ၊ လုပ်ပါအုံး'

ဟု ပြောခဲ့ရဖူးသည်။

ကျွန်တော်တို့လည်း ကျွန်တော်တို့ ကိုယ်တိုင်နှင့် ကျွန်တော်တို့၏ ရဲဘော်များကို ဂျပန်ရမ်းကားမှုများမှ တတ်စွမ်းနိုင်သလောက် ကာကွယ်တားဆီးလျက်နေကြရစဉ် တစ်နေ့သ၌ တောင်ငူတွင် သခင်ခေါင်းဆောင်တစ်စုကို ကင်ပေတိုင်က ဖမ်းပြီ ဟူသော သတင်းသည် ကျွန်တော်တို့၏ ထိပ်ပေါ်သို့ ဝါးရင်းတုတ်နှင့် နာနာရိုက်လိုက်သလို မျက်စိကို ပြာနေအောက်သွားစေ၏။

အဘယ့်ကြောင့်ဆိုသော် ထိုသခင်ခေါင်းဆောင်များကို ကင်ပေတိုင်က သတ်ပစ်ရန် စီစဉ်နေပြီဟူ၍ သတင်းပို့သူထံမှ စုံစမ်းသိရှိရသောကြောင့်ပင် ဖြစ်ပေသည်။

ထိုသတင်းပို့သူ၏ သတင်းအရဆိုလျှင် သခင်ခေါင်းဆောင်တစ်ဦးကိုလည်း တောင်ငူပိုင် ကညွတ်ကွင်း၏ လမ်းမတစ်ခုပေါ်တွင် ကင်ပေတိုင်ဗိုလ်လုပ်သူက တွေ့တွေ့ချင်း ခြောက်လုံးပြူးနှင့် ပစ်သတ်ပြီးပြီဟု သိရ၏။

ထို့ကြောင့် လှမောင်ကို ကာနယ်ဟီရာအိုကာထံသို့ လွှတ်၍ ကျွန်တော်လည်း ဘာလုပ်ရမှန်း မသိသဖြင့် အိမ်တော်ကြီး၌ ရှိသော အုပ်ချုပ်ရေးမှူး ကာနယ်နာစူးထံသို့ အတင်းပြေးရ၏။

အိမ်တော်ကြီးတွင် ဗိုလ်ချုပ်အောင်ဆန်းနှင့် အရင်တွေ့၍ အကျိုးအကြောင်းပြောရာ

'တခြားဟာတွေထက် သခင်တွေကို မသတ်ပါနှင့်အုံးလို့ ဝိုင်ယာလက်နဲ့ တားပေးဖို့ကို အရင်ပြော'

ဟု အကြံပေးလိုက်သဖြင့် ကာနယ်နာစူးနှင့် တွေ့လျှင် တွေ့ချင်း ဝိုင်ယာလက်နှင့် တားပေးရန် ပြောရလေ၏။

ကာနယ်နာစူးလည်း ကောင်းရှာပါသည်။ ကင်ပေ စစ်ဗိုလ်ချုပ်ကြီး မေဂျာဂျင်နရယ် မတ်ဆူးအိုကားထံသို့ သူ့ စစ်ဗိုလ်ကလေးတစ်ဦးကို ချက်ချင်းလွှတ်၍ အတားခိုင်းလေသည်။

၎င်းပြင် ကျွန်တော်ကိုယ်တိုင် မေဂျာဂျင်နရယ်မတ်ဆူးအိုကားနှင့် တွေ့၍ ရှင်းပြနိုင်လျှင် ပိုကောင်းမည်ဟု ပြောပြီး နောက်တစ်နေ့ မေဂျာဂျင်နရယ် မတ်ဆူးအိုကား၏ ရုံးခန်းတွင် တွေ့ကြရန် ချိန်းပေးလေသည်။

မေဂျာဂျင်နရယ် မတ်ဆူးအိုကားနှင့် နောက်တစ်နေ့တွင် တွေ့ကြသောအခါ သူလည်း အမှုအကြောင်းနှင့်ပတ်သက်၍ စုံစမ်းထားကြောင်း၊

သို့သော်လည်း ဝိုင်ယာလက်ကို မနေ့က ချက်ချင်း ပို့လိုက်ကြောင်း၊

နောက်ထပ် သတင်းထူးလျှင် အကြောင်းကြားဦးမည် ဖြစ်ကြောင်းတို့ကို ကျွန်တော့်အား ပြောပြလေသည်။

ကာနယ်နာစူးသည် ကျွန်တော်နှင့် ကင်ပေတိုင် ဗိုလ်ချုပ် ဘဲလူးတွေ့ ဒူးတွေ့ တွေ့သွားလျှင် (ဘောက်)တွေ ဖြစ်လာမည် စိုးသောကြောင့် ရှေးဦးစွာ သူနှင့်တွေ့ပြီး ကင်ပေတိုင်တွေ ရမ်းကားကြောင်းကို ပြောထားနှင့်ဟန်တူသည်။

ကာနယ်ဟီရာအိုကားလည်း ကာနယ်နာစူးနှင့် မေဂျာဂျင်နရယ် မတ်ဆူးအိုကား နှစ်ဦးစလုံးကို ထိုနေ့က ဤကိစ္စနှင့် ပတ်သက်၍ အရေးတကြီး ပြေး၍တွေ့သေးသည်။

ကျွန်တော်သည် ကင်ပေတိုင် ဗိုလ်ချုပ်နှင့် သွား၍ တွေ့သောအခါ၌လည်း တလွဲတချော်ဖြစ်မည်စိုးသဖြင့် သူ စိတ်ချယုံကြည်ရသော စိန်မီးယားဆိုသူ ဂျပန်စကားပြန် တစ်ယောက်ကို ထည့်လိုက်သေးသည်။

ကင်ပေစစ်ဗိုလ်ချုပ်နှင့် တွေ့ပြီး နောက်တစ်နေ့တွင် အိမ်တော်ကြီးသို့ ကျွန်တော့်ကိုခေါ်၍

'ဒီကိစ္စအတွက် တောင်ငူကို သခင်နုကိုယ်တိုင် လိုက်သွားပြီး ဟိုကစစ်ပုလိပ်နှင့် ရှင်းနိုင်လျှင် သာပြီး ကောင်းမယ်'

ဟု ကာနယ်နာစူးက ပြောလေသည်။

ဝိုင်ယာလက်နှင့် တားပြီးပြီဟုဆိုသဖြင့် စိတ်အနည်းငယ်အေးသွားသောကြောင့် ရန်ကုန်တွင် အရေးကြီး အလုပ်များကို လုပ်ကိုင်ပြီး ရက်အနည်းငယ်အကြာတွင် ကျွန်တော်သည် စစ်ရုံးမှ မစ္စတာယူတာနီဆိုသူနှင့်အတူ တောင်ငူသို့ သွားလေ၏။

တောင်ငူတွင် ကင်ပေစစ်ဗိုလ် စိုင်ဂျိဆိုလျှင် လူတိုင်းသိသည်။ သူ၏ ရုပကာယကား အဘယ်မျှနေသည်ကို ကျွန်တော်နှင့် ပါလာသော ဂျပန်အချင်းချင်းက ပြောပြသည်။

'သခင်နု ဒီကောင်ဟာ လူထက် ဘီလူးနဲ့က ပိုပြီးတူတယ်၊ ဒီကောင် ရုပ်ကိုကြည့်ပြီး ဒီကောင် လူတွေ ထင်သလိုသတ်နေတယ်ဆိုတာ ကျွန်တော် မအံ့သြဘူး'

ဟူသော စကားနှင့်ပင် အကဲခတ်နိုင်ပြီ။ သူ့မျက်နှာကို ကြည့်ရသည်မှာ အလကားနေရင်း စိတ်ဆိုးနေသလိုထင်ရ၏။

တစ်ခါက လူတစ်ယောက်ကို သူခိုးထင်ပြီး လက်နောက်ပြန်တုတ်၍ ထုတ်မှာဆွဲလိုက်ရာ ညှပ်ရိုးကျိုးသွား၏။ နောက်တစ်နေ့တွင် သူခိုးအစစ်ကို မိမှ ညှပ်ရိုးကျိုးသွားသူကို 'သွားတော့' ဆိုပြီး လွှတ်လိုက်၏။

တစ်ခါကလည်း ဘာလုပ်စရာမှမရှိသဖြင့် ကင်ပေစစ်ရုံးပေါ်မှ ထိုင်၍ လမ်းမဘက်သို့ ကြည့်နေစဉ် လူတစ်ယောက် လျှောက်လာသည်ကို မြင်သဖြင့် ဝင်းထဲသို့ခေါ်ယူပြီး ထိုသူအား ဖမ်း၍ မြေပေါ်သို့ ပေါက်ချလိုက်ရာ ထိုသူသည် မြေပေါ်တွင် ပုံလျက်သား စကားမေးမရဘဲ ဖြစ်သွား၏။

ဤသည်တို့ကား စိုင်ဂျို၏ အသက်သာဆုံး အဖြည်းညှင်းဆုံး အစာနာဆုံးသော ကျီစယ်ခြင်းများ ဖြစ်လေသည်။

ဤသို့ ဂုဏ်ထူးဝိသေသတို့နှင့် ပြည့်စုံလျက်ရှိသော စိုင်ဂျို၏ လက်တွင်းသို့ ရောက်ရရှာသည့်သူများမှာ မည်မျှကျောစိမ့်အောင် ကြောက်ကြလိမ့်မည်နည်း။

သို့ရာတွင် သခင်သန်းဖေ၏ ရဲရင့်မှုကြောင့် သူနှင့်တကွ အတူတူ ဖမ်းထားသော သူ့ရဲဘော်များမှာ အသက်ချမ်းသာရာ ရလေသည်။

အကြောင်းကား ဤသို့တည်း။

စိုင်ဂျိုသည် သန်းဖေအား မသတ်မီ ဂျပန်လိုရေးထားသော စာရွက်တစ်ခုပေါ်တွင် လက်မှတ်အထိုးခိုင်း၏။

သန်းဖေလည်း 'ငါ နားမလည်ဘဲနဲ့ အရမ်းလက်မှတ်မထိုးနိုင်ဘူး'ဟု အတင်းငြင်းနေသဖြင့် လက်နှစ်ဘက်ကို ထုတ်တွင် ဆွဲ၍ မေ့မြောသွားသည့်တိုင်အောင် နံဘေးကို သံတုတ်နှင့်ရိုက်သည်။

သန်းဖေသည် ငြင်းမြဲ ငြင်းလျက်ရှိ၏။ ဤသို့ ငြင်းတိုင်းလည်း စိုင်ဂျိုသည် သန်းဖေအား အထက်နည်းအတိုင်း နှိပ်စက်လျက်ရှိ၏။

တစ်နေ့လည်း သန်းဖေထိုင်နေရာတွင် သူ့ဘွတ်ဖိနပ်ကြီးနှင့် နဖူးကို ဆောင့်ကန်လိုက်ရာ နောက်စေ့နှင့် နံရံနှင့်ထိပြီး သတိလစ်သွားခဲ့ဖူးသည်။

တစ်နေ့တွင် မျက်နှာကို အဝတ်နှင့်စီး၍ သုသာန်သို့ပင် ခေါ်သွားသေးသည်ဟု သိရှိရ၏။

ဤကဲ့သို့ ငြင်းဆန်နေစဉ် ရန်ကုန်မှ ဝိုင်ယာလက်လာသဖြင့် စိုင်ဂျိုသည် ဝမ်းနည်းစွာဖြင့် သတ်ရန် သူ့အကြံကို လက်လျှော့လိုက်ရဟန်ရှိလေသည်။

လက်မှတ်ထိုးခိုင်းသောစာသည် သန်းဖေ၏ ဖြောင့်ချက်အနေနှင့် စိုင်ဂျို တွေ့ကရာရေးထားသောစာ ဖြစ်ဟန်ရှိသည်။

ဤဖြောင့်ချက်ကို လက်မှတ်ထိုးပြီးလျှင် သတ်တော့မည်ဟု သန်းဖေတို့လူစု ထင်ကြသည်။

ကျွန်တော်တို့ တောင်ငူသို့ရောက်သောအခါတွင် သန်းဖေတို့လူစုကား လွတ်လျက်ရှိလေပြီ။

ကျွန်တော်တို့၏ ရှေ့တွင် သန်းဖေတို့နှင့် တွေ့ကြသောအခါ စိုင်ဂျို၏ မျက်နှာမှာ ဖျားရည်လူးထားသလားဟု မှတ်ထင်ရ၏။ တတ်လည်း တတ်နိုင်သော ဂျပန်ပေတည်း။

❒

## အခန်း ၁၁
## အလုပ်သစ်

တောင်ငူသန်းဖေတို့၏ ကိစ္စကို အကြောင်းပြုပြီး စစ်ပုလိပ်ဗိုလ်ကြီး မေဂျာ ဂျင်နရယ် မက်စူးအိုကားနှင့် ကျွန်တော်တို့မှာ တစ်ယောက်နှင့် တစ်ယောက် အတော်ကလေး ခင်ခင်မင်မင်ဖြစ်လာကြ၏။

သူ့ကိုအကဲခတ်ရသည်မှာ အလွန်ဖြောင့်၍ ရှုပ်ရှုပ်ပွေပွေလုပ်သည်ကို စက်ဆုတ်ပုံရ၏။

မှန်သည်ဟုထင်လျှင် မကြောက်မလန့်ဘဲ လုပ်ရဲသော လူရွတ်ကြီးနှင့် တူ၏။

သူ့မျက်နှာမှာ အိပ်မောကျနေစဉ် အတင်းနှိုးသဖြင့် ထလာရသော မျက်နှာမျိုးဖြစ်၏။

တစ်နေ့သ၌ တောင်ငူသန်းဖေတို့၏ ကိစ္စကိုပင် စကားလက်ဆုံကျပြီး ပြောနေကြစဉ် နယ်၌ များစွာသော သခင်များကို ကတုံးကတိုက်လုပ်သော သူများ၏ ပယောဂကြောင့် စစ်ပုလိပ်များက မကြာခဏ ဖမ်းဆီးနှိပ်စက်နေသည့် အကြောင်းသို့ ရောက်သွားကြလေ၏။

မတ်စူးအိုကားက သူ့စစ်ပုလိပ်များသည် လူစိမ်းများဖြစ်နေသေးသဖြင့် တိုင်ချက်ရသမျှ အရေးယူရခြင်းဖြစ်ကြောင်း၊

အမှုမှန် ဖြစ်စေချင်လျှင် နယ်စစ်ပုလိပ်ရုံးများတွင် ယုံကြည်ရသောသခင်များကို တွဲပြီး ခန့်ထားရန်ကောင်းကြောင်း အစရှိသော အကြံများကိုပေးသဖြင့် သခင်စံဝေကို စစ်ပုလိပ်ဌာနချုပ်တွင် တွဲထားရသည်။

၎င်းနောက် နယ်စစ်ပုလိပ်ရုံးများတွင် အမှုမှန်ဖြစ်အောင် အကြံပေးနိုင်သူများအား ခန့်ထားရန် မတ်စူးအိုကားထံမှ လက်မှတ်တစ်စောင် ယူပြီးသခင်စံဝေကိုယ်တိုင် တတ်နိုင်သရွေ့ နယ်ထွက်ရလေသည်။

သခင်ချစ် သခင်စံဝေနှင့် လှမောင်တို့လည်း အလွန်ကြိုးစားကြပါပေသည်။

သူတို့ဆီကို အမှုတွေ ရောက်လာတိုင်း ကျွန်တော့်ကို ဒုက္ခမပေး။ သူတို့ မတတ်နိုင်သလောက်ရှိမှ ကျွန်တော် ဝင်၍ ကိုင်ရသည်။

ကျွန်တော်ကိုင်ခဲ့ရသော အမှု လေးငါးခုထဲတွင် စိတ်ဝင်စားစရာအကောင်းဆုံးမှာ ဘီဒီအေစစ်တပ်မှ ဗိုလ်ဗတင်၏အမှုပင် ဖြစ်လေသည်။

ထိုအခါက ဗမာ့တပ်မတော်တွင် ဂျပန်စစ်ပုလိပ်တို့ မဲမဲသဲသဲအလိုက်ဆုံးသော စစ်ဗိုလ်တစ်ဦးမှာ ဗိုလ်လက်ျာဖြစ်သည်။

ဂျပန်ကို ပြန်ချရန်ကိစ္စ စီစဉ်သမျှဗိုလ်လက်ျာနှင့် အဆက်မကင်းသလောက် သူတို့စွဲလမ်းထားကြသည်။

ထိုအတောအတွင်း စစ်တယ်လီဖုန်းကြိုးတွေ မန္တလေးတစ်ဝိုက်ဆီတွင် အတော်ပြတ်လျက်ရှိသည်။

အမှန်စင်စစ် ဤသို့ပြတ်ရသည်မှာ ဂျပန်ဆန့်ကျင်ရေးသမားများ၏လုပ်ငန်းမဟုတ်ချေ။

တယ်လီဖုန်းကြိုးကလေးများကလည်း အလွန်လှသည်။

မြင်လျှင် ဖြတ်ချင်စဘွယ်။ ၎င်းတို့ကို သွယ်တန်းထားသည်မှာလည်း ဂျပန်ထုံးစံအတိုင်း ဖြစ်ကတတ်ဆန်း။ မြေကြီးပေါ်တွင် ကျနေသည့်ကြိုးတွေမှာလည်း တစ်ပုံကြီး၊ အမြင့်ဆုံး ဆိုသည်မှာလည်း လက်တစ်လှမ်းမီသည့် နေရာလောက်သာ ရှိသည်။

ထို့ကြောင့် ကလေးများကသော်လည်းကောင်း၊ တောတွင် အလုပ်လုပ်ကြသည့် ထင်းခွေသမား လှည်းသမား အစရှိသည်တို့ကသော် လည်းကောင်း ဖြတ်တောက်ပြီး အိမ်တွင် အလှထားကြပါလိမ့်မည်။

တချို့အိမ်များတွင် ကြိုးတန်းလုပ်ကြသည်ဟု ကြားသိရသည်။

သို့သော်လည်း ဂျပန်စစ်ပုလိပ်တို့ကမူကား ဤသို့ ပြတ်သည်ကို တွေ့ရတိုင်း ဗိုလ်လက်ျာတို့လူစု ဖြတ်သည်ဟု ထင်ကြသည်။

ထို့ကြောင့် အနီးအနားရှိ တွေ့ကရာလူကို ဖမ်းပြီး 'ဒီကြိုးတွေကို ဗိုလ်လက်ျာက အဖြတ်ခိုင်းလို့ မင်းဖြတ်တယ်မဟုတ်လား၊ မှန်မှန်ပြော' ဆိုပြီး 'ဟုတ်ပါတယ်' ဟု အဖြေမရမချင်း ညှဉ်းလေသည်။

အညှဉ်းခံရသူများလည်း နာလွန်းသဖြင့် ဟုတ်ပါတယ်ဟု ပြောရလေသည်။ ဤသို့ပြောမှ ခေတ္တ အညှဉ်းသက်သာလေသည်။

အထက်ပါအမှုနှင့် ပတ်သက်ပြီး အဖမ်းခံရသူအထဲတွင် တရားမတရားသူကြီးတစ်ဦးလည်း ပါဝင်သည်။ သူ့ကိုလည်း ထုံးစံအတိုင်း ညှဉ်းပြီး စစ်ဆေးရာ ဘုမသိဘမသိဘဲနှင့် ဗိုလ်လက်ျာက ခိုင်း၍ လုပ်ရပါတယ်ဟု ထွက်ရရှာလေ၏။

သို့သော်လည်း ဗိုလ်လက်ျာမှာ ဗမာ့တပ်မတော်တွင် ဒုတိယအကြီးဆုံး အရာရှိကြီး ဖြစ်နေသဖြင့် ဖြုန်းခနဲ မဖမ်းသေးဘဲ သူ၏ အပါးတော်မြဲ လုပ်ဖူးသော ဗိုလ်ဗတင်ကို ပဏာမအဖြစ်ဖြင့် ဆွဲလိုက်ခြင်း ဖြစ်လေသည်။

တို့သူ ရှိသူများကလည်း အများကြီး တို့ ရှိထားကြသဖြင့် ဂျပန် စစ်ပုလိပ်များကလည်း ဂျပန်ပုန်ကန်မှုကြီး၏ သဲလွန်စကိုရပြီဟု ထင်မှတ် လျက်ရှိကြ၏။

ထို့ကြောင့် ပို၍သတင်းစုံရနိုင်ရန် တရားမ တရားသူကြီးကို ရန်ကုန် စစ်ပုလိပ်ဌာနချုပ်သို့ ပို့လိုက်ရာ တရားသူကြီးသည် လမ်းတွင် မီးရထား ပေါ်မှ ခုန်ချထွက်ပြေးသွားလေ၏။

အမှု၏ ဤအခြေအနေတွင် ကျွန်တော်တို့ ဝင်၍ကိုင်ရခြင်းဖြစ်သည်။

ကျွန်တော်လည်း အမှုအကြောင်းနှင့် ပတ်သက်၍ အဘိုးကြီးကို တိုက်ရိုက်မပြောဝံ့။ နိဒါန်းအနေနှင့် တယ်လီဖုန်းကြိုးများကို ဖြတ်သည် မှာလည်း ဂျပန်ကို ဆန့်ကျင်သည့် သဘောမျိုးမဟုတ်ဘဲ တောသူ တောင် သားများ မသိ၍ ဖြတ်ကြခြင်း ဖြစ်ကြောင်း။

သို့သော်လည်း ဤအချက်ကိုကိုင်ပြီး ကြားလူများက တို့မီး ရှို့မီးများ လုပ်ကြကြောင်း အစရှိသည်တို့ကို သုံးလေးခေါက်လောက် သွား၍ ပြောထားနှင့်သည်။

အတော် နူးလောက်ပြီဟု ထင်သည့်အခါ သခင်မြနှင့် သခင်သန်းထွန်း တို့ထံသို့ ပြေးပြီး 'နေရာတော့ အတော်ကျနေပြီ၊ ခင်ဗျားတို့နှစ်ယောက် တွန်းလိုက်ရင် ပြိုရုံပဲရှိတော့တယ်' ဟု ပြောပြီး ကျွန်တော်တို့သုံးဦး အဘိုးကြီးထံသို့ သွား၍ လည်ကြသည်။

အဘိုးကြီးလည်း ဝန်ကြီးသခင်မြနှင့် ဝန်ကြီးသခင်သန်းထွန်းတို့ ယခုလို လာ၍ လည်ကြသည့်အတွက် အလွန် ကျေနပ်လျက် ရှိသည်။

ဂျပန်များသည် သူတို့ထံသို့ ယခုကဲ့သို့ ဂရုတစိုက် လာ၍ လည်ကြ ခြင်းကို အတော်ကြိုက်သည်ဟု လှမောင် ပေးထားသော တစ်မှာ အလွန် အသုံးဝင်လျက်ရှိသည်ကို တွေ့ရသည်။

ဤသို့ အဘိုးကြီး ကျေနပ်နေသည့် အခွင့်ကောင်းကိုယူ၍ သခင်မြနှင့် သခင်သန်းထွန်းတို့က ဗိုလ်ဗတင်ကို လွှတ်ပေးရန် အဆိုသွင်းလိုက်ရာ အဘိုးကြီးလည်း မကြာမီလွှတ်ပေးပါမည်ဟု ဝန်ခံရလေ၏။

ဗိုလ်ဗတင်လည်း သူ့ကတိအတိုင်း မကြာမီ လွတ်၍ လာလေသည်။

သခင်ချစ်၊ သခင်စံဝေ၊ လှမောင်တို့ သုံးဦးမှာကား ဤအမှုမျိုးတွေကို ကိုင်ရသည်မှာ လူနှင့်အမှု ဗလုံးဗထွေး ဖြစ်လျက်ရှိလေသည်။

လှမောင်မှာ နေမြင့်အောင် အိပ်တတ်သည်။

အမှုသည်များက အစောကြီး ရောက်တတ်ကြသောကြောင့် မကြာခဏ ဇိမ်ပျက်ရလေသည်။

မောင်မင်းကြီးသားများလည်း များစွာ တော်ရှာကြပါပေသည်။

သူတို့ကိုယ်တိုင် မနိုင်သည့် ကိစ္စလောက်မှသာ ကျွန်တော့်ကို အသိပေးကြသည်။

နိုင်လောက်သည့် ကိစ္စများတွင်မူကား နေပူမရှောင် မိုးရွာမရှောင် ညမရှောင် ဇွဲကောင်းကောင်းနှင့် ဒုက္ခသည်များကို ကယ်ခဲ့ကြပါပေသည်။

ကာနယ်ဟီရာအိုကားမှာ မူကား လူပျော်ကြီးဖြစ်သည်။ သူပြောခဲ့သည့်အတိုင်းပင် ဆိုက်ကားလုပြေးသည့် ကိစ္စအစ ဂျပန် ဗမာ ဖြစ်သော ကိစ္စတိုင်းတွင် သူ့ထံသို့ ပြေးသည်။

တစ်ခါမှ ငြင်းဖူးသည် မရှိ၊ အတော်ဖင်ပေါ့သည်။ ပြောလိုက်လျှင် သားရေအိတ်ကြီးဆွဲပြီး ဆိုင်ရာဌာနသို့ ချက်ချင်းသွားသည်။

ဆိုင်းငံ့ခြင်း၊ ရက်ချိန်းရွှေ့ခြင်းမရှိ။ ဂျပန်များ ရမ်းကားသော ကိစ္စများတွင် ကျွန်တော်တို့လည်း သူ့ကို အတော်အားကိုးရသည်။

သူလည်း ကျွန်တော်တို့ကဲ့သို့ပင် စစ်ပုလိပ်များ ရမ်းကားခြင်းကို အလွန်စက်ဆုပ်သည်။



## အခန်း ၁၂
## လွတ်လပ်ရေး စီစဉ်မှုအဖွဲ့

ဗမာနိုင်ငံသည် လွတ်လပ်ရေး ရတော့မည်။

လွတ်လပ်သည့် ဗမာနိုင်ငံကို အုပ်ချုပ်ရန်အတွက် အုပ်ချုပ်ရေးကို ရေးဆွဲရန် အဖွဲ့တစ်ခုကို ဖွဲ့ရတော့မည်။

ဤအဖွဲ့အတွက် ဂျပန်အချို့နှင့် ဗမာအချို့မှာ အထူး လှုပ်ရှားထကြွလျက်ရှိကြ၏။

ဗမာများထဲ၌ လှုပ်ရှားခြင်းမှာ အဖွဲ့ထဲသို့ပါရန်အတွက် ဖြစ်၏။

ဂျပန်များကမူကား အဖွဲ့ထဲတွင် ဒေါက်တာဘမော်၏ အင်အားကို ခွဲပစ်ရန်အတွက် ဖြစ်၏။

အဖွဲ့ဝင်ဖြစ်မည့်သူထဲမှ အချို့လည်း သူတို့ဘက်သို့ ပါသလောက် ပါလျက်ရှိကြပြီ။ သူတို့ဘက်တွင် ခေါင်းသူကြီးလုပ်သူမှာ နာမည်ကျော် အော်စေးကိုးပင်ဖြစ်၏။

သူသည် စစ်အုပ်ချုပ်ရေးအဖွဲ့၏ နိုင်ငံရေးဌာနတွင် အကြီးဆုံး အရာရှိ ဖြစ်သည်။

သူ၏ အကြီးဆုံးလုပ်ငန်းမှာ ဂျပန်စစ်တပ်အတွက် ရုပ်သေးရုပ်များ ရှာပေးရန်ပင် ဖြစ်လေသည်။

တစ်ညနေစောင်းတွင် ကျွန်တော်၏အိမ်သို့ ပရော်ဖက်ဆာအီဝါးမား ဆိုသူ ဂျပန်တစ်ဦး ပေါက်လာလေသည်။

အီဝါးမားသည် ဗမာအစိုးရ ပညာရေးဌာနတွင် အကြံပေးအရာရှိ ဖြစ်သည်။

ကျွန်တော်တို့ မန္တလေးသို့ အတူတူသွားကြရာမှ အတော်ရင်းနှီးလာကြသည်။

အီဝါးမား။ 'အရေးကြီးတဲ့ စကားတစ်ခု ပြောချင်တယ်၊ နှုတ်လုံပါ့မလား'

ကျွန်တော်။ 'လုံပါတယ်'

အီဝါးမား။ (တောင် မြောက် လေးပါးကို ကြည့်ပြီး)

'ဒီမှာ မပြောချင်ဘူး၊ အပြင်ကို လိုက်ခဲ့ပါ'

ဤအဘိုးကြီးသည် ဘဝင်မြင့်ပြီး ဘာမဟုတ်တာကလေးနှင့် အလုပ်အမြဲရှုပ်နေပုံပေါ်သော လူစားမျိုးဖြစ်သည်။

သို့သော်လည်း သူစိတ်ကျေနပ်အောင် ကျွန်တော်လည်း သူနှင့်အတူ လိုက်သွားရာ အင်းလျားကန်တွင်းသို့ ရောက်သွားလေသည်။

လူပြတ်သော တစ်နေရာသို့ ရောက်သောအခါ

အီဝါးမား။ (တောင် မြောက်လေးပါးကို ကြည့်ပြန်ပြီး) 'ဒေါက်တာဘမော်ဟာ ပါးစပ်က ဂျပန် ဂျပန်လို့ မြည်ပြီး သူ့ဝမ်းထဲက ရန်သူစိတ်ရှိတယ်'

'ဂျပန်စာကို ဗမာကျောင်းတွေမှာ မသင်မနေရတဲ့ ဘာသာဖြစ်အောင် လုပ်ပါလို့ တို့ပြောတယ်၊ သူ သဘောမတူဘူး၊

'အင်္ဂလိပ်စာကိုတော့ သူသင်မယ် ပြောတယ်၊

'ရန်သူစိတ်ရှိတာ ပေါ်ပြီ မဟုတ်လား၊ မင်း သူ့အိမ် ထမင်းစားခန်းထဲကို ရောက်ဖူးတယ် မဟုတ်လား၊ ကြည့်စမ်း နံရံမှာ ဆွဲထားတယ်၊ အင်္ဂလိပ်ရှင်ဘုရင်ရဲ့ လက်မှတ်'

(အမှန်စင်စစ် အင်္ဂလိပ်ရှင်ဘုရင်၏ လက်မှတ်မဟုတ်၊ ဘိသိက်ပွဲသို့ ဒေါက်တာဘမော် တက်ရောက်စဉ်က ရှင်ဘုရင် တက်ရောက်မည့် လန်ဒန်မြို့တော်ဝန်၏ နေ့လယ်စာ စားပွဲသို့တက်ရောက်ရန် ဖိတ်ကြားစာဖြစ်သည်။ ဒေါက်တာဘမော်သည် ၎င်းဖိတ်စာကို မှန်ဘောင်သွင်း၍ ထမင်းစားခန်း၏ နံရံတစ်ခုပေါ်တွင် ဆွဲထားသည်။ အီဝါးမား မပြောမီ ဂျပန်တစ်ဦး နှစ်ဦး ကျွန်တော့်အား ဤအကြောင်းကို မေးကတည်းက ကျွန်တော်လည်း ဒေါက်တာဘမော်ကို သတိပေးခဲ့ဖူးသည်။ ကိစ္စမရှိပါဘူး ဆိုပြီး ဆွဲမြဲ ဆွဲထားသည်။)

ကျွန်တော်။ 'ခင်ဗျားတို့ကလဲ အလွန်ကျပ်တဲ့ လူတွေပဲ၊ ခိုင်းတာ တစ်ခု မရရင် ရန်သူစာရင်းထဲ သွင်းလိုက်တာပဲ၊ ဂျပန်စာကို မသင်ဘူးလို့ ပြောတာမှ မဟုတ်ဘဲ၊ ခင်ဗျားတို့ရဲ့ ဂျပန်ယူနီဘာစီတီတွေမှာ ဗမာစာကို မသင်မနေရ လုပ်ပေးပါဆိုရင် ခင်ဗျား ခံနိုင်ပါ့မလား'

အီဝါးမား။ 'ဘာပဲဖြစ်ဖြစ်ကွာ၊ တို့စစ်တပ် တစ်တပ်လုံးကတော့ ဘမော်ကို ရန်သူစိတ်ရှိတဲ့ လူတွေရဲ့ စာရင်းထဲ သွင်းလိုက်ပြီ'

ကျွန်တော်။ 'ဒါတော့ ခင်ဗျားတို့ သဘောပေါ့'

အီးဝါးမား။ 'သခင်နု၊ နိုင်ငံရေးသမားတွေအတွက် တစ်သက်မှ တစ်ခါတောင် ပေါ်ဖို့ခဲယဉ်းတဲ့ အခွင့်အရေးတစ်ခု ပေါ်လာရင် ယူရဲပါ့မလား'

ကျွန်တော်။ (စကားချူလိုသော သဘောဖြင့်)

'ဘာဖြစ်လို့ မယူရဲရမှာလဲ'

အီဝါးမား။ 'အင်း ဒီလိုဆိုရင်ဖြင့် ကျုပ်တို့နှစ်ယောက် မိတ်ဆွေ ဖြစ်ပြီ' (လက်ဆွဲ နှုတ်ဆက်သည်။)

ကျွန်တော်။ 'ဘာအခွင့်အရေးများလဲ ပြောပါအုံး'

အီဝါးမား။ 'အခု မပြောသေးဘူး၊ မနက်ဖြန် အော်စေးကိုးအိမ်ကို လာနိုင်မလား၊ နေ့လယ်စာစားရင်း စကားပြောရအောင်'

ကျွန်တော်။ 'လာတာပေါ့'

အီဝါးမားလည်း အကြံအောင်ပြီဟူသော သဘောမျိုးနှင့် ပြန်သွားလေ၏။

ဂျပန်ပေးသည်ကို ငမ်းငမ်းတက်လိုချင်နေသော သူတို့အဖို့ကား လောဘဇောဖုံးလွှမ်းနေသဖြင့် ဂျပန်၏ ကွက်ကျော် အလုံးများသည် အလွန်ထိသော အလုံးများ ဖြစ်ကြသည်။

အီဝါးမားလုပ်သွားသည့် ကွက်ကျော်မှာ ဂျပန်ထံမှ လက်ဝေခံပြီး သုံးမည့် လူစားမျိုးအတွက် အတော်စဉ်းစား၍ ကောင်းသောအချက်ပင် ဖြစ်လေသည်။

'ဒေါက်တာဘမော်ကို ဂျပန်စစ်တပ်က ရန်သူစာရင်းထဲ သွင်းလိုက်ပြီ'

'နိုင်ငံရေးသမားများ တစ်သက်တစ်ခါတောင်မှ ပေါ်နိုင်ခဲသော အခွင့်အလမ်းမျိုးရလျှင် မင်း ယူရဲမည်လား'

ဖဲသုံးချပ်သမားများသည် လိမ်သည်ဟူသော သတင်းမှာ လူတိုင်းသိ ဖြစ်၏။ ဖဲသုံးချပ်ကို ချသည့်အခါလည်း ရှင်းရှင်းကလေးဖြစ်၏။

သို့သော်လည်း ကိုယ့်လောဘ ကိုယ်မနိုင်သည့်သူများမှာ ဝင်၍ လောင်းမိကြရာ ခါးတွင်ဝတ်ထားသော လုံချည်ကိုပါ ချွတ်ပေးခဲ့ကြရ၏။

ထိုနည်းအတူပင် ဂျပန် လိမ်မည်ဟု လူတိုင်းပြော၏။ လိမ်သည့်အခါလည်း ခပ်ရိုးရိုးကလေးပင် လိမ်၏။ ကိုယ့်လောဘ ကိုယ်မနိုင်သူများ လိမ့်ပါသွားကြ၏။

အဲဝါးမားနှင့်တွေ့ပြီး ညဘက်တွင် ဒေါက်တာဘမော်ထံသို့သွား၍ အကျိုးအကြောင်း အားလုံး ဖွင့်ပြောပြ၏။

ကျွန်တော်။ 'ထမင်းခန်းက ဖိတ်စာဟာ ဖြုတ်ပစ်ဖို့တော်ပြီ'

ဒေါက်တာဘမော်။ 'ကိစ္စမရှိပါဘူး သခင်နုရဲ့၊ မကြောက်စမ်းပါနဲ့'

ကျွန်တော်။ 'မဟုတ်ဘူး၊ တိုက်တဲ့ကောင်တွေကလဲ တွေ့ကရာတွေ လျှောက်တိုက်နေတာပဲ၊ ဒါကလေးတွေစုလိုက်တော့ ကြီးလာတာပေါ့'

(များမကြာမီ ထိုလက်မှတ်နေရာတွင် ငါးကလေးတွေ ရေကူးနေသည့် ဓာတ်ပုံကလေးရောက်နေသည်ကို တွေ့ရသည်။)

ဒေါက်တာဘမော်။ 'မနက်ဖြန်ခါကျရင် ဒီကောင်တွေဆီက စကားကို ရအောင်နှိုက်နော်၊ ကိုယ်က စကားကိုသွားပြီး မလွှန်လိုက်နဲ့၊ သခင်နုက စကားပြောရင် ရှေ့လောကြီးတယ်'

နောက်တစ်နေ့ နေ့လယ်တွင် အော်စေးကိုးအိမ်သို့ သွားလေသည်။ အော်စေးကိုးလည်း တပည့်လက်သားအစုံအလင်နှင့် စောင့်နေသည်ကို တွေ့ရ၏။

သူနှင့်တကွ အခြားဂျပန်အရာရှိပေါင်း ခြောက်ယောက်ခန့် ရှိလိမ့်မည်ဟု ခန့်မှန်းရ၏။

အချို့မှာ ကျွန်တော်၏ မျက်နှာရိပ်မျက်နှာကဲကို ခန့်မှန်းရန်နှင့် အချို့မှာ အော်စေးကိုး လိုနေသည့် အချက်များကို ဖြည့်စွက်ရန်ဖြစ်သည်ဟု ကျွန်တော် တွေးကြည့်မိသည်။ ကျွန်တော့်ကို ထိပ်ဆုံးက ဒိုဖာကြီး

ပေါ်တွင်ထား၍ ကျွန်တော့် ဝဲယာတွင် သူတို့ ဝိုင်း၍ ထိုင်ကြသည်။ ဟိုစကား သည်စကားတို့ကို အနည်းငယ်ပြောကြားပြီးနောက်

အော်စေးကိုး။ 'ကျွန်တော်တို့ မကြာသေးမီကဘဲ နယ်က အစီရင်ခံစာတွေရတယ်၊ အဲဒီအစီရင်ခံစာတွေကို ဖတ်ကြည့်တော့ တစ်နိုင်ငံလုံးမှာ သခင်နုဟာ ဒေါက်တာဘမော်ထက်ပိုပြီး ကြည်ညိုတဲ့ လူတွေများတယ်ဆိုတာ တွေ့ရတယ်၊ ကျွန်တော်တို့ သိပ်ပြီးအံ့ဩသွားတာက ဒေါက်တာဘမော်ရဲ့အား အင်မတန်ကောင်းတယ်ဆိုတဲ့ မန္တလေးတစ်ဝိုက်မှာတောင် သခင်နုဟာ ဒေါက်တာဘမော်ထက် လူအကြည်ညိုများနေတာကို တွေ့ရတဲ့အချက်ပဲ၊ အဲ့ဒါ ဘာဖြစ်လို့လဲ'

အော်စေးကိုး၏ မျက်နှာကိုကြည့်လျှင် နယ်ထလူမမာ၏ မျက်နှာနှင့်တူသည်။

မျက်စိ ခပ်မှေးမှေး၊ စကားပြောလျှင်လည်း ရှက်ကိုးရှက်ကန်းဖြစ်သလိုလို လေပျော့ပျော့နှင့် ပြောလေ့ရှိသည်။

ထိုအမူအရာများကို အကဲခတ်ပြီး ဒီစားဖားကြီး ငါ့အုပ်လိုက်မည်များ မလုပ်လေနှင့် 'အဲဒါဘာဖြစ်လို့လဲ'တဲ့။ ဒီးဒုတ် စာတိုက်ခန်းက ဖြေသလို 'အဲဒါ ဘာဖြစ်လို့မှ မဟုတ်ဘူး၊ ခင်ဗျား ကျုပ်ကို တစ်ပတ်ရိုက်ချင်လို့ပဲ'ဟု ကျွန်တော်လည်း ဝမ်းထဲက ကျိတ်၍ ဖြေလိုက်၏။

မနေ့က သူ့တပည့်အီးဝါးမားက ဒေါက်တာဘမော်ကို စစ်တပ်က ရန်သူစာရင်းထဲသွင်းထားသည့် အကြောင်းနှင့် အခွင့်ကောင်းရလျှင် ယူရဲမလား ဟူသော စကားနှစ်ခွန်းကို ပြောသွား၏။

ကျားကစားသည့်သူများ၏ စကားနှင့် ပြောရလျှင် နှစ်ကောင်ထိုးကျွေးပြီးလေပြီ။

အော်စေးကိုးနှင့် တွေ့ပြန်သောအခါ 'အဲဒါဘာဖြစ်လို့လဲ' ဟု ထပ်၍ မေးပြန်သည်။

တစ်ကောင်ထပ်၍ ထိုးကျွေးပြန်ပြီ။ ကျားကစားတတ်သူများ ကစားသည်ကို ကြည့်ဖူး၏။

တစ်ခါတစ်ရံ တစ်ကောင်ပြီးတစ်ကောင် သုံးကောင်လောက်အထိ ထိုးကျွေး၏။

ဘာဖြစ်လို့များ ဒီလောက်တောင် ကျွေးနေပါလိမ့်မလဲဟု နားမလည်နိုင်အောင်ဖြစ်၏။

ပြီးတော့မှ သုံးကောင် ပြန်စားပြီး (ကင်း)ယူ၏။

ဤအတိုင်းပင် အော်စေးကိုးလည်း ကွက်ကျော် ဆင်ထားခြင်း ဖြစ်လေသည်။

အော်စေးကိုး။ 'အဲဒါ ဘာဖြစ်လို့လဲ'

ကျွန်တော်။ 'ကျွန်တော့်စိတ်ထင်ဖြင့် ဒီအစီရင်ခံစာတွေဟာ တိတိကျကျ မမှန်ဘူးထင်တယ်'

(အော်စေးကိုး၏ မျက်နှာကို အမှတ်တမဲ့ ကြည့်လိုက်ရာ မျက်နှာပျက်သွားသည်ကို တွေ့လိုက်ရသည်။ ဤသူသည် အမေရိကန် ယူနီဘာစီတီတစ်ခုမှ ထွက်လာသူဖြစ်သည်။ သို့ရာတွင် အင်္ဂလိပ်လိုမပြော စကားပြန်နှင့်ပြောသည်။ စကားပြန်ကို ပြောနေစဉ် အကြံယူနိုင်ရန် ဖြစ်သည်ဟု ကျွန်တော် တွေးမိသည်။)

'ဘာဖြစ်လို့လဲဆိုရင် စုံစမ်းတဲ့လူတွေက လူတိုင်းကိုလိုက်ပြီး စုံစမ်းမှာမဟုတ်ဘူး၊ ကျကျနန နိုင်ငံရေးအခြေအနေကို ပြောပြနိုင်တဲ့သူတွေကလဲ

ခင်ဗျားတို့ စစ်ပုလိပ်တွေနဲ့ မတွေ့ချင်လို့ ရှောင်တိမ်းနေကြပြီ၊ အဲဒီတော့ ဒီစစ်ပုလိပ်တွေ တွေ့ရတဲ့လူတွေကလဲ သူတို့မုန်းရင် မုန်းသလို ချစ်ရင် ချစ်သလို တွေ့ကရာတွေ လျှောက်ပြောလိုက်မှာပဲ'

အော်စေးကိုး။ 'သခင်နု ပြောတာလဲ မှန်ပါလိမ့်မယ်၊ ဒါပေမဲ့ ခိုင်လုံတဲ့ လူတွေဆီက စုံစမ်းချက်တွေလဲ အများအစား ပါပါတယ်'

ကျွန်တော်။ 'ခင်ဗျားပြောတဲ့လူတွေဟာ ဘယ်လောက် ခိုင်လုံတယ် ဆိုတာတော့ ကျွန်တော် မသိဘူး၊ ဒါပေမဲ့ ကျွန်တော် သေသေချာချာ သိတာ တစ်ခုရှိတယ်၊ အဲဒါ တခြားဟာ မဟုတ်ဘူး၊ မန္တလေးနဲ့ မန္တလေး တစ်ဝိုက်မှာ ကျွန်တော်ဟာ ဒေါက်တာဘမော်ထက် ဘယ်နည်းနဲ့မှ လူကြည်ညို ပိုပြီး မခံရဘူး ဆိုတာပဲ၊ မန္တလေးမှာဆိုရင် ကျွန်တော့်ကို လူကြည်ညိုများဖို့ မပြောထားနဲ့ ကျွန်တော့် နာမည်ကို ကောင်းကောင်း တောင် ကြားဖူးမှာ မဟုတ်ဘူး'

အော်စေးကိုး။ 'ဒီလိုဆိုရင်တော့ မပြောတတ်ဘူး၊ ကျွန်တော်တို့ ကတော့ နယ်အစီရင်ခံစာတွေကိုကြည့်ပြီး ပြောရတာပဲ'

အော်စေးကိုးသည် သူ့ကွက်ကျော်ကို သူ အလွန်အထင်ကြီးနေဟန် ရှိသည်။ ကြီးမည်ဆိုလျှင်လည်း ကြီးလောက်ပေသည်။

အဘယ့်ကြောင့်ဆိုသော် ဤကွက်ကျော်နှင့်ပင် ဖမ်းမိသူများကို ဖမ်းမိ လျက်သား ဖြစ်နေမှုကိုး။ ကျွန်တော့်ကိုလည်း ဤကွက်ကျော်နှင့် ဖမ်းလျှင် တစ်ထစ်ချမိရမည်ဟု အော်စေးကိုးလည်း ကျိန်းသေ တွက်ထားဟန်ရှိသည်။

သို့ရာတွင် ကျွန်တော် ဝင်၍ မတိုးသောအခါ သူသည် အကြံကျပ်ပြီး အနည်းငယ်ဆိုတ်၍ သွားလေသည်။

အမည်မသိသူ ဂျပန်အရာရှိတစ်ဦး။ 'ခင်ဗျားတို့ သခင်တွေနဲ့ ဒေါက်တာဘမော် အဖွဲ့ဝင်တွေနဲ့ ညီညွတ်ကြရဲ့လား'

ကျွန်တော်။ 'ညီညွတ်သားပဲ'

ထိုဂျပန်။ 'တကယ် ညီညွတ်ရဲ့လား'

ကျွန်တော်။ 'တကယ် ညီညွတ်သားပဲ'

ထိုဂျပန်။ 'ညီညွတ်တယ်ဆိုတာ လက်ဆုပ်လက်ကိုင် ပြနိုင်ပါ့မလား'

ကျွန်တော်။ 'ဘာဖြစ်လို့ မပြနိုင်ရမလဲ၊ တို့ဗမာဆင်းရဲသား အစည်းအရုံး ကြည့်ပါလား၊ အဲ့ဒါဟာ သခင်နဲ့ ဓားမတွေ ညီညွတ်နေတယ်ဆိုတာ သက်သေခံပဲ မဟုတ်လား'

ထိုဂျပန်။ (သရော်သောမျက်နှာနှင့် ဂျပန်လို အော်စေးကိုးကို တစ်ခွန်း နှစ်ခွန်း လှမ်း၍ ပြောလိုက်ရာ အော်စေးကိုးလည်း ပြုံးပြီး တစ်ခွန်း နှစ်ခွန်း ပြန်ပြောသေးသည်။ ၎င်းနောက်မှ ကျွန်တော့်ဘက်သို့ လှည့်၍) 'ဒီအစည်းအရုံးဟာ ဆိုင်းဘုတ်ပဲရှိပြီး သခင်နဲ့ ဓားမတွေက ကိုယ့်အား ကိုယ်စုနေကြတာပဲ မဟုတ်လား'

ကျွန်တော်။ 'နောက်ပိုင်းက လုပ်သလောက်လဲ လုပ်ကြလိမ့်မယ်၊ ဒါပေမဲ့ အထက်ကလူကြီးတွေကတော့ ညီညွတ်ကြသားပဲ'

ထိုဂျပန်။ (သရော်သော မျက်နှာနှင့်) 'အထက်က လူကြီးတွေ ညီညွတ်တယ်ဆိုရင် ခင်ဗျား ဒေါက်တာဘမော်လုပ်တာ အားလုံးကြိုက်သလား'

ကျွန်တော်။ (ဂျပန်က သရော်သလို လုပ်သောမျက်နှာထားသည် ကျွန်တော့်စိတ်ကို ဆွလျက် ရှိလှပြီ) 'ခင်ဗျား ဒီမေးခွန်းကို မမေးနိုင်ဘူး၊ ဒေါက်တာဘမော်ဟာ ကျွန်တော်တို့ရဲ့ အာဏာရှင်၊ အာဏာရှင်ဆိုတာ ခေါင်းဆောင်အကြီးဆုံးပဲ၊ ခင်ဗျားကို အခုနေ စစ်သေနာပတိချုပ်ကြီး ဂျင်နရယ်ကဝါဘီ လုပ်တာ အားလုံးကြိုက်သလားမေးရင် ခင်ဗျား ဘယ့်နှယ် ဖြေမလဲ'

(အော်စေးကိုးက ထိုဂျပန်ကို စကားလှမ်းပြောလိုက်သည်။ ဘာပြောမှန်းမသိ။)

ထိုဂျပန် (သရော်သည့် မျက်နှာထား မရှိတော့ဘဲ) 'ရာထူးခန့်တဲ့နေရာမှာ ဒေါက်တာဘမော်က သူ့လူတွေချည်း ခန့်တယ်၊ သခင်တွေကို မခန့်လို့ ခင်ဗျားတို့လူငယ်တွေ အများကြီး မကျေမနပ်ဖြစ်နေတယ်ဆိုတာ ခင်ဗျား မသိဘူးလား'

ကျွန်တော်။ 'ဒါ ကျုပ်တို့ အတွင်းရေးပဲ'

၁၅ မိနစ်လောက် ဟိုဟာ ဒီဟာ ပြောပြီးလျှင် ကျွန်တော်လည်း ထပြန်ခဲ့သည်။

ညဘက်တွင် အဖြစ်အပျက်အလုံးစုံကို ဒေါက်တာဘမော်နှင့် တိုင်ပင်ဆွေးနွေးကြလေသည်။

နှစ်ရက်လောက်ကြာသောအခါ ပရော်ဖက်ဆာ အီဝါးမားသည် ကျွန်တော့်အိမ်သို့ ရောက်လာသည်။

သူ့မျက်နှာကို ကြည့်ရသည်မှာ တစ်စုံတစ်ခုကို စိတ်ဆိုးနေသလိုလို ရှိသည်။

အီဝါးမား။ 'ကျုပ်တို့တတွေ တစ်နေ့က သခင်နုကို အများကြီး စိတ်ပျက်သွားတယ်'

ကျွန်တော်။ 'ကျုပ်လဲ ခင်ဗျားတို့တတွေကို အများကြီး စိတ်ပျက်သွားတယ်၊ ဘာလဲဗျာ၊ ဟိုဂျပန်အရာရှိတစ်ယောက်က စကားပြောတာ ပြောင်သလိုလို သရော်သလိုလို မထီမဲ့မြင်လုပ်တယ်'

အီဝါးမား။ 'သခင်နု၊ ခင်ဗျားတော့ အင်မတန်ရခဲတဲ့ အခွင့်အလမ်းကြီး လွတ်သွားပြီ၊ ကျုပ်သာဖြင့် ဒေါက်တာဘမော်ကို ဖယ်ပစ်ပြီး သူ့နေရာကို တက်မှာပဲ'

ကျွန်တော်။ 'ပရော်ဖက်ဆာ အီဝါးမား၊ ကျေးဇူးပြုပြီး ကောင်းကောင်း နားထောင်ပါ၊ ပထမအချက်မှာ ကျုပ်ဟာ သစ္စာရှိတယ်ဆိုတာ မှတ်ထားပါ၊ ဒုတိယအချက်မှာ ဒေါက်တာဘမော်ရဲ့ အလုပ်မျိုးကို လုပ်ကို မလုပ်ချင်ဘူး၊ ဒေါက်တာဘမော် ကိုယ်တိုင်ကလဲ ထွက်ချင်နေပြီ၊ ကျုပ်ကို ဒီတိုင်းပဲ ဖွင့်ပြောတယ်၊ ဒီလိုပြောရုံတွင် မကသေးဘူး၊ ဂျပန်စစ်တပ်ထဲက တာဝန်ခံအရာရှိကြီးတွေနဲ့ တွေ့ရင် သူဒီလိုပဲ ပြောတဲ့အကြောင်းကို ပြန်ပြောပြဖို့ ကျုပ်ကိုလဲ ခွင့်ပြုထားတယ်၊ ကျုပ်လဲ ဒီအတိုင်း ကာနယ် ဟီရာအိုကားကိုတော့ ပြောပြီးပြီ၊ သူ့ပြောရင် စစ်တပ်ကို ပေါက်လိမ့်မယ် အထင်နဲ့ ပြောတာပဲ၊ ဒေါက်တာဘမော်ကိုယ်တိုင်* အစ္စမိုးရားကို ပြောပြီးပြီ၊ ခင်ဗျား စုံစမ်းကြည့်ပါလား၊ ကဲ ရှင်းပြီလား၊ ကျုပ်စိတ်နဲ့ ပတ်သက်လို့ သံသယရှိသေးသလား၊ ဒါ့ထက်တော့ ကျုပ်လဲ ပိုပြီးရှင်းအောင် မပြောတတ်တော့ဘူး'

အီဝါးမားနှင့် ကျွန်တော် တွေ့ပြီး၍ များမကြာမီ လွတ်လပ်ရေး စီစဉ်မှုအဖွဲ့ကို စတင်ကျင်းပလေသည်။

---

* ဒေါက်တာဘမော်လည်း ဂျပန်ပြည်သို့ ပထမခေါက်သွားပြီး ပြန်ရောက်ခါစ သခင်မြနှင့်အတူ မေဂျာ ဂျင်နရယ် အစ္စမိုးရား ဆိုသူနှင့် တစ်နေ့သ၌ တွေ့ကြသည်။ အစ္စမိုးရားသည် ဗမာပြည်ရှိ ဂျပန်စစ်ဗဟိုဌာနချုပ်တွင် တတိယ အကြီးဆုံး ဖြစ်သည်။ ဗမာ့နိုင်ငံရေးနှင့် ဗမာ ဂျပန် ဆက်ဆံရေးကို သူကိုင်ရသည်။ ဒေါက်တာ ဘမော်က သူလည်း ရှေ့ကိုဆက်လက်၍ အလုပ်လုပ်ရန် ဆန္ဒမရှိတော့သဖြင့် ထွက်လိုကြောင်းပြောရာ အစ္စမိုးရားက စားပွဲခုံများကိုထု၍ အတော် အော်ငေါက်ကာ ကြိမ်းလိုက်သည်ဟု သခင်မြထံမှ လျှို့ဝှက်စွာ ကြားသိရသည်။ ဤသို့ အငေါက်ခံ ရသည့် သတင်းကို မည်သူ့ကိုမျှ မပေါက်ကြားရန် သခင်မြအား ဒေါက်တာဘမော် သည် အတော်ပိတ်ထားခဲ့လေသည်။

ကျွန်တော်လည်း ကန့်လန့်ကန့်လန့်နှင့် ထိုအဖွဲ့ထဲတွင် ပါသွားလေသည်။

ကန့်လန့် ကန့်လန့် ဆိုသည်မှာ အခြားမဟုတ်။ ဥပဒေစည်းမျဉ်း အုပ်ချုပ်ရေး အစရှိသည်တို့မှာ ကျွန်တော်၏ ခေါင်းပေါ်တွင် ရှိနေသော ကိစ္စများ ဖြစ်ကြသည်။

၎င်းတို့တွင် ကျွန်တော်လည်း စိတ်မဝင်စား၊ နားလည်း ကောင်းစွာ မလည်ချေ။

ဒေါက်တာဘမော်က အဖွဲ့ဝင်စာရင်းကို မကြေညာမီ နှစ်ရက်လောက် ကြို၍ပြသဖြင့် ကျွန်တော်၏ နာမည်ကိုတွေ့ရသောအခါ ကျွန်တော် နားမလည်သည့် ကိစ္စကို ဝင်မစွက်ပါရစေနှင့်ဟု ငြင်းသေးသည်။

သို့ရာတွင် အလွန်အရေးကြီးနေသည့် ကိစ္စဖြစ်၍ ဝင်ရန် တိုက်တွန်းသောကြောင့် လက်ခံလိုက်ရသည်။

လွတ်လပ်ရေး စီစဉ်မှုအဖွဲ့ထဲတွင် ဘုရင့်ဝါဒကို ရိုးတွင်းချဉ်ဆီက စွဲသော သူများလည်း ပါသည်။

တစ်ယောက်တည်း တစ်ဖွဲ့တည်းက ကြီးစိုးသွားလျှင် တိုင်းပြည် မှောက်လိမ့်မည်ဟု အစစ်အမှန် ယုံကြည်နေသူလည်း ပါသည်။

ဂျပန်လိုသမျှကို ထိုးအပ်မည့်သူများလည်း ပါသည်။

ဂျပန်နှင့် ဗမာ့အရေး အတိုက်အခံဖြစ်လာလျှင် ဗမာ့အရေးဘက်က လိုက်မည့်သူများလည်း ပါသည်။

'အများယောင်လို့ ယောင်ရပါ၊ အမောင် တောင်မှန်း မြောက်မှန်း မသိ' ဟုဆိုသော စကားကဲ့သို့ ဒေါက်တာဘမော် ခေါင်းညိတ်သမျှ တောင်မှန်း မြောက်မှန်း မသိရဘဲ ခေါင်းလိုက်ညိတ်နေရသူများလည်း ပါ၏။

ဒေါက်တာဘမော်ကို မထောက်ခံလျှင် ဒေါက်တာဘမော်သည် ဂျပန်ရုပ်သေး ဖြစ်သွားမည်ကို စိုးရိမ်သည့်သူများကလည်း ပါ၏။

ဘောက်သမား၊ ဂွသမား 'ကျွန်တော် ကန့်ကွက်တယ်'ဟု အစချီပြီး ပြောရင်းပြောရင်း ထောက်ခံနေသော ယောင်ချာချာသမား အစရှိသည် ဖြင့် ထိုလွတ်လပ်ရေးစီစဉ်မှု အဖွဲ့ကြီးတွင် လူပေါင်းစုံ ရောပြွမ်းလျက် ရှိလေသည်။

သခင်ကိုယ်တော်မှိုင်း၊ သခင်မြ၊ သခင်သန်းထွန်း နှင့် ကျွန်တော်တို့ လူ လေးယောက်မှာ ထိုအဖွဲ့တွင် ချိန်ခွင်လျှာကို ကိုင်ထားကြသူများဖြစ် ကြသည်။

ကျွန်တော်တို့ လေးဦး မဲပေးလိုက်သည့်ဘက်သည် အနိုင်ရနိုင်သည်။

ထို့ကြောင့် ဤလို ချက်ကောင်းမျိုးတွင် သခင်တွေကို ရာထူးမခန့်ဘဲ ကိုယ့်လူတွေကိုသာ တွင်တွင်ကြီး ရာထူးခန့်ခဲ့သော ဒေါက်တာဘမော်ကို ကျွန်တော်တို့ တွယ်မလား။

မတွယ်လို။ အဘယ့်ကြောင့်ဆိုလျှင် ဤသို့ တွယ်လိုက်လျှင် ဂျပန် ထောင်ထားသော ကွက်ကျော်ထဲကို ဝင်တိုးပြီးသား ဖြစ်မည်ဖြစ်သော ကြောင့်တည်း။

အကြောင်းကို အနည်းငယ် ရှင်းပြပါအံ့။

ဂျပန်သည် ဒေါက်တာဘမော်ကို ရုပ်သေးအဖြစ်နှင့် အလိုရှိ၏။

သူ၏ တစ်ဖွဲ့လုံးကို အာဏာရှင်အဖြစ်နှင့် ကြိုးဆွဲလာသော ဒေါက်တာ ဘမော်သည် မည်သည့်နည်းနှင့်မျှ ဂျပန်၏ ကြိုးဆွဲကို မခံနိုင်။ သူကိုယ်တိုင် ထ က ရမှ ကျေနပ်မည်ဖြစ်၏။

ထို့ကြောင့် ကြိုးဆွဲသည့်ဝါသနာကို သွေးထဲတွင်ပါလာသော ဂျပန် စစ်တပ်နှင့် ဒေါက်တာဘမော်တို့မှာ ပဋိပက္ခဖြစ်လျက် ရှိကြ၏။

သာမာန်အားဖြင့်ဆိုလျှင် ဂျပန်စစ်တပ်သည် ဒေါက်တာဘမော်ကို လက်တဖျစ်အတွင်း ဖျောက်ပစ်လိုက်နိုင်သည်။

သို့ရာတွင် ဂျပန်ပြည်သို့ ဒေါက်တာဘမော် ပထမခေါက် သွားပြီး ကတည်းက ဂျပန်ပြည်တွင် သူ့ကို လူကြိုက်များနေရကား တရုတ်ပြည် မန်ချူးရီးယားပြည် အစရှိသည်တို့တွင် ဂျပန် မကျေနပ်သော ခေါင်းဆောင် အချို့ကဲ့သို့ ဒေါက်တာဘမော်ကို ဖျောက်ရန် မလွယ်ပေ။

ထို့ကြောင့် ဗမာ့အရေးနှင့်ပတ်သက်၍ ဂျပန်စစ်တပ်၏ တစ်ခုတည်း သောစနစ်မှာ ဒေါက်တာဘမော် မလှုပ်နိုင်အောင် သူ့ဘေးက အားတွေကို ဖဲ့ယူရန်နှင့် သူ့ဆန့်ကျင်ဘက်သမားတို့ကို အားပေးရန်ပင် ဖြစ်လေသည်။

သူတို့၏ တွက်ကိန်းမှာ ဤသို့လုပ်လိုက်လျှင်

၁။ ဒေါက်တာ ဘမော်သည် သူတို့ကို ပြေးကပ်လျှင်သော်လည်း ကပ်ရမည်၊ ဤသို့ မကပ်ဘဲ ခေါင်းမာနေလျှင်လည်း

၂။ ဒေါက်တာဘမော်သည် ဘာကိုမျှ ထိထိရောက်ရောက် မလုပ်နိုင် တော့ချေ ဟူသော တွက်ကိန်းပင် ဖြစ်သည်။

ထို့ကြောင့် ကျွန်တော်တို့က ဟိုဟာ သည်ဟာ ကလေးတွေကို စိတ်ကောက်ပြီး ဒေါက်တာဘမော်ကို တွယ်လိုက်လျှင် ကျွန်တော်တို့လည်း ဘာမှ ရမှာ မဟုတ်။

ဒေါက်တာဘမော်က ပထမဆုံးအစည်းအဝေးတွင် ပြောသလို

'တစ်ကျပ်ထဲက ငါးမူး ဖဲ့လိုက်ရင် အဲ့ဒီငါးမူးကို လူကြီးမင်းများလဲ ရမှာ မဟုတ်ဘူး၊ ဂျပန်ယူမှာပဲ'

ဟု ဆိုသော စကားကဲ့သို့ ချိန်ခွင်လျှာကို ကိုင်ထားပါကောဟု ကျွန်တော်တို့က ရန်ငြိုးနှင့် တွယ်လိုက်တိုင်း ကျွန်တော်တို့ မဆိမ့်ရဘဲ ကိုရွှေဂျပန်သာ ဆိမ့်တော့မည်ဖြစ်၏။

ဤအတိုင်း သခင်မြ သခင်သန်းထွန်းနှင့် ကျွန်တော်တို့ သဘော ပေါက်ကြ၏။

အချို့က ရာထူးလိုချင်၍ ထောက်ခံခြင်းလောဟု သံသယ ဖြစ်ကြပေသေး၏။

အခြားလူ မပြောနှင့်။ ဆရာကြီး (သခင်တော်ကိုယ်တော်မှိုင်း) ပင်လျှင် အထင်လွဲပြီး 'ရာထူးမရလို့ ရှာမြက်ပေါက် မသေနိုင်ပါဘူးကွာ' အစရှိသည့် စကားမျိုးနှင့် သခင်မြကို ကြိမ်းဖူး၍ သခင်မြကိုယ်တိုင် မျက်ရည်ကျရဖူးသည်။

အမှန်စင်စစ် ဤသို့အထင်လွဲသူများသည် အဖြစ်မှန်ကို မသိကြသောကြောင့်သာ ဖြစ်ကြသည်။

ရာထူးရရန်အတွက် သခင်မြ၊ သခင်သန်းထွန်းတို့၏ နောက်လိုက်အင်အား အခြေအနေနှင့်ဆိုလျှင် ဒေါက်တာဘမော်ကို မြှူနေစရာ မလို။ ဒေါက်တာဘမော်ကသာ မြှူရပေလိမ့်မည်။

သခင်မြ၊ သခင်သန်းထွန်းတို့လောက်မှ နောက်လိုက်အင်အား မရှိသောသူများကိုပင်လျှင် ဆွဲထည့်ရသေးသည်။

သခင်မြ၊ သခင်သန်းထွန်း မပါဘဲနှင့် အစိုးရအဖွဲ့ဖွဲ့ရန် ဒေါက်တာဘမော်တွင် အလွန်ခက်လိမ့်သည်။

တစ်ဦးစီကိစ္စကို စဉ်းစားလျှင်လည်း သခင်မြသည်ကား အေးအေးနေလိုသည်။ ဤမျှရှုပ်ထွေးသော ဇာတ်ခုံကြီးပေါ်တွင် တက်၍ မကလို။

သခင်သန်းထွန်းမှာမူ ဂျပန်တော်လှန်ရေး လုပ်ငန်းများကို အကွယ်အကာရရန်သာ အတွင်းရေးဆုံးဖြတ်ချက်ကြောင့် ရာထူးယူရလျက်ရှိသည်။

ထို့ကြောင့် ရာထူးအတွက် ဒေါက်တာဘမော်ကို ထောက်ခံရသည် ဆိုသည့် စွပ်စွဲချက်မှာ ကလေးကလား စွပ်စွဲချက်မျှသာ ဖြစ်ချေသည်။

လွတ်လပ်ရေး စီစဉ်မှုအဖွဲ့ စလေပြီ။

မစမီကလေးတွင် ဒေါက်တာဘမော်သည် ကျွန်တော့်ကို ခေါ်၍ 'သခင်နု အစည်းအဝေးစတာနဲ့ တစ်ပြိုင်နက် ဒီအစည်းအဝေးမှာ လွတ်လပ်စွာ စကားပြောဆိုခွင့်ရှိသလား၊ ဒီမှာပြောတဲ့ စကားတွေကြောင့် နောင်ကို အပြစ်ခံရမှာလား' ဆိုတာကို ဂျပန်စစ်တပ်မှ သိချင်တယ်လို့ ထမေး၊ ကိုယ်က ဒီမေးခွန်းကို ကိုင်ပြီး စစ်တပ်က ကတိတောင်းမယ်၊ ဒီကတိရရင် အစည်းအဝေးမှာ ဂျပန်မကျေနပ်မှုတွေ အတော်ဖွင့်ချကြလိမ့်မယ်၊ အဲ့ဒါကို ဂျပန်ကြားရမှ ကောင်းမယ်' ဟု ပြောလေ၏။

ဦးသိန်းမောင် (အမ်အေ)ကလည်း ဤမေးခွန်းမျိုးကို ထ၍ မေးရန် ကျွန်တော့်ကို တိုက်တွန်းပြန်လေသည်။

ကျွန်တော်လည်း ထ၍ မေးလိုက်ရာ ဒေါက်တာဘမော်လည်း သူပြောသည့်အတိုင်း စစ်တပ်မှ ကတိကို ယူလာလေသည်။

ပြောကြသည့် အထဲတွင် ဦးသိန်းမောင်မှာ အလွန်အားရစရာကောင်းသည်။

ဂျပန်စစ်တပ်မှာ လွတ်လပ်သော ဗမာပြည်တွင်းရေးတွင် ဝင်ရောက်ချုပ်ချယ်ရန် ကြံရွယ်သော ကိစ္စများကို မငဲ့မညှာ ပြောချနေသည့်အခါ ကြားရသူများပင် တထိတ်ထိတ်နှင့် ဖြစ်လျက်ရှိလေသည်။

ကနဦးတွင် ဖော်ပြခဲ့သည့်အတိုင်း ဦးသိန်းမောင်သည် တစ်ဦးတည်း တစ်ဖွဲ့တည်းက တစ်နိုင်ငံလုံးကို လွှမ်းမိုးချုပ်ချယ်ထားလျှင် ထိုနိုင်ငံသည် ငါးပါးမှောက်လိမ့်မည်ဟု တစ်ထစ်ချ ယုံကြည်လျက်ရှိသော သူတစ်ဦးဖြစ်ရကား ကျွန်တော်တို့နှင့် ဒေါက်တာ ဘမော်ပေါင်းပြီး အင်အားစုသည်ဟု ထင်သည့်အဆိုများတွင် လျှော့မပေးဘဲ ဖွဲကောင်းကောင်းနှင့် ပြောစရာရှိသမျှ စကားတွေကို အကုန်ပြောသည်။

ဒေါက်တာဘမော်နှင့် ကျွန်တော်တို့ပေါင်းလျှင် တစ်ဖက်က မဲ မနိုင်နိုင်သည်ကို သူလည်း အသိဖြစ်သည်။

သို့ရာတွင် ရှုံးကာမှ ရှုံးရော မရ ရသမျှ တွယ်ကပ်ပြီး ယူလေသည်။

အချို့ကိစ္စများတွင် သူ၏ ဇွဲကောင်းသည်ကို အားနာပြီး လျှော့ပေးရဖူးသည်။

'ကျုပ်ဝါဒက ရေထဲကပစ္စည်းဆယ်သမား ဝါဒပဲ၊ သင်္ဘောမြုပ်လို့ ဘာပစ္စည်းကိုမှ မရနိုင်တဲ့အဆုံး ခေါင်းအုံးတစ်လုံး ဆယ်ထားလိုက်ရင် တစ်လုံး မြတ်တာပဲ'

ဟူ၍ ဦးသိန်းမောင်သည် မကြာခဏ ပြောလေ့ရှိလေသည်။

အစည်းအဝေးစ၍မှ တနင်္ဂနွေတစ်ပတ် မရှိသေးမီ တစ်နေ့သ၌ အဖွဲ့ဝင်အားလုံးတို့အား ဂျပန်စစ်သေနာပတိချုပ်ကြီး ဂျင်နရယ်ကဝါဘီက သူ့အိမ်တွင် တွေ့ချင်သည်ဟု အမှာစာရောက်လာလေ၏။

အဖွဲ့ဝင်အားလုံးလည်း ချိန်းသည့် အချိန်တွင် ဂျင်နရယ်ကဝါဘီ၏ အိမ်သို့ ရောက်နှင့်ကြလေ၏။

ဧည့်ခန်းတွင် ပရိသတ်စုံသောအခါ ဂျပန်အရာရှိ တစ်ယောက် ဝင်လာပြီး 'စစ်သေနာပတိချုပ်ကြီး လာပါပြီ' ဟု ကြေညာ၏။

ကျွန်တော်တို့ အားလုံး မတ်တပ်ထကြရ၏။

ကဝါဘီလည်း ဖယောင်းတိုက်ထား၍ ကြွက်မြီးတန်းနေသော နှုတ်ခမ်းမွေးကြီးများဖြင့် တန်ဆာဆင်လျက်ရှိသော မျက်နှာကို ခပ်မော့မော့ထား၍ တစ်လှမ်းချင်း ခပ်အေးအေး ဂိုက်ထုတ်ပြီး ဝင်လာလေသည်။

သူသည် ထိပ်ဆုံးရှိ သူ့ကုလားထိုင်ရှေ့တွင် မတ်တပ်ရပ်နေရာ အဖွဲ့ဝင်များသည် တစ်ယောက်စီ သူ့နေရာသို့သွား၍ လက်ဆွဲနှုတ်ဆက်ရင်း ဂျပန်အရာရှိတစ်ဦးက မိတ်ဆက်ပေးသည်။

ထိုင်မိကြသည်နှင့် တစ်ပြိုင်နက် နာရီဝက်လောက် ကျောင်းဆရာကြီးက ကျောင်းသားကလေးများအား ဆုံးမသွန်သင်နေသလို လျှောက်ပြီး ပြောနေ၏။

သူ့ စကားများကို အတိုချုပ်လိုက်လျှင်

'ခင်ဗျားတို့ အလကား စကားတွေ သိပ်များနေတယ်၊ ကျုပ်တို့ စစ်တပ်က စကားများများပြောတာ မကြိုက်ဘူး၊ နောင်ကို တိုတိုတုတ်တုတ်နဲ့ အလုပ်တွင်ကျယ်တာကို မြင်ချင် ကြားချင်တယ် ဒါပဲ၊ ပြန်သွားကြတော့'

ဟူသော စကားများပင် ဖြစ်၏။ အဖွဲ့ဝင်များလည်း မှိုင်းမိသော လင်းတကြီးများကဲ့သို့ မျက်နှာကြီးများအိုရှိ၍ ငိုင်နေကြပြီးလျှင် ပြန်ကြတော့ ဆိုသည်နှင့် ထပြန်လာခဲ့ကြလေ၏။ စကားတစ်ခွန်းမျှ ပြန်ပြောခွင့် မရခဲ့ကြပေ။

ဤလိုခေါ်၊ ဤလိုကြိမ်း၊ ဤလိုပြန်လွှတ် အစရှိသည့် အစီအစဉ်ကို ရေးဆွဲသူမှာကား အခြားမဟုတ်။ မေဂျာ ဂျင်နရယ် အစ္စမိုးရားပင် ဖြစ်၏။

ထို အစ္စမိုးရား ဆိုသူမှာ အတော်ဘဝင်မြင့်သူ ဖြစ်သည်။

သူ့စိတ်တွင် ဗမာဆိုလျှင် ကော်ရင်ဂျီလောက် သဘောထားသည်။

နေ့စဉ်နေ့တိုင်း သူ၏အကြီးဆုံးသော လုပ်ငန်းတစ်ခုမှာ ဒေါက်တာဘမော်ကိုသော်လည်းကောင်း၊ ဒေါက်တာဘမော်၏ အစိုးရအဖွဲ့ကိုသော်လည်းကောင်း ချိုးနှိမ်ရန်ပင် ဖြစ်လေသည်။

စကားစပ်မိ၍ သူ၏ အကြံပက်စက်ပုံတစ်ခုကို ပြောရဦးမည်။

လွတ်လပ်ရေးစီစဉ်မှုအဖွဲ့ အစည်းအဝေးပြုလုပ်နေစဉ် ဂျပန်ဝန်ကြီးချုပ် တိုဂျိုက ယိုးဒယားသို့ ပေးရမည့် ရှမ်းပြည် နှစ်နယ်အတွက် ဒေါက်တာဘမော်နှင့် ရှိုနန်တွင် တွေ့ဆုံတိုင်ပင်လိုသည်ဟု ဖိတ်သောကြောင့် အစည်းအဝေးကို ရွှေ့ဆိုင်းပြီး ရှိုနန်သို့သွားရန် စီစဉ်ရလေသည်။

အမှန်စင်စစ် တိုင်ပင်သည်မဟုတ်။ ဤအကြောင်းကို ဒေါက်တာဘမော်အား ခေါ်၍ ပြောခြင်းဖြစ်လေသည်။

ဒေါက်တာဘမော်က ကျွန်တော့်ကိုပါ ခေါ်သဖြင့် ကျွန်တော်လည်း လိုက်ရမည်ဖြစ်၏။

မသွားမီ တစ်ရက်တွင် ညနေဘက်လောက်၌ အစ္စမိုးရားသည် ဒေါက်တာဘမော်ထံသို့ လှမ်း၍

'စစ်သေနာပတိချုပ်ထံသို့ အစီရင်ဝင်ပြီးခံရန်အတွက် သေနာပတိချုပ်၏ အိမ်ဝသို့ နံနက် ခြောက်နာရီထက် နောက်မကျဘဲ အသင့်စောင့်နေရန်' တယ်လီဖုန်းနှင့် အကြောင်းကြား၏။

စစ်သေနာပတိချုပ်၏ အိမ်သည် မောင့်ပလဲဆင့် လမ်းထဲတွင် ရှိသည်။

ထို့ကြောင့် ဒေါက်တာဘမော်နှင့် ကျွန်တော်တို့သည် ကားတစ်စင်းဖြင့် ကုက္ကိုင်းနှင့် မောင့်ပလဲဆင့် လမ်းထောင့်တွင် ခြောက်နာရီ အချိန်၌ ရောက်နေနှင့်၏။

သို့သော်လည်း အစ္စမိုးရား၏ကားသည် ၆ နာရီ ၁၅ မိနစ် ထိုး၍လည်း မပေါ်လာ၊ ၆ နာရီခွဲ၍လည်း မပေါ်လာ၊ ၆ နာရီနှင့် ၄၅ မိနစ် ရှိမှ ပေါ်လာပြီး ရပ်တောင်မှ မရပ်ဘဲ အိမ်ထဲသို့ စွတ်ဝင်သွားသည်။

အစ္စမိုးရားသည် ကားပေါ်မှ 'ဆောရီး ဆောရီး' ဆိုသည်မှတစ်ပါး ၄၅ မိနစ်တိတိ လမ်းမကြီးတွင် စောင့်နေရသော ဝန်ကြီးချုပ် ဒေါက်တာဘမော်အား အထူးတလည် တောင်းပန်ခြင်း မလုပ်လေ။

ထိုအခါက စစ်အုပ်ချုပ်ရေးသာ ရှိသေးသဖြင့် ဒေါက်တာဘမော်သည် စစ်သေနာပတိချုပ်၏ လက်အောက်တွင် ရှိသေးသည်။

ရန်ကုန်မှ အပြင်သို့ ထွက်ခါနီး တစ်ကြိမ်၊ ရန်ကုန်သို့ပြန်ရောက်လျှင် တစ်ကြိမ် စစ်သေနာပတိထံသို့ ဘယ်သွားပါဦးမည်၊ ဘယ်က ပြန်လာပါပြီ အစရှိသည်တို့ကို အစီရင်ခံရသည်။

ထိုနေ့နံနက်က စစ်သေနာပတိချုပ်၏ အိမ်ထဲမှလည်း စောင့်နိုင်သည်။ သို့မဟုတ်လျှင်လည်း ဒေါက်တာဘမော်၏ အိမ်နှင့် စစ်သေနာပတိ၏ အိမ်သည် မော်တော်ကား သုံးမိနစ်လောက် မောင်းလျှင် ရောက်နိုင်သဖြင့် အစ္စမိုးရားသာ လူယဉ်ကျေးဆိုလျှင် ဒေါက်တာဘမော်၏ အိမ်တွင် ဆုံပြီးမှ အတူတူသွားနိုင်သည်။

သို့သော်လည်း ဒေါက်တာဘမော်ကို ချိုးနှိမ်လိုသော စိတ်က အားကြီးလွန်း၍ လမ်းမကြီးပေါ်တွင် ၄၅ မိနစ်လောက် အစောင့်ခိုင်းထားခြင်း ဖြစ်လေသည်။

ရှိုနန်သို့ရောက်သောအခါလည်း လေယာဉ်ပျံကွင်းတွင် မာရှယ်တေရာအူချိ၏ စစ်ဦးစီးဗိုလ်ချုပ် လက်ဖတင်နင်ဂျင်နရယ် တစ်ဦးသည် မာရှယ်၏ကိုယ်စား လာ၍ ကြိုနေလေသည်။

လေယာဉ်ပျံကွင်းမှ မိုင် ၂၅ မိုင်ခန့် ဝေးသော တည်းအိမ်သို့ ဒေါက်တာဘမော်ကို မော်တော်ကားဖြင့် ခေါ်ရန်ဖြစ်သည်။

ကားအစီအစဉ် ရှေ့ဆုံးက လမ်းပြ၏ကား ဖြစ်သည်။

ဒေါက်တာဘမော်၏ ကားသည် ဒုတိယ၊ ကျွန်တော့်ကားက တတိယ၊ အစ္စမိုးရား၏ကားက စတုတ္ထဖြစ်သည်။

၎င်းကားများ၏ နောက်ကမှ လာ၍ ကြိုနေကြသော သူများ၏ ကားများဖြစ်ကြသည်။

အစ္စမိုးရားသည် ဤအစီအစဉ်ကို ကြည့်ပြီး မျက်နှာပျက်လျက်ရှိသည်။

ကျွန်တော်တို့ လေယာဉ်ပျံကွင်းမှ ထွက်လာ၍ ငါးမိုင်ခန့်လောက် ရှိသောအခါ အစ္စမိုးရား၏ ကားသည် ရှေ့သို့ အတင်းပန်းတက်ပြီး ဒေါက်တာဘမော်၏ ကားကို ရပ်လေသည်။

ဒေါက်တာဘမော်၏ ကားထဲတွင် သူ့ပစ္စည်းတစ်ခုပါသွား၍ ရှာချင်သောကြောင့် ဖြစ်သည်ဟု ဆို၏။

ငါးမိနစ်လောက် လူလယ်ခေါင်ကြီးတွင်ရှာပြီး အစကထဲက မရှိသောအရာကို မတွေ့ရသဖြင့် ဘာမျှမပြောဘဲ အစ္စမိုးရား၏ ကားသည် ရှေ့ဆုံးက မောင်းထွက်သွားလေ၏။

တည်းအိမ်သို့ ရောက်ပြီး နောက်ကို အပြင်သို့ထွက်တိုင်း ကားအစီအစဉ်မှာ ရှေ့ဆုံးမှ အစ္စမိုးရား၏ကား ဖြစ်သည်။

အစ္စမိုးရား၏ ကားနောက်မှ ဒေါက်တာဘမော်၏ကား ကျွန်တော်၏ ကားမှာ တတိယ ဖြစ်သည်။

ဂျင်နရယ်တိုဂျိုလာသော နေ့ကလည်း လေယာဉ်ပျံကွင်းတွင် မစ္စတာဘိုစ်နှင့် ဒေါက်တာဘမော် စ၍ တွေ့ကြသည်။

ဂျင်နရယ်တိုဂျိုထွက်သွားပြီး အသီးသီးပြန်ရန် ကားထဲသို့ ဝင်ကြ၏။

ဒေါက်တာဘမော်လည်း ကားထဲသို့ ဝင်မိသည်မှာ ငါးမိနစ်ခန့် ရှိလေပြီ။ သို့သော်လည်း သူ့ကားမှာ မထွက်နိုင်သေး။

သူ့ရှေ့က ကားထဲတွင်စီးမည့် အစ္စမိုးရားသည် အလကားသက်သက် ကားနံဘေးရှိ ပလက်ဖောင်းတွင်ရပ်ပြီး စီးကရက်ကို တစ်လိပ်ပြီးတစ်လိပ် ဖွာနေသဖြင့် ရှေ့ကကား မထွက်မချင်း ဒေါက်တာဘမော် ကားမှာလည်း မထွက်နိုင်ပေ။

ဘိုစ်ကလည်း သူ့ကားကို စောင့်နေသဖြင့် အနီးတွင် ရှိသောကြောင့်

'ကျုပ်ဘယ်လောက် တန်ခိုးကြီးသလဲ ကြည့်စမ်း၊ ဒေါက်တာဘမော်ဆိုတဲ့လူဟာ ကျုပ်ရဲ့ကား မထွက်မချင်း မထွက်နိုင်ဘူးဗျ'

ဟု ဘိုစ်ကို ကြွားနေခြင်းပင် ဖြစ်ဟန်တူသည်။

ဒေါက်တာဘမော်ကလည်း နှုတ်သမ္မ ပြန်၍နှုံသေးသည်။

သို့ရာတွင် သူတို့၏ လက်ခုပ်တွင်းကရေလို ဖြစ်နေသဖြင့် သူတို့ လောက် မထိရောက်ချေ။

ဥပမာ ရှိနန့်တွင် တည်းနေစဉ်က နံနက်စာစားရန် လာပါဟု စစ်ပုလိပ်တစ်ဦးကို အစ္စမိုးရားက အခေါ်ခိုင်းရာ ဒေါက်တာ ဘမော်က အိပ်ရာထဲမှ

'မလာနိုင်ဘူး၊ အခန်းထဲကိုပို့လိုက်'

ဟု ငေါက်လွှတ်လိုက်သည်။

မရှောင်မလွှဲသာ၍ နေ့လယ်စာတို့ ညစာတို့ အတူတူစားရလျှင်လည်း ဒေါက်တာဘမော်သည် ခပ်မြန်မြန်စားပြီး ဘာမှ မပြောဘဲ စားပွဲမှ အရင်ဆုံး ထသွားသည်။

× × ×

ဤကဲ့သို့ တစ်ဖက်သားကို ချိုးနှိမ်ချင်သောသူသည် အဖွဲ့ဝင်လူကြီးများနှင့် စစ်သေနာပတိတို့အား အထက်တွင် ဖော်ပြသကဲ့သို့ တွေ့ဆုံရအောင် စီမံပေးလိုက်ခြင်း ဖြစ်သည်။

လူကြီးများ၏ စိတ်ကို အတော်ထိခိုက်သည်။

နောက်တစ်နေ့တွင် အစည်းအဝေး၌

'ကျွန်တော်တို့ဟာ ကလေးကလေးတွေ မဟုတ်ဘူး၊ စစ်သေနာပတိချုပ် ဆိုတဲ့လူဟာ မနေ့က ကျွန်တော်တို့ကို အင်မတန် ရင့်သီးကြမ်းတန်းတဲ့ စကားလုံးများနဲ့ ပြောဆိုလွှတ်လိုက်သည်ကို ကျွန်တော်တို့ ပြင်းထန်စွာ ကန့်ကွက်ပါတယ်'

အစရှိသောစကားများနှင့် ဦးသိန်းမောင်ကြီးသည် အဖွဲ့ဝင်လူကြီးများ၏ စိတ်မချမ်းမြေ့ချက်ကို မှတ်တမ်းတင်လေသည်။

ကျွန်တော်တို့ အစည်းအဝေးတွင် ပြောသမျှစကားတွေကို ဗမာလက်ရေးတိုနှင့်လိုက်ပြီး အင်္ဂလိပ်လိုပြန်၍ စစ်တပ်ကို အားလုံးပို့ရသည်။

ထို့ကြောင့် ဦးသိန်းမောင်၏ ကန့်ကွက်ချက်ကိုလည်း စစ်သေနာပတိချုပ် မြင်ရမည်မှာ မလွဲပေ။

အဖွဲ့ဝင်လူကြီးတွေ နေ့စဉ်ပြောနေသော စကားတွေထဲမှာ ဂျပန်ကို မယုံကြည်သည့် စကားများလည်း ပါကြသည်။

ထို့ကြောင့် တစ်နေ့တွင် ဂျပန်စစ်တပ်မှ အဖွဲ့သို့ပေးသော စာတစ်စောင်တွင်

'ဂျပန်ကို ယုံပါ'

ဟူသော စာတစ်ပိုဒ် ပါလာလေသည်။

အဖွဲ့၏ ပြန်စာတွင်

'ဂျပန်ကို ယုံပါ ဆိုသည့်အတိုင်း ယုံပါသည်၊ ထိုနည်းအတိုင်း ဂျပန်ကလည်း ဗမာကို ယုံပါ'

ဟူသော အပိုဒ်တစ်ပိုဒ် ထည့်လွှတ်လိုက်ရာ ကျွန်တော်တို့ အစ္စမိုးရား၏ပယောဂနှင့်ပင် ထိုအပိုဒ်ကို အဖွဲ့၏ စာတမ်းထဲက ထုတ်ပစ်လိုက်ရ၏။

ဒေါက်တာဘမော်လည်း အလွယ်နှင့် လျှော့ပေးသော လူစားမဟုတ်။

စစ်သေနာပတိက အဖွဲ့ဝင်များကို ဧည့်ခံကျွေးမွေးသော ညစာစားပွဲတွင် စကားထပြီးပြောရာ၌ ဤအပိုဒ်ကို ပြောမိအောင် ထည့်၍ ပြောချလိုက်လေသည်။

အရှေ့ပိုင်းတွင် ဂျပန်နှင့်ဤသို့ အကြိတ်အနယ်ဖြစ်နေရစဉ် နောက်ပိုင်း၌လည်း ကျွန်တော်တို့နှင့် ဒေါက်တာဘမော် စာရင်းတစ်ပွဲ ရှင်းလိုက်ရသေး၏။

ဒေါက်တာဘမော်ကို အဓိပတိအဖြစ် ရွေးကောက်ရမည့်နေ့မှာ နီးကပ်လျက်ရှိပြီ။

ထို့ကြောင့် တစ်နေ့သ၌ သခင်မြ၊ သခင်သန်းထွန်းနှင့် ကျွန်တော်တို့ သုံးဦးသည် ဒေါက်တာဘမော်နှင့်တွေ့ရန် သူ့ရုံးခန်းထဲသို့ သွားကြလေ၏။

ကျွန်တော်တို့။ 'ကဲ အာဏာရှင်ကြီး၊ ကျွန်တော်တို့ သစ္စာရှိရှိနဲ့ အာဏာရှင်ကြီးကို လုံးဝ ထောက်ခံခဲ့ပြီးပြီ၊ ကျွန်တော်တို့ ပြောထားတဲ့ဟာကော ဘယ်နှယ့်လဲ'

ဒေါက်တာဘမော်။ 'ဘာပြောထားတာလဲ'

ကျွန်တော်တို့။ 'ဟာ Group Dictatorship* လေ'

ဒေါက်တာဘမော်။ 'အဲဒါ ဘာဖြစ်သလဲ'

ကျွန်တော်တို့။ 'အဲဒါ အခုအချိန်ရှိတုန်း ကျွန်တော်တို့ အတိအလင်းသိချင်တယ်၊ ဒီအချက်ကို အာဏာရှင်ကြီးက သဘောမတူဘူးဆိုရင် အဓိပတိရွေးကောက်တဲ့နေ့မှာ အာဏာရှင်ကြီးကို ကျွန်တော်တို့ မထောက်ခံနိုင်ဘူး'

---

* Group Dictatorship ဆိုသည်မှာ တစ်ဦးတည်းအာဏာရှင် မဟုတ်ဘဲ လူတစ်စု၏ လက်ထဲမှာ အာဏာထားခြင်းကို ဆိုသည်။ ဥပမာ အရေးကြီးသော ကိစ္စများတွင် တစ်ဦးတည်းက ဆုံးဖြတ်ချက်မချဘဲ ထိုလူတစ်စုက ဆုံးဖြတ်ချက်ချရမည်။

ဒေါက်တာဘမော်လည်း ဤစကားကို ကြားသောအခါ စားပွဲပေါ်တွင် တင်ထားသော ခါးပိုက်ဆောင်နာရီကို ကိုင်ပြီး ရှေ့တည့်တည့်စိုက်ကြည့်၍ နှစ်မိနစ်လောက် စကားမပြောနိုင်ဘဲ ရှိလေသည်။

ဒေါက်တာဘမော်။ 'ကိုယ်ပြောထားတယ် မဟုတ်ဘူးလား၊ Inner Circle* ကို ဖွဲ့ပါလို့ဆိုတာ ကြာလှပြီ၊ ဒီအကြံဟာ ကိုယ်ကစပြီး ပေးတာပဲ မဟုတ်ဘူးလား၊ လုပ်ကြပါ၊ လုပ်ဖို့ကောင်းတာ ကြာလှပြီ'

ဤမည်သောပျားရည်နှင့် တူသည့် စကားလုံးတို့ဖြင့် ကျွန်တော်တို့ကို ဒေါက်တာဘမော်သည် ဝမ်းချလိုက်ခြင်း ဖြစ်လေသည်။

ဤသို့ ဝမ်းချလိုက်ခြင်းကိုလည်း ကျွန်တော်တို့ ကောင်းစွာသိကြသည်။

ဤသို့ သိလျက်နှင့် အဘယ်ကြောင့် ထိုစကားများကို လက်ခံပြီး ပြန်လာကြသနည်းဟု မေးစရာ အကြောင်းရှိသည်။

အမှန်စင်စစ် ပြောရလျှင် ကျွန်တော်တို့ သွားကတည်းက ဒေါက်တာ ဘမော်ထံမှ ကတိတို့ ကတက်တို့ လိုချင်၍ သွားခြင်း မဟုတ်ပေ။

မည်သို့ပင်ကတိပေးပေး ဒေါက်တာဘမော်ကို မည်သည့်နည်းနှင့်မျှ ချုပ်ချယ်၍ မရ၊ ပြောချင်တာ ပြောပြီး လုပ်ချင်တာ လျှောက်လုပ်သည်ကို ကျွန်တော်တို့လည်း နှစ်နှင့် နှစ်ပေါင်းလျှင် လေး ဖြစ်သည်ကို သိသလို သိပြီးဖြစ်လေသည်။

အထက်ပါအတိုင်း ဒေါက်တာဘမော်ကို သွားပြောရာ၌ ကျွန်တော်တို့၏ ရည်ရွယ်ချက်မှာ အခြားမဟုတ်။ ဒေါက်တာဘမော်အား ကျွန်တော်တို့၏ ထောက်ခံချက်မှာ မည်မျှခရီးရောက်ကြောင်း သိစေရန်ပင် ဖြစ်လေသည်။

---

* Inner Circle ဆိုသည်မှာ အတွင်းလူယုံများအဖွဲ့ ဖြစ်သည်။

အမှန်စင်စစ် ထိုနေ့က ဒေါက်တာဘမော်က သဘောမတူနိုင်ဘူး၊ သွားကြဟု ဟောက်ပြောလိုက်လျှင်လည်း အဓိပတိ ရွေးကောက်ပွဲနေ့တွင် သူ့ကို ကျွန်တော်တို့ ကန့်ကွက်ရမည် မဟုတ်။

အဘယ့်ကြောင့်ဆိုသော် အော်စေးကိုး မြှောက်ပေး၍ ကြွနေသော အဖွဲ့ဝင်အချို့ကိုပင် မကြာသေးမီက ကျွန်တော်တို့ အစ္စမိုးရားကခေါ်၍

'မင်းတို့ ရွေးကောက်ပွဲနေ့ကျရင် ဒေါက်တာဘမော်ကို မကန့်ကွက်ရဘူး'

ဟု ခပ်တည်တည် ကြိမ်းပြီးကြောင်း ကျွန်တော်တို့လည်း ခိုင်လုံသောဌာနမှ သတင်းရပြီးလေပြီ။

ဗမာအချင်းချင်း ခွတိုက်ပြီး ဂျပန်ကြိမ်းမှ ငြိမ်ရမည့် အဖြစ်မျိုးကိုကား ကျွန်တော်တို့ အလိုမရှိ။

ဂျပန်တို့၏လုပ်ပုံမှာ အမြဲတမ်း ဤသို့ချည်းပင်တည်း။ တစ်ယောက်က တစ်မျိုး မြှောက်ပေး၊ အဟုတ်မှတ်၍ အမြှောက်ခံရသူက ထ၍လုပ်၊ သူတို့၏ အလိုပြည့်သွားလျှင် အခြားတစ်ယောက်က ခေါ်ပြီးကြိမ်း၊ သူတို့ အချင်းချင်းမှာမူကား အားလုံး ချိတ်ဆက်များ လုပ်ပြီးသားဖြစ်လေသည်။

ထို့ကြောင့် သူတို့သည် သစ္စာရှိရှိနှင့် တပည့်ကောင်းများကို မွေး၍ မရချေ။

ငင်းပြင်လည်း ကျွန်တော်တို့ကိုယ်တိုင်က ဂျပန်ကို ခုခံဖို့အတွက် လူကြီးပိုင်းတွင် အကောင်းဆုံးပုဂ္ဂိုလ်မှာ ဒေါက်တာ ဘမော်ပင် ဖြစ်သည်ဟု ကျွန်တော်တို့၏ စိတ်ကို ကျွန်တော်တို့ ပိုင်းဖြတ်ပြီးဖြစ်လေသည်။

ဒေါက်တာဘမော်သည် မည်သည့်ကိစ္စမဆို လုပ်ချင်လာလျှင် ဘေးအန္တရာယ်ကို တယ်မစဉ်းစား။ တစ်နည်းနှင့် မဖြစ်လျှင် တစ်နည်းနှင့် ဖြစ်အောင် ဇွတ်လုပ်တတ်သော ဇွဲနှင့် သတ္တိရှိသည်။

သူ့တွင် ဗမာ့မာန အများကြီးရှိသည်။ ဂျပန်က နှိမ်လွှတ်လိုက်သည့် အခါများတွင် အကြာကြီးဆွဲပြီး စိတ်မပျက်တတ်။ သူ့ စည်းထဲသို့ ဝင်လာလျှင်လည်း အားမနာဘဲ ဂျပန်ကို ပြန်ပြီး နှိမ်လွှတ်တတ်၏။

အဓိပတိ ရွေးကောက်ပွဲလုပ်ရမည့် နေ့သို့ ရောက်လာလေပြီ။

ထိုနေ့တွင် အခြားနေ့များကဲ့သို့ အစ္စမိုးရားလည်း ဧည့်သည်အဖြစ်နှင့် ရောက်လျက်ရှိလေသည်။

အခြားနေ့များတွင် ဘယ်သူတွေ ဘာပြောကြသည်ကို ကိုယ်တိုင် လာ၍ အကဲခတ်ခြင်း ဖြစ်သည်။

သူလာတိုင်း စကားပြန်တစ်ယောက် သူ့အနားတွင် ချထားရသည်။

ဒေါနှင့်ပြောသည့် စကားများကို သူ အထူး စိတ်ဝင်စားသည်။

ဒေါနှင့်ပြောလျှင် ဂျပန်ဆန့်ကျင်ဘက် စကားဖြစ်မှာပဲဟု သူယူဆ ဟန်ရှိသည်။

သို့ရာတွင် အဓိပတိရွေးကောက်ပွဲနေ့က သူ၏ လာခြင်းကား အကဲခတ် ရန်အတွက် မဟုတ်၊ ကြွစောင်းစောင်း ဖြစ်နေသော သူ့လူတွေ သူ့စကား ကိုမှ နားထောင်ရဲ့လားဟု ကိုယ်တိုင် လာ၍ကြည့်ခြင်း ဖြစ်လေသည်။

ဤကဲ့သို့လာခြင်းမှာ ဒေါက်တာဘမော်ကို အလွန်ချစ်၍ သူ့မိတ်ဆွေ ကြီး အဓိပတိ မဖြစ်လိုက်မှာ စိုးသောကြောင့် မဟုတ်။

ဝန်ကြီးချုပ် တိုဂျိုကိုယ်တိုင်က ဒေါက်တာဘမော် ဘယ်နည်းနဲ့မဆို အဓိပတိဖြစ်ရမည်ဟု ညွှန်ကြားချက်ပေးထားသောကြောင့် အထက်အမိန့် ကို နာခံရသောအနေနှင့် လာပြီး စောင့်ရခြင်းဖြစ်သည်။

သူ့အလိုအတိုင်းသာဆိုလျှင် ဒေါက်တာဘမော် ကြွသည်မှာ ကြာလေ ပြီ။

ရွေးကောက်ရန် အချိန်သို့ ရောက်သောအခါ သခင်ကိုယ်တော်မှိုင်းက ဒေါက်တာဘမော်အား အဆိုသွင်းလိုက်ရာ မြင်းအကောင် တစ်သန်းအားလောက်ရှိသော စက်ရုံကြီးတစ်ခုသည် နေ့မနား ညမနား တဂျုံးဂျုံး တဒိုင်းဒိုင်းနှင့် ခုတ်မောင်းနေရာမှ ညဥ့်သန်းခေါင်ကျော် လူခြေတိတ်သည့်အချိန်တွင် ပြုန်းခနဲ ရပ်လိုက်သကဲ့သို့လည်းကောင်း၊

လူသံ ခွေးသံ ကြက် ငှက်သံတို့ဖြင့် ဆူညံနေသော နေရာတစ်ခုမှ သုံးမိုင်ခန့်ရှည်လျားသော ဥမင်လိုဏ်ခေါင်း၏ အလယ်ဗဟိုသို့ ပြုန်းခနဲ ရောက်သွားရဘိသကဲ့သို့လည်းကောင်း၊

အလွန် ဆူညံလျက်ရှိသော လူထုအစည်းအဝေးကြီးတစ်ခုတွင် လက်သည်းခွာရန် တန်ဆာပလာများ၊ ပွက်ပွက်ဆူနေသော ရေနွေးအိုးကြီးများ စက်သေနတ်ကြီးများကို ယူဆောင်လာသော စစ်သားများသည် ရုတ်တရက် စင်မြင့်ပေါ်သို့ တက်လာပြီးလျှင် 'တိတ်စေ၊ ဆူတဲ့လူရှိရင် ဟောဒီဟာတွေကို ကြည့်ထား'ဟု အော်ငေါက်လိုက်သည့်အခါ လူထုကြီးသည် မီးကို ရေနှင့်သတ်လိုက်သလို ငြိမ်၍သွားဘိသကဲ့သို့ လည်းကောင်း

လွှတ်လပ်ရေးစီစဥ်မှု အစည်းအဝေးခန်းမ တစ်ခုလုံးသည် တိတ်၍သွားလေ၏။

ခန်းမ ပတ်ဝန်းကျင်ရှိ ရုံးဝင်းအထဲတွင် ဆူနေကြ အူနေကြ ခွေးသံများပင် မကြားရတော့ချေ။

အဖွဲ့ဝင် လူကြီးတွေကို ဂုဏ်တုဂုဏ်ပြိုင် လုပ်သည့်အနေနှင့် အစည်းအဝေး ခန်းမအနီးရှိ ကုက္ကိုပင်ကြီးပေါ်သို့ မကြာခဏ ပျံလာကြပြီး၊ ထွေးလုံးရစ်ပတ် ကိုက်သတ် ဆူညံနေကြကုန်သော ဆက်ရက်များပင်လျှင် ထိုအချိန်အခါ၌ ထွေးလုံးရစ်ပတ်ခြင်းတို့ကို ခေတ္တ ရပ်စဲလိုက်ကြပြီး

အစည်းအဝေးခန်းမ၏ တိတ်ဆိတ်ခြင်းကို အံ့ဩစွာ စိုက်ကြည့်လျက်ရှိကြသည်။

အစ္စမိုးရားလည်း သူ့အလိုပြည့်ပြီဖြစ်သဖြင့် ပြုံးပြီး ထ၍ပြန်လေသည်။

သို့ရာတွင် သူပြုံးသည်ကို ကြည့်ရသည်မှာ ကျေနပ်နေပုံထက် သရော်နေပုံက ပို၍ထင်ရှားသည်။

အမိပ္ပာယ်အစစ်ကိုကား သူ့ကိုယ်စောင့်နတ်များနှင့် သူမှတစ်ပါး ဘယ်သူမျှ မသိနိုင်ချေ။



## အခန်း ၁၃
## လွတ်လပ်ပြီ လွတ်လပ်ပြီ
## တို့ပြည်လွတ်လပ်ပြီ

၁၉၄၇ ခု၊ ဇူလိုင်လ ၃၀ ရက်နေ့ ညနေစောင်းလောက်တွင် ဒေါက်တာဘမော်သည် သခင်မြ၊ သခင်သန်းထွန်းနှင့် ကျွန်တော့်ကို အိမ်တော်သို့ ဖိတ်ခေါ်လေသည်။

ဒေါက်တာဘမော်။ 'ကဲ သခင်နု၊ ကိစ္စက တစ်ခါထဲ သန္နိဋ္ဌာန်ချပြီး ပလား'

ကျွန်တော်။ 'ချပြီးတာကြာပါပြီ'

ဒေါက်တာဘမော်။ (သခင်မြနှင့် သခင်သန်းထွန်းတို့၏ ဘက်သို့ လှည့်၍) 'ဟုတ်တယ်၊ ကိုယ်လဲပြောနေတာ ကြာပြီ၊ ရှိုနန်ကိုခေါ်သွားတာတောင် ဒီရည်ရွယ်ချက်နဲ့ပဲ၊ တစ်လမ်းလုံးလဲ ပြောလာတာလဲ မရဘူး၊ အင်းလေ၊ အတင်းအကျပ် လုပ်ရမယ်လို့ တိုက်တွန်းဖို့တစ်ခုပဲရှိတော့တယ်၊ တခြား ပြောစရာတွေတော့ အားလုံးပြောပြီးပြီ၊ သခင်နု လက်ခံမယ်ဆိုရင် နိုင်ငံခြားဌာနအတွက် မှန်းထားတယ်၊ တစ်နေ့ကျရင် ဒီနေရာဟာ တော်တော် အရေးပါအရာရောက်တဲ့ ဌာနတစ်ခုဖြစ်လာမယ်၊ ဘယ့်နှယ်လဲ သခင်နု'

ကျွန်တော်။ 'ကျွန်တော်ကတော့ အာဏာရှင်ကြီးကို ပြောထားတဲ့ အတိုင်းပဲ ထပ်ပြီး ပြင်စရာမလိုပါဘူး'

ဒေါက်တာဘမော်။ (သခင်မြဘက်သို့ လှည့်ပြီး) 'သခင်မြလူကို ကြည့်လုပ်အုံး၊ စာရေးဆရာလုပ်ချင်တယ်ချည်း ပြောနေတယ်၊ ကိုယ်တို့လဲ ငယ်ငယ်တုန်းကတော့ ဒီလိုပဲ အရူးထဖူးတာပဲ၊ နောင်တော့လဲ ပြီးသွားတာပဲ' (သခင်မြသည် ပြုံးနေသည်။)

ကျွန်တော်။ 'အာဏာရှင်ကြီးမှာ စာပေဗဟုသုတတွေ ဘယ်လောက်ရှိတယ်ဆိုတာ ရှိနန်ရောက်လို့ အာဏာရှင်ကြီး ပြောတာတွေကို တစ်ရက် နှစ်ရက်လောက် ဆက်နားထောင်ပြီးမှ ကျွန်တော်လဲ သေသေချာချာ သိရတော့တာပဲ၊ အမှန်အတိုင်းပြောရရင် ကျွန်တော်ဟာ အခုနေအခါမှာ အာဏာရှင်ကြီးကို စာပေသမားတစ်ယောက်အဖြစ်နဲ့ နိုင်ငံရေးသမားထက် ပိုပြီး ကြည်ညိုပါသေးတယ်၊ အာဏာရှင်ကြီးလဲ နိုင်ငံရေးကိုစွန့်ပြီး ကျွန်တော့်လို စာရေးဆရာ လုပ်မယ်ဆိုရင် ဗမာ့စာပေ အဆင့်အတန်းဟာ အတော်တက်မှာပဲ'

ဒေါက်တာဘမော်လည်း ပြုံး၍နေလေသည်။

ဒေါက်တာဘမော်။ 'ဒါဖြင့် သခင်နုအတွက်ဟာ ပြီးပြီပေါ့'

ကျွန်တော်။ 'ဟုတ်ကဲ့'

အခြားစကား အနည်းငယ်ပြောပြီး ကျွန်တော်တို့ ထပြန်ခဲ့ကြလေသည်။

ည ခုနစ်နာရီလောက်တွင် Inner Circle ဟု ခေါ်သော ကျွန်တော်တို့၏ အတွင်းလူတစ်စု ကျွန်တော်အိမ်သို့ ပေါက်လာကြလေသည်။

သူတို့၏မျက်နှာထားများကို အကဲခတ်ရသည်မှာ တစ်စုံတစ်ခုကို သန္နိဋ္ဌာန်ချထားသကဲ့သို့ ထင်ရ၏။

သူတို့လာကြသည်မှာ အခြားကိစ္စကြောင့် မဟုတ်။ ရာထူးလက်မခံဘဲ ငြင်းခဲ့သည်ဟူသော သတင်းကြားသောကြောင့် အပြင်းစိုင်းလာကြခြင်း ဖြစ်သည်။

ကျွန်တော်လည်း ဒေါက်တာဘမော်ကို အသေအချာ ပြောခဲ့ပြီးပြီဟု အတင်းခံလေသည်။

'ခင်ဗျားဟာ ဒီလိုချည်းပဲ၊ ဘယ်တော့မှ တိုင်တိုင်ပင်ပင် မရှိဘူး၊ တယောက်ထဲ ထင်ရာကို ဖွတ်လုပ်နေတာပဲ'

'ဒီအချိန်ဟာ ငါရာထူးမယူဘူး ဆိုပြီး ကြွားနေဖို့အချိန် မဟုတ်ဘူး'

'ကျုပ်တို့အားလုံး ခင်ဗျားလို နေချင်တဲ့လူချည်းပဲ၊ မနေနိုင်လို့ အရှုံးခံပြီး ထလုပ်နေကြရတာ'

'ခင်ဗျား ဒီလိုတစ်ကိုယ်ကောင်းကြံရင် ဘာကောင်းမလဲ'

'ခင်ဗျားကြီး ပြောလို့မရရင် ကျုပ်တို့လဲ ခင်ဗျားလို တစ်ကိုယ်ကောင်း ကြံပြီး ထွက်သွားကြမှာပဲ'

အစရှိသော စက်သေနတ်ဆံ အမြောက်ဆံတို့ဖြင့် ထိုလူစုသည် နှစ်နာရီမျှ တရကြမ်းပစ်ခတ်နေရာ စာရေးဆရာ လုပ်ချင်လို့ပါ ဟူသော ဆင်ခြေတစ်ခုတည်းဖြင့် ကာရံထားသော ကျွန်တော်၏ ခံတပ်သည် ပြို၍ ကျလေ၏။

မကြာမီ ကျွန်တော်လည်း အလံဖြူထိုးပြီး ခင်ဗျားတို့ထင်သလို လုပ်ပါတော့ဟု ချွင်းချက်မရှိ လက်နက်ချလိုက်ရလေ၏။

သူတို့ကလည်း ကျွန်တော့်ကိစ္စကို အုပ်ချုပ်ရန် သခင်မြ၊ ဗိုလ်ချုပ်အောင်ဆန်း၊ သခင်သန်းထွန်းတို့ပါဝင်သော မဟာမိတ် စစ်အောင်နိုင်ရေး အဖွဲ့သို့ လွှဲလိုက်လေသည်။

ပြည်ထဲရေးရာထူးနှင့် နိုင်ငံခြားရေးရာထူး နှစ်ခုရှိသည့်အနက် အချို့က ပြည်ထဲရေးရာထူးကို ယူစေချင်ကြသည်။

သို့ရာတွင် သုံးဦးအဖွဲ့တွင် 'နိုင်ငံခြားဌာနက ပိုပြီး အရာရောက်သည်၊ ကမ္ဘာနှင့် အဆက်အသွယ်ရနိုင်သည်' ဆိုပြီး ဗိုလ်ချုပ်အောင်ဆန်းက ပြောသဖြင့် ၎င်းမှာ အတည်ဖြစ်သွားလေသည်။

ကျွန်တော်လည်း နောက်တစ်နေ့တွင် နိုင်ငံခြားရာထူးကို လက်ခံပါမည်ဟု ဒေါက်တာဘမော်ထံသို့ သွားပြီး စကားပြင်ရ ပြန်လေ၏။

ဇူလိုင် ၃၁ ရက်နေ့တွင် ဂျပန်တို့လည်း ခြေရှုပ်လျက်ရှိသည်။

လွတ်လပ်သော ဗမာအစိုးရအဖွဲ့၏ နာမည်စာရင်းကို သူတို့ အလွန်သိလို၏။

ဒေါက်တာဘမော်လည်း ထိုစာရင်းကို လျှို့ဝှက်နိုင်သလောက် လျှို့ဝှက်၍ ထားလေ၏။

ဂျပန်များအသိချင်ဆုံး အချက်မှာကား အစိုးရအဖွဲ့ထဲတွင် သခင်ထွန်းအုပ်နှင့် သခင်ဗစိန်တို့ပါသလားဟူသော အချက်ပင် ဖြစ်လေသည်။

၎င်းနေ့ နေ့လယ်လောက်တွင် တကာနို ဆိုသူသည် ကျွန်တော့်အား လက်ဖက်ရည်သောက်ရန် သူ့အိမ်သို့ဖိတ်လေသည်။

သခင်ထွန်းအုပ်နှင့် သခင်ဗစိန်တို့၏ အကြောင်းကို မေးမည်ဆိုသည်ကို ကျွန်တော်လည်း အသေအချာသိသည်။

သို့အတွက် မေးခဲ့သည်ရှိသော် မည်ကဲ့သို့ ဖြေရမည်နည်းဟု ဒေါက်တာဘမော်ထံသို့ ပြေး၍ မေးရ၏။

ဒေါက်တာဘမော်က တကာနိုကိုတော့ တိတိလင်းလင်း ဖွင့်ပြောလိုက်၊ ကိစ္စမရှိဘူးဟု ဆို၏။

တကာနိုသည် ဂျပန် အကြံပေးအရာရှိများထဲတွင် အကြီးဆုံးဖြစ်သည်။

ဂျပန် အကြံပေးအရာရှိထဲတွင် ဗမာအစိုးရနှင့် အသင့်မြတ်ဆုံး ဖြစ်သည်။

တကာနိုလည်း ကျွန်တော်ထင်သည့်အတိုင်းပင် သခင်ထွန်းအုပ်နှင့် သခင်ဗစိန်တို့၏ အကြောင်းကို မေးသည်။

တကာနိုနှင့် ဗမာအစိုးရတို့မှာ အနည်းငယ် ပဏာစားသဖြင့် စစ်တပ်က စုံစမ်းခိုင်းခြင်း ဖြစ်လေသည်။

ဒေါက်တာဘမော်သည် သူ့စည်းထဲသို့ရောက်လာလျှင် ခေါင်းမာသည်ကို သိသဖြင့် သခင်ထွန်းအုပ်နှင့် သခင်ဗစိန်၏ အကြောင်းကို ဒေါက်တာဘမော်အား ပြောပြရန် စစ်တပ်သည် ဆုတ်ဆိုင်းဆိုင်း ဖြစ်နေသည်။

တကာနိုကလည်း ဒေါက်တာဘမော်ကို ဤအကြောင်းနှင့် ပတ်သက်၍ မပြောချင်။

ထို့ကြောင့် ကျွန်တော့်ကိုခေါ်ပြီး တောက်ကြည့်ခြင်း ဖြစ်သည်။

ကျွန်တော်လည်း သူနှင့် မတွေ့မီကလေးတွင် ဒေါက်တာဘမော်နှင့် တွေ့ပြီး၍ ဘယ်နည်းနှင့်မှ သခင်ထွန်းအုပ်နှင့် သခင်ဗစိန်တို့ကို လက်ခံနိုင်မည် မဟုတ်သည့်အကြောင်းကို သိခဲ့ရသည်ဟု တကာနိုကို အမှန်အတိုင်း ဖွင့်ပြောပြလေသည်။

ကျွန်တော်။ 'ကုန်ကုန်ပြောလိုက်မယ် မစ္စတာတကာနို၊ စစ်တပ်က ဒီလူနှစ်ယောက်ကို ထည့်ရမယ်လို့ အတင်းအကျပ် တိုက်တွန်းရင် ဒေါက်တာဘမော် အလုပ်က ထွက်မှာပဲ၊ ဒီအတိုင်း ပြောပြဖို့ကိုလဲ ကျွန်တော့်ကို တိတိလင်းလင်း မှာလိုက်တယ်'

တကာနို။ 'အို အို၊ ဒီလိုလဲ မဟုတ်ပါဘူး၊ ခင်ဗျားတို့ လွတ်လပ်တဲ့ အစိုးရကို ဂျပန်စစ်တပ်က အတင်းအကျပ် မခိုင်းပါဘူး'

နောက်တစ်နေ့ ဩဂုတ်လ ၁ ရက်နေ့တွင် လွတ်လပ်ရေး အစီအစဉ်တို့မှာ အလွန်အတင့်ရဲသော ဂျပန်ဓာတ်ပုံဆရာတို့၏ နှောင့်ယှက်မှုကလေးများမှတစ်ပါး အားလုံး အစီအစဉ်အတိုင်း ချောချောမောမော ပြီးစီးသွားလေသည်။

ဂျပန်စစ်သေနာပတိချုပ်နှင့် အခြား ဂျပန်အရာရှိကြီးများသည် အဓိပတိနှင့်တကွ လွတ်လပ်သော ဗမာအစိုးရအဖွဲ့နှင့် ဓာတ်ပုံအတူတူ ရိုက်လို၏။

ထို့ကြောင့် အစီအစဉ်များ ပြီးလျှင်ပြီးချင်း ဓာတ်ပုံရိုက်ပါရစေဟု အကြောင်းကြားထား၏။

အဓိပတိကလည်း ဘာဖြစ်မှန်း မသိ၊ သူတို့နှင့် ဓာတ်ပုံမရိုက်ချင်။

သို့အတွက် နံနက် ၁၀ နာရီလောက်တွင် အစီအစဉ်များ ပြီးလျှင်ပြီးချင်း ဝန်ကြီးများကို နံနက်စာပြန်စားချင်လျှင် စားကြ၊ နေ့လယ် ၁၂ နာရီလောက်မှ ပြန်လာကြဟု ပြန်လွှတ်လိုက်သည်။

ဂျပန်စစ်သေနာပတိချုပ်နှင့် သူ့အရာရှိကြီးများသည် ဓာတ်ပုံရိုက်ရန် လာကြသောအခါ 'ဝန်ကြီးတွေ မရှိတော့ဘူး၊ ပြန်သွားကြပြီ' ဟု ဆိုပြီး ဒေါက်တာဘမော်သည် ဂျပန်များကို ပြန်လွှတ်လိုက်၏။

ဂျပန်စစ်သေနာပတိချုပ်လည်း အတော်ပင် စိတ်ထိခိုက်သွားသည်ဟု ဂျပန်စစ်ဗိုလ်တစ်ယောက်ထံမှ သိရှိရလေသည်။

ထို ဩဂုတ်လ ၁ ရက်နေ့မှစ၍ ကျွန်တော်လည်း နိုင်ငံခြားရေးဝန်ကြီး ဖြစ်လာလေပြီ။

ဝန်ကြီး ဆိုသည်မှာ ရုံးတစ်ရုံး ရသည်။

ထိုရုံးတွင် အတွင်းဝန်၊ ဒုတိယအတွင်းဝန်၊ လက်ထောက်အတွင်းဝန်၊ နိုင်ငံခြားရေးအလုပ်သင်ဝန်ထောက်များ၊ ရုံးဝန်ထောက်များ၊ ဘာရေးကြီး

များ၊ စာရေးကလေးများ၊ မင်းစေများ အစရှိသည့် အဆောင်အယောင်များကိုလည်း ရသည်။

ရုံးသို့ရောက်လျှင် အတွင်းဝန်မှ စာရေးကလေးအထိ (မင်းစေမပါ) မြင်ရာအရပ်မှ တရိုတသေ။

ထိုသူများသည် အစိုးရအလုပ်တွင် သံမဏိရှည်လာပြီဖြစ်၍ အပြောအဆို အနေအထိုင်မှာ ဆိုဖွယ်ရာမရှိ။

(မင်းစေများမှာမူကား ခေတ်သစ်တွင် ရရာဆွဲခန့်ရသူများဖြစ်ရာ ခပ်ရိုင်းရိုင်းကလေးတွေ ဖြစ်နေကြသေးသည်။ ဝန်ကြီးလာလည်း ထိုင်ရာမှမထ၊ ဆေးပေါ့လိပ်ကြီးကို မော့၍ သောက်ချင်လည်း သောက်နေတတ်လေသည်။ ဝန်ကြီးက သူတို့ကို မမြင်ချင်ယောင်ဆောင်ပြီး သွားရသည်။)

ထိုအရာရှိများအား ခိုင်းစရာကိစ္စရှိလျှင် စားပွဲပေါ်က ဘဲလ်ကလေးကို အသာတီးလိုက် မင်းစေဝင်လာလျှင် လိုချင်သည့်အရာရှိကို အခေါ်ခိုင်း။

ထိုအရာရှိလာလျှင် လုပ်ချင်သည့်ကိစ္စကိုပြောပြ၊ မဖြစ်နိုင်သည့် ကိစ္စဟူ၍ မရှိ။ အချိန်ကျလျှင် လုပ်ပြီးသားဖြစ်ရမည်။

ဝန်ကြီးက မှားနေသည့် ကိစ္စရှိ၍ ပြင်ဆင်စေချင်လျှင်တောင် တစ်ထိုင်တည်း ခိုင်းခိုင်းချင်း မပြင်ဆင်။

နောက်တစ်နာရီ နှစ်နာရီလောက်ကြာမှ တစ်ဖန် ပြန်လာပြီး ဝန်ကြီးကိုယ်တိုင်က သူမှားနေပြီဆိုသည်ကိုသိအောင် အရိပ်အငွေ့ဖြင့် သွယ်ဝိုက်၍ ပြောသည်။

ရုံးတွင်သာမဟုတ်၊ ပွဲလမ်းသဘင်တို့သို့ သွားပြန်ပါလည်း ဝန်ကြီးလုပ်သူများမှာ ရှေ့တန်းက တွေ့သည့်နေရာတိုင်းမှာ တွေ့သမျှ ဗမာအရာရှိကြီးငယ်တို့ကလည်း တရိုတသေ။

ဘဝသစ်တွင် အတွေ့သစ်ဖြစ်နေ၍ လက်ဦးပထမတွင်ကား ကြောင်သလိုလို အမ်းသလိုလိုရှိသော်လည်း ဤသို့ အပြုစုခံရသည်မှာ အရသာတစ်မျိုးပဲဟု တဖြည်းဖြည်း ထင်မှတ်စပြုလာလေ၏။

အို၊ ဝန်ကြီးလုပ်ရသည်မှာ တယ်ဇိမ်ရှိပါကလား။

ဝိဒေဟရာဇ်ပုတ်သင်နှင့် ရက်ကန်းသည်မ သောမနဿီ တို့ကဲ့သို့ ဝန်ကြီး၏ အဆောင်အယောင် အသိုင်းအဝိုင်းတို့က ဝိုင်း၍မြှောက်ကြသဖြင့် ဝန်ကြီးမှာ မသိမသာ ချောက်ချားစပြုလျက်ရှိလေသည်။

တစ်ခါတစ်ခါ ကိုရွှေဂျပန်နှင့် ရင်ဆိုင်တိုးမိမှသာ ရှင်ဘုရင်ဖြစ်နေသည်ဟု အိပ်မက်မက်သောသူသည် အိပ်ရာ လန့်နိုးသကဲ့သို့ 'ဂျပန်ပြည်မှာလုပ်သည်' ဟူသော စာတမ်းကို ကိုယ့်နဖူးမှာ ကိုယ်ပြန်၍ မြင်လေတော့၏။

ထို့ကြောင့် ကျွန်တော်လည်း ဂျပန်ကို ရှောင်နိုင်သရွေ့ ရှောင်၏။

တစ်ခါတစ်ခါ ကျွန်တော်က မည်မျှရှောင်သော်လည်း သူတို့က ဇွတ်အတင်းတိုးလာ၍ တွေ့ရသောအခါမျိုးလည်း ရှိသေး၏။

ဝန်ကြီးဖြစ်ပြီး၍ နှစ်ရက်မျှကြာသော် လွတ်လပ်သော ဗမာနိုင်ငံတော်အစိုးရ၏ နိုင်ငံခြားဝါဒကို သတင်းစာများသို့ ထုတ်ပေးရမည် ဖြစ်၏။

ထို့ကြောင့် ဂျပန်သတင်းထောက်များနှင့် ဗမာသတင်းထောက်များကို ဖိတ်ခေါ်လိုက်လေသည်။

ဖိတ်ခေါ်ထားသည့်အချိန်မှာ ၁၁ နာရီ ဖြစ်သည်။

သို့ရာတွင် အိမ်တော်ကြီးတွင် ဝန်ကြီမျာအစည်းအဝေးရှိနေ၍ ၁၁ နာရီခွဲလောက်မှ သတင်းထောက်များနှင့် တွေ့ရသည်။

ထိုနေ့က ဂျပန်သတင်းထောက်များထဲတွင် ဒိုမေသတင်းထောက် ဟာစီဂါဝါးဆိုသူလည်း ပါသည်။

သူသည် အမေရိကမှာမွေးပြီး အမေရိကမှာ ကြီးသောကြောင့် အင်္ဂလိပ်စကားကို အမေရိကန်တစ်ဦးကဲ့သို့ ကောင်းကောင်းကြီးပြောနိုင်သည်။

အခြား ဂျပန်သတင်းထောက်များကမူ အင်္ဂလိပ်လို မတတ်။

ထို့ကြောင့် ဟာစီဂါဝါးက မေးခွန်းတွေ အများကြီး စီစဉ်လာပြီး သူတစ်ဦးတည်း သူများထက်ပို၍ သတင်းတွေရအောင် စိတ်ကူးထား၏။

ဤအကြံကို အခြား ဂျပန်သတင်းထောက်များက ရိပ်မိသဖြင့် အင်္ဂလိပ်လို ကောင်းကောင်းပြောနိုင်သော ဂျပန်စစ်တပ်မှ စကားပြန် အော့စတူးကို ခေါ်လာကြသည်။

သို့ရာတွင် အစည်းအဝေးဖွင့်သောအခါ ကျွန်တော်က ဝါဒကိုလည်း ဗမာလို၊ မေးသမျှ မေးခွန်းတွေကိုလည်း ဗမာလို ဖြေ၍ အတွင်းဝန်အား အင်္ဂလိပ်လို ပြန်စေသည်။

သို့အတွက် ဟာစီဂါဝါးမှာ အတော်အကျပ်ရိုက်သွားသည်။

ဘယ်လောက် လူပါးဝသနည်းဆိုသော် အစည်းအဝေးလုပ်နေစဉ် ထ၍ ပြန်သွားသည်။

သို့ရာတွင် ဤလူပါးဝချက်ကား ဒုတိယ လူပါးဝချက်လောက် မဆိုးသေးပေ။

အစည်းအဝေးပြီးကြသောအခါ အင်္ဂလိပ်စကားမတတ်သော ဂျပန်သတင်းထောက်များက အားပါးတရ ချီးကျူးကြသည်။

ဗမာသတင်းထောက်များကလည်း ဂျပန်တွေအပေါ် ဂုဏ်ယူကြဟန် လက္ခဏာရှိကြသည်။

ကျွန်တော်လည်း ညနေစောင်း၍ ရုံးမှ အိမ်သို့ ပြန်ရောက်သောအခါ ကျွန်တော့် စားပွဲပေါ်တွင် စာတစ်စောင်ကို တွေ့ရ၏။

ဘာစာများပါလိမ့်ဟု ဖွင့်ဖတ်လိုက်ရာ ကျွန်တော့်မျက်လုံးများပင် ပြာ၍ သွားလေ၏။

ထိုစာမှာ ဟာစီဂါဝါးထံမှစာ ဖြစ်သည်။ အဓိပ္ပာယ်မှာ

သခင်နု၊ ရွှေးက ခင်ဗျားအပေါ်မှာ ကျုပ်၏ အထင်ကြီး နေချက်တို့သည် ယနေ့အစည်းအဝေးတွင် ပျောက်ကွယ်၍ ကုန် လေပြီ။

ကျုပ်တို့ သတင်းထောက်တွေကို ၁၁ နာရီတွင် ဖိတ်ထား သော်လည်း ခင်ဗျားသည် ၁၁ နာရီခွဲမှ ပေါ်လာသည်။ လာသည့် အခါလည်း လူယဉ်ကျေးအားလုံးတို့၏ ထုံးစံအတိုင်း သတင်းထောက် များအား ဝမ်းနည်းပါသည်ဟူသော စကားကလေး တစ်ခွန်းကိုမျှ မပြော။

ဂုဏ်းပြင်လည်း ခင်ဗျားလို လူမျိုးတစ်ယောက်ဟာ အင်္ဂလိပ်လို ကောင်းကောင်းပြောနိုင်လျက်နှင့် တမင်သက်သက် ဗမာလို လျှောက် ပြောနေခြင်းမှာ ကျုပ်တို့သတင်းထောက်တွေကို မထေမဲ့မြင်လုပ်ရာ ရောက်သည်။

ခင်ဗျား တစ်ခုသိစေချင်တာက တခြားဟာမဟုတ်၊ သတင်းစာ ဆိုတာ သာမညအဖွဲ့ကလေး မဟုတ်ဘူး ဆိုတာပါပဲ။

သတင်းစာဟာ ဘယ်လောက် တန်ခိုးကြီးတဲ့လူပင်ဖြစ်စေ၊ ကျိုးသွားအောင်လည်း ချိုးပစ်နိုင်သည်၊ တိုးတက်သွားအောင်လည်း လုပ်ပေးနိုင်သည် ဆိုသည်ကို အစဉ်အမြဲ မှတ်ထားပြီး နောင်ကို ဘဝင်မမြင့်ဖို့ သတိပေးလိုက်သည်။

ဤစာကို ဖတ်ပြီးသည့်နောက် ကျွန်တော့် တစ်ကိုယ်လုံးလည်း ဆတ်ဆတ် တုန်နေသည်။

ညနေစာထမင်းကိုပင် ကောင်းစွာမစားနိုင်။ တစ်လုပ် နှစ်လုတ် လောက် စားပြီး ထသွားရသည်။

အခန်းထဲတွင်လည်း ဘာလုပ်ရမှန်းမသိ၊ ဟာစီဂါဝါး၏ ရင့်သီး ကြမ်းတမ်းသော စကားလုံးများကိုသာ မြင်လျက်ရှိလေသည်။

၎င်းတို့ကို မျက်စိထဲမှ ဖျောက်၍မရ။ ထိုင်နေရင်းလည်း ၎င်းတို့ပင် ပေါ်နေသည်။ အိပ်နေရင်းလည်း ၎င်းတို့ပင်ပေါ်နေသည်။

ကျွန်တော်၏ မိန်းမကလည်း ဘုမသိဘမသိ ကျွန်တော် ဂနာမငြိမ် ဖြစ်နေသည်ကို မြင်သဖြင့် 'ဘာဖြစ်နေတာလဲ' ဟု လာ၍ မေးသည်ကိုပင် ဂျပန်ကိုမဲပြီး 'သွားကြ သွားကြ လာမရှုပ်ကြစမ်းနဲ့' ဟု တအားကုန် အော်လွှတ်လိုက်သဖြင့် သမီး စမ်းစမ်းကို ဆွဲ၍ 'လာ စမ်းစမ်း နင့်အဖေ ပေါရိသာဒ ထနေတယ်' ဆို၍ ထွက်သွားရလေသည်။

'ဒီအကောင်ကလေး ငါ့တစ်ဖက်ရမ်းရှိတယ်၊ ဂုတ်နှိမ်ပြီး မျက်နှာကို ဒူးနဲ့တိုက်ရရင် ကောင်းမှာပဲ' ဟုလည်း ဒေါသထွက်သည်။

'ဟာ မဖြစ်သေးပါဘူး' ဟုလည်း ဟိုအကြောင်း သည်အကြောင်းကို ထောက်ပြီး ကိုယ့်စိတ်ကို ကိုယ်ပြန်ဖြေသည်။

'ဒင်းဆီကို၊ ဒင်းလိုပဲ စာပြန်ရေးမယ်' ဟု တစ်မျိုးအကြံရပြန်သည်။

'ဟာ၊ ဒီလိုကောင်မျိုးကို အရေးလုပ်လို့' ဟု ဂျပန်ကို မသတီသော စိတ်များ ပေါ်လာပြန်သည်။

'ဒီလောက် လူပါးဝတဲ့အကောင် အမိပတိနဲ့တိုင်ပင်ပြီး ဗမာပြည်က ထွက်သွားရအောင် လုပ်မည်' ဟု စဉ်းစားမိပြန်သည်။

'ဟာ ဂျပန်စစ်တပ်ကို ပြောလို့ရရင် ကောင်းပါရဲ့၊ မရရင် ဘုန်းကြီး နှစ်ခါရှုက် ဆိုတာမျိုး ဖြစ်နေလိမ့်မယ်' ဟူ၍ ကိုယ့်တန်ခိုး ကိုယ်သိပြီး စိတ်ကျသွားပြန်၏။

နာရီကား သန်းခေါင်ကျော် ၁၂ နာရီခွဲခန့် ရှိလေပြီ။

ရှက်လည်းရှက် ဒေါသလည်းဖြစ် ဝမ်းလည်းနည်းသဖြင့် အိပ်လို့လည်း မပျော်၊ ခေါင်းခွံကြီး ကွဲထွက်မတတ်ကဲ့သို့ စိတ်ထဲတွင် ထင်ရ၏။

ကျွန်တော်သည် အလွန်အရေခွံပါးသော သူတစ်ဦး ဖြစ်သည်။ စိတ်ကို ထိခိုက်စရာရှိလျှင် အလွန်ထိခိုက်လွယ်သည်။

ထို့ကြောင့် ဒေါက်တာဘမော်ကလည်း ကျွန်တော်နှင့် တွေ့တိုင်း

'သခင်နုဟာ အင်မတန်အားကောင်းနေတဲ့ ဓာတ်ပုံမှန်နဲ့ တူတယ်၊ ကိုယ်ရိုက်ရမယ့်ဟာက တိုက်ကြီးတစ်တိုက်လုံးဖြစ်ပေတဲ့လဲ ပတ်ဝန်းကျင်ရှိ အမှိုက်သရိုက်ကအစ အကုန်လုံး မှန်ပေါ်မှာ ထင်တာပဲ'

ဟု မကြာခဏ ပြောလေ့ရှိသည်။

ကျွန်တော်သည် နိုင်ငံရေးသမားဖြစ်ချင်လျှင် ရှေးဦးစွာ အရေထူအောင် လုပ်ရပေဦးမည်။

ထိုညက စိတ်သက်သာရာရစေချင်လျှင် ဝမ်းထဲ၌ သိုလှောင်ထားရသော ဒေါသခဲတွေကို တစ်နည်းနည်းဖြင့် အပြင်သို့ ထုတ်ရပေတော့မည်။ ချုပ်ထား၍မရ။

ထို့ကြောင့် စာတစ်စောင် ချ၍ ရေးရ၏။

ဟာစီဂါဝါး၊ မင်းပေးလိုက်တဲ့စာကို ရတယ်၊ ငါကိုယ်တိုင်က သတင်းစာဆရာ လုပ်လာခဲ့ဖူး၍ သတင်းစာဟာ ဘယ်လောက်တန်ခိုးကြီးတယ်ဆိုတာ ငါသိပြီး ဖြစ်တယ်၊ မင်း ထပ်ပြောနေဖို့မလို။

ဒါပေမယ့် မင်းတစ်ခုသိစေလိုသည်မှာ အခြားမဟုတ်၊ ငါဟာ တခြား နိုင်ငံရေးသမားများနှင့် မတူ၊ ဒါကြောင့် မင်းတို့ရဲ့ သတင်းစာ မှန်သမျှ ဘယ်သတင်းစာကိုမျှ ငါ ဂရုမစိုက်ဘူး ဆိုတာပဲ။

မင်း ယခု ငါ့စာကို ရသည့်နေ့က သုံးရက်အတွင်း မင်းရဲ့ အင်မတန်ရိုင်းစိုင်းတဲ့စာအတွက် ငါ့ဆီကိုလာပြီး တောင်းပန်ရမယ်၊ မတောင်းပန်လျှင် ငါတို့အစိုးရက မင်းအပေါ်မှာ တစ်နည်းနည်းနဲ့ အရေးယူမယ်။

ဟု အဓိပ္ပာယ်မျိုးပါသော စာတစ်စောင်ရေးပြီး နောက်တစ်နေ့တွင် ဟာစီဂါဝါးထံသို့ ပို့လိုက်သည်။

စာပို့ပြီးမှ ဒီအကောင်လာပြီး မတောင်းပန်ရင် အတော်ကျပ်မှာပဲဟု စိုးရိမ်မိလေသည်။

သို့ရာတွင် ဟာစီဂါဝါးသည် လူကောင်းကလေး ဖြစ်ပါသည်။

လူငယ်တို့၏ ထုံးစံအတိုင်း စိတ်လိုက်မာန်ပါရေးပြီး ကျွန်တော့်ဆီက ပြန်စာမရမီကတည်းက သူမှားမှန်းသိ၍ လာပြီးတောင်းပန်ရန်ကြံလျက် ရှိကြောင်းကို နောက်တစ်နေ့ သူလာ၍တောင်းပန်သည့်အခါ ကျွန်တော် သိရသည်။

ဝန်ကြီး၏ ဇိမ်ပျက်၍သာ ၎င်းတို့ကို စိတ်ဆိုးရသည်။ အမှန်စင်စစ် ဤကဲ့သို့ ရံဖန်ရံခါ ဂျပန်နှင့် တွေ့တွေ့ပေးရသည့်အတွက် ကျွန်တော့်မှာ အကျိုးရှိသည်။

ဤသို့ တွေ့ရသည့်အတွက် 'ဂျပန်ပြည်မှာလုပ်သည်' ဟူသော စာတမ်းကို ကိုယ့်နဖူးတွင် ပြန်ပြန်တွေ့ရသည်။

သို့မဟုတ်လျှင် ဘေးက အဆောင်အယောင် အသိုင်းအဝိုင်းတွေ မြောက်သည်နှင့် ထင်းရှူးသားနှင့်လုပ်ထားသော လွတ်လပ်ရေးကိုပင် ကျွန်းသားနှင့် လုပ်ထားသလိုလို စိတ်ယောင်သွားနိုင်သည်။

ဤကိစ္စပြီး၍ များမကြာသေးမီ ကိစ္စတစ်ခု ပေါ်လာပြန်၏။

တစ်နေ့တွင် ဗမာစစ်သားအချို့ကို ရန်ကုန်မြို့၏ လူသွားလူလာ ထူသော အရပ်များ၌ ခွဲပြီးချထားသည်။

ထိုအချိန်တွင် လေယာဉ်ပျံတွေကလည်း ရန်ကုန်ကို မကြာခဏ ဗုံးလာကြဲနေ၍ လေကြောင်း ဥသြမှုတ်သည့်အခါ လူတွေ စည်းကမ်း သေဝပ်အောင် စောင့်ထိန်းရန် ဗမာစစ်သားများကို ချထားခြင်းဖြစ်သည်။

နေ့လယ်ချိန်လောက်တွင် လေကြောင်းဥသြမှုတ်ရာ ဗမာ လမ်းသွား လမ်းလာတွေကို အကုန် ပြော၍ ရသည်။ ဂျပန် တစ်ယောက်ကိုကား ပြော၍ မရပေ။

ဥသြပေးထားသော်လည်း သူသည် ဂျပန်ဖြစ်နေ၍ သူ့ကို သွားခွင့်ပြု ရမည်။ ဗမာစစ်သားသော ဘာသော လာမပြောနှင့် ဟူသော စိတ်ဓာတ် ရှိလေသည်။

ဗမာစစ်သားကလည်း ဝတ္တရား ရှိသေသောအားဖြင့် ဂျပန်မကလို့ ဂျပန်ဘိုးအေဖြစ်ပေစေ မသွားရဘူးဟု တားထားရာ ထိုဂျပန်သည် သူစီး လာသော ဆိုက်ကားပေါ်က ဗမာစစ်သားရှိရာသို့ ပြေးဆင်းလာလေသည်။

အထက်လူကြီးများထံမှ အမိန့်မရသေး၍သာ အတော်အောင့်ထား ရသော ဗမာစစ်သားသည် ယခုအကြိမ်တွင် အောင့်၍ မရတော့ပေ။ ပြေးလာသောဂျပန်၏ရင်ကို လှံစွပ်နှင့်ထောက်လိုက်ရာ လက်လေးသစ် လောက် ဝင်သွားသည်။

ဤသတင်းကို ခပ်စောစောကတည်းက ကျွန်တော်တို့လည်း ကြားပြီးပြီ။

ကျွန်တော်တို့ကလည်း ဤကိစ္စမှာ ဖြစ်ရိုးဖြစ်စဉ်ကိစ္စပဲဟု ခပ်အေးအေး နေလိုက်ကြသည်။

အမှန်စင်စစ်လည်း ခပ်အေးအေးနေထိုက်သည့် ကိစ္စကလေးမျှပင် တည်း။

အဘယ့်ကြောင့်ဆိုသော် ဗမာစစ်သားသည် အလုပ်ဝတ္တရားနှင့် စောင့်နေရသူ ဖြစ်သည်။ ဂျပန်သည် ဥပဒေကျူးလွန်သူ ဖြစ်သည်။

အကယ်၍ ဤနေရာတွင်စောင့်သူမှာ ဂျပန်စစ်သားဖြစ်ပြီး ဥပဒေကျူးလွန်သူမှာ ဗမာဖြစ်ခဲ့လျှင် လှံစွပ်နှင့် အထိုးခံရရုံမက အဖမ်းကိုပင် ခံရဦးမည် ဖြစ်၏။

ထို့ကြောင့်ပင် ကျွန်တော်တို့လည်း ခပ်အေးအေးနေလိုက်ခြင်း ဖြစ်သည်။

သို့ရာတွင် ဗမာအစိုးရကို အမြဲချိုးနှိမ်ရန် အကြံထုတ်နေသော အစ္စမိုးရားမှာမူကား ကျွန်တော်တို့ အေးသလို မအေးနိုင်ချေ။

ထို့ကြောင့် ဘီဒီအေ စစ်တပ်မှ ဂျပန်အကြံပေးအရာရှိများကိုခေါ်ပြီး လှံစွပ်နဲ့ဂျပန်ကိုထိုးသည့်အတွက် ယနေ့ည ချက်ချင်း ဗိုလ်ချုပ်အောင်ဆန်းနှင့် ဒေါက်တာဘမော်၊ သို့မဟုတ် ဗမာအစိုးရအဖွဲ့မှ ဝန်ကြီးတစ်ဦးဦး အစ္စမိုးရားနှင့် ဂျပန်သံအမတ်ကို သွားပြီး တောင်းပန်ရမည်ဟု ဗိုလ်ချုပ် အောင်ဆန်းထံသို့ အပြောလွှတ်လိုက်၏။

ဗိုလ်ချုပ်အောင်ဆန်းလည်း ကျွန်တော်၏အိမ်သို့ ည ခုနစ်နာရီလောက် ပေါက်၍လာလေသည်။

ဗိုလ်ချုပ်အောင်ဆန်း။ 'သခင်နု နေ့ခင်းကဖြစ်တဲ့ အမှုအတွက် ခွေးမသားတွေက သူတို့ကိုတောင်းပန်ရမယ် ဖြစ်နေပြီ၊ မတောင်းပန်ရင်ဘဲ ဂျပန်က ဗမာကို ဒီနေ့ည စစ်ကြေညာတော့မလိုလို'

ကျွန်တော်။ 'မဟုတ်ပါဘူး၊ ဘာကိစ္စတောင်းပန်ရမလဲ၊ အမှန်စင်စစ် ဖြစ်ရမှာက ကိုယ့်ရုံးကနေ ဂျပန်သံအမတ်ကို ခေါ်ပြီး ခင်ဗျားလူတွေ အင်မတန် ရမ်းတယ်၊ နောက်ကို ဒီလိုဥပဒေကျူးလွန်ရင် ဒီ့ထက်ပိုပြီး

အရေးယူရလိမ့်မယ်လို့ ကြိမ်းရမှာ၊ အခုတော့ သူတို့ဆီကိုသွားပြီး တောင်းပန်ရမယ်ဆိုတာက အတော်လွန်လွန်းနေပြီ'

ဗိုလ်ချုပ်အောင်ဆန်း။ 'ဒါတော့ ဒါပဲ၊ ဒါပေမယ့် ဒီခွေးမသားတွေ တစ်ခါထဲ ကပ်ပြီးလိုက်နေတယ်၊ အောက်မှာ ပါလာတယ်'

ကျွန်တော်။ 'ဒီလိုဆိုရင် အဓိပတိနဲ့သွားပြီး တိုင်ပင်ကြည့်ရအောင်'

ဗိုလ်ချုပ်အောင်ဆန်းနှင့် ကျွန်တော်လည်း အဓိပတိဆီသို့သွားရန် အိမ်အောက်သို့ ဆင်းလာကြလေ၏။

မော်တော်ကားထဲသို့ဝင်မည်အလုပ်တွင် မှောင်ရိပ်၌ ကွယ်နေသော ဂျပန်တစ်ယောက် ထွက်လာပြီး ဘယ်သွားမလို့လဲဟု မေးရာ ဗိုလ်အောင်ဆန်းက 'အဓိပတိအိမ် အဓိပတိအိမ်' ဟု ငေါက်လွှတ်လိုက်လေသည်။

ထိုနေ့ညက အဓိပတိလည်း အိမ်တော်ကြီးသို့ ရောက်နေ၍ အိမ်တော်မှတစ်ဆင့် အိမ်တော်ကြီးသို့ လိုက်သွားရသည်။

အကျိုးအကြောင်းအလုံးစုံကိုပြောပြရာ ရန်အေးသွားအောင် ဗိုလ်ချုပ်နှင့် ကျွန်တော့်ကိုပဲ သွား၍ တောင်းပန်ရန် သဘောတူလေသည်။

ကျွန်တော်တို့လည်း ကားပေါ်သို့တက်မည်အလုပ်တွင် မှောင်ကွယ်၌ ခိုနေသော ဂျပန်သည် တစ်ကြိမ်ထွက်လာပြီး ဗိုလ်ချုပ်အား အစ္စမိုးရား ဆီကို မသွားသေးဘူးလားဟု မေးပြန်လေ၏။

ဗိုလ်ချုပ်လည်း ရှေးယခင်အတိုင်း 'အင်း၊ အင်း' ဟု ငေါက်ဆတ် ဆတ်ပြန်ပြောပြီး ကျွန်တော်တို့လည်း အစ္စမိုးရား၏ အိမ်သို့ ထွက်လာခဲ့ကြ လေသည်။

မှောင်ရိပ်ကွယ်သော ဂျပန်လည်း ကျွန်တော်တို့ကို သွားမှသွားကြပါ မလားဟု စိတ်မချသည့်အလား ကျွန်တော်တို့၏ ကားနောက်ကို ကပ်၍ မောင်းလိုက်လာလေသည်။

အစ္စမိုးရား၏အိမ်သို့ရောက်သောအခါ ည ၁၀ နာရီခန့်ရှိလေပြီ။ သို့ရာတွင် အတောင်းပန်ခံချင်လွန်းသော အစ္စမိုးရားသည် မအိပ်နိုင်သေးဘဲ ထိုင်၍ စောင့်လျက်ရှိလေသည်။

၁၀ မိနစ်လောက် ဝမ်းနည်းသည့်အကြောင်းနှင့် အခြားအကြောင်းများ အနည်းငယ်ပြောပြီး ကျွန်တော်တို့သည် ဂျပန် သံအမတ်အိမ်သို့ ထွက်လာခဲ့ကြလေသည်။

မှောင်ရိပ်ခိုသော ဂျပန်သည် ကျေနပ်သွားလေပြီ။ ရှေ့ဆက်၍ လိုက်သည်ကို မတွေ့ရတော့ချေ။

လမ်းတွင် ကျွန်တော်တို့၏ အဖြစ်အပျက်ကို တွေးရင်း တွေးရင်း ကျွန်တော်လည်း စိတ်တိုလာလေ၏။

ကျွန်တော်။ 'ကဲ ဖိုးအောင်ဆန်း၊ ဂျပန်သံအမတ်ကိုတော့ ကိုယ် ဘောက်ချလိုက်မယ် ဘယ့်နှယ်လဲ'

ဗိုလ်ချုပ်။ 'ချလဗျာ မထူးပါဘူး'

ကျွန်တော်တို့သည် ဂျပန်သံအမတ်၏အိမ်သို့ ရောက်သောအခါ သူလည်း ဧည့်ခန်းတွင် အသင့်ထိုင်စောင့်နေသည်ကို တွေ့ရသည်။

ကျွန်တော်။ 'အဟမ်း အဟမ်း၊ ကျွန်တော်တို့ အခုလာရတာက အမှန်ပြောတော့ ကျွန်တော်တို့က လာချင်လို့ မဟုတ်ဘူး၊ ဂျပန်အရာရှိ တစ်ယောက်က သွားပါလို့ အတင်းတိုက်တွန်းလို့ လာခဲ့ရတာပဲ၊ ဘာမှ ပြောစရာ မရှိပါဘူး'

ဟု ပြောပြီး ကျွန်တော်တို့ နှစ်ယောက်သား ခပ်တည်တည် ထိုင်နေကြလေ၏။

ဂျပန်သံအမတ်မှာလည်း အတောင်းပန်ခံရရော ဟူသော မျှော်တော်ဇောနှင့် စောင့်နေရာ ကျွန်တော်တို့ကလည်း မတောင်းပန်သဖြင့် အတော်ဘေးအောင့်သွားလိမ့်မည်။

သို့သော် သူလည်း အရေဝပြီးသော သံအမတ်တစ်ယောက် ဖြစ်သဖြင့် ကျွန်တော် ပြောသည်ကို ပြုံး၍ နားထောင်နေလေသည်။

ကျွန်တော်တို့လည်း သူတိုက်သော လက်ဖက်ရည်ကို သောက်ပြီး ထပြန်လာခဲ့ကြလေ၏။

သံအမတ်ကတော့ 'ဒေါက်တာ ဘမော်နှယ် ဘယ်လိုလူတွေကိုများ ဝန်ကြီးတွေ ခန့်ထားပါလိမ့်မည်နည်း' ဟု အောက်မေ့မိလိမ့်မည်။

မကြာမီ မော်တော်ကား အလံကိစ္စတစ်ခု ပေါ်လာသည်။

ဝန်ကြီးများ၏ မော်တော်ကားတွင်တပ်ရန် အလံရသည်မှာ တစ်လ ခန့်ရှိလေပြီ။

ကျွန်တော်လည်း တစ်ခါမျှ မတပ်သေး။ ဒရိုင်ဘာကလည်း 'ဆရာ ရယ် အလံမရှိရင် အင်မတန် မျက်နှာငယ်ပါတယ်၊ တပ်ပါရစေ' ဟု မကြာ ခဏ ပူဆာသည်။

ကျွန်တော် မတပ်သည့်အကြောင်းမှာ အခြားမဟုတ်။ အလံတပ်ပြီး လမ်းမှာ ဂျပန် အနှောင့်အယှက်ခံရလျှင် မဟာအရှက်တော် ကွဲမည်စိုးသောကြောင့် ဖြစ်သည်။

တစ်နေ့သ၌ ဒရိုင်ဘာကလည်း အလွန်ပူဆာလွန်းသဖြင့် ရုံးသို့ အသွားတွင် ကားမှာ အလံတပ်၍ သွားလေသည်။

ကုက္ကိုင်းဘက်ရှိ ယူနီဘာစီတီအဗင်းနယူးထိပ်ဝသို့ ရောက်သော အခါ လမ်းစောင့် ဗမာပုလိပ်က မော်တော်ကားဘက်သို့ လှည့်၍ ဆလံ တစ်ချက် ပေးလိုက်ရာ

'ဟော့ကောင်၊ မင်းပြောတဲ့အတိုင်း အလံရဲ့တန်ခိုးဟာ အကြီးသားပဲ' ဟု ကျွန်တော်လည်း ဒရိုင်ဘာကို လှမ်း၍ပြောလိုက်သည်။

ယူနီဗာစီတီအဗင်းနယူးအတိုင်း လာ၍ ပြည်လမ်းဘက်သို့ထွက်ပြီး ကမာရွတ်ဂတ်ရှေ့သို့ ရောက်သောအခါ ရင်ထဲတွင် ဒိန်းကနဲ ဖြစ်သွားလေ၏။

အဘယ့်ကြောင့်ဆိုသော် ကျွန်တော်၏ရှေ့ ဝါး သုံးရိုက်ခန့်လောက်တွင် ဂျပန်စစ်ပုလိပ်တစ်ယောက် ရပ်၍ ကျွန်တော်တို့၏ကားကို ရပ်ခိုင်းသောကြောင့် ဖြစ်လေ၏။

ထိုနေ့က ဂျပန်စစ်ဗိုလ်ကြီးတစ်ယောက် ဤလမ်းသို့ လာမည်ဆို၍ ဂျပန်စစ်ပုလိပ်များသည် တစ်လမ်းလုံး စောင့်လျက်ရှိခြင်း ဖြစ်လေသည်။

ကျွန်တော်၏နံဘေးတွင် ထိုင်စီးလာသော ဂျပန်ပြန် သခင်ဗဟိန်းက တတ်သရွေ့မှတ်သရွေ့ ဂျပန်စကားနှင့်

'ဒါ နိုင်ငံခြားရေးဝန်ကြီးဖြစ်တယ်၊ နိုင်ငံခြားရေးရုံးကို သွားမလို့' ဟု ပြောလိုက်ရာ။

'ဩော် ဟုတ်လား၊ ကောင်းတယ် ကောင်းတယ်၊ ထိုင်ပါ ထိုင်ပါ'

ဟု ရပ်မြဲတိုင်း အရပ်ခိုင်းထား၏။

သခင်ဗဟိန်းနှင့် ကျွန်တော်တို့နှစ်ယောက်လည်း ရှက်လွန်း၍ ချွေးများပင် ပြန်လျက်ရှိလေ၏။

အထူးရှက်သည်မှာ အခြားမဟုတ်။ ရဲဌာနရှေ့တွင် အရပ်ခံရသောကြောင့်ပင် ဖြစ်သည်။

'ရဲသားတွေကများ တို့ကို လှောင်နေကြမလား'

'ဒီကောင်တွေ တို့ကိုကြည့်ပြီး အခန်းထဲမှာ ကြိတ်ရယ်နေကြမှာပဲ' အစရှိသည်တို့ကို တွေးမိလေလေ ပိုရှက်လေလေ ဖြစ်သည်။

လေတိုက်သဖြင့် အလံလွင့်သည်ကိုပင် ကျွန်တော်တို့၏ အရှက်ပို၍ ခွဲနေသည်ဟု ဒေါသထွက်မိ၏။

'ဒီခွေးမသားဒရိုင်ဘာ ဆတ်ဆော့ချင်တာနဲ့ ဒီလိုဖြစ်ရတာ'

ဟု ဒရိုင်ဘာကိုလည်း မဲသဲ၍ စိတ်တိုနေမိ၏။

'ကဲ၊ အိမ်ပြန်မောင်းကွာ'

ဟု ဒရိုင်ဘာကို ငေါက်လိုက်ပြီး အိမ်သို့ပြန်လာခဲ့လေသည်။

အိမ်သို့ရောက်လျှင်ရောက်ချင်း အလံကို ဆွဲဖြုတ်လိုက်သည်။ ထိုနေ့ အဖို့ကား ကားမစီးတော့ဘဲ အင်းလျားကန်ကို လှေနှင့်ဖြတ်ပြီး ရုံးတက်ရလေ၏။

ဤအဖြစ်အပျက်နှင့် တွေ့ကြုံပြီး များမကြာမီ ကျွန်တော်လည်း သွေးဝမ်းဖြစ်သဖြင့် အိမ်မှာပင် လှဲ၍နေရသည်။

တစ်မနက်ခင်းတွင် ဗိုလ်လက်ျာသည် ကျွန်တော့်အိမ်သို့ ပေါက်လာ ပြီး

ဗိုလ်လက်ျာ။ 'ကိုကြီးနု ကြားပြီးပလား'

ကျွန်တော်။ 'ဘာလဲ'

ဗိုလ်လက်ျာ။ 'မနေ့ညက ဒေါက်တာဘမော်ကို သတ်ဖို့ ဂျပန်တွေ အိမ်တော်ကို ဝင်ကြတယ်'

ကျွန်တော်။ (အလွန်အံ့အားသင့်သွားလျက်) 'ဩော် ဟုတ်လား၊ အကုန်လုံး ပြောစမ်းပါအုံး'

ဗိုလ်လက်ျာ။ 'ညက လေကြောင်းဥဩမှုတ်တော့ ဂျပန်တစ်ယောက် နဲ့ ဗမာတစ်ယောက် အိမ်ဝင်းထဲကို ဝင်လာကြတယ်၊ အိမ်ဝမှာစောင့်နေတဲ့ စစ်သားတွေကို ဒီဂျပန်က သူ့ကိုယ်သူ စစ်ပုလိပ်လို့ ပြောတယ်၊ အိမ်ဝင်း ထဲက မီးမြင်လို့ သူလျှိုရှိတယ်ထင်ပြီး ဝင်လာတာတဲ့၊ စစ်သားကလေး ကလဲ အဟုတ်ထင်ပြီး သူ့လက်ထဲကိုတောင် သေနတ်ထည့်လိုက်သေး တယ်၊

'အဓိပတိကလဲ အင်မတန်ကံကောင်းတယ်၊ ပထမ ဗုံးခိုကျင်းထဲကို ဆင်းပြီး ပုန်းသေးတယ်၊ နောက်တော့ လာမယ်လို့ မထင်တာနဲ့ပဲ အိမ်ပေါ် ကိုလဲ ပြန်တက်ရော ဂျပန်လဲ ဝင်းထဲရောက်လာတာပဲ၊ အိမ်အောက် မှာသာ တွေ့လိုက်ရရင် အဆန့်ပဲ၊

'ဒီအတောအတွင်း အိမ်အပေါ်ထပ်ကမီးကို မြင်လို့တောင် စပိုင် စပိုင် ဆိုပြီး ဂျပန်က စစ်သားကလေးကို အပစ်ခိုင်းသေးတယ်၊ စစ်သား ကလေးကလဲ သိပ် အတဲ့ ကောင်တွေပဲ ကိုကြီးနုရယ်၊

'ပြီးတော့ အဓိပတိက လာကြအုံးလို့ခေါ်တာ မလာဘူး၊ သူ့ဆရာ ဗိုလ်ရန်နိုင်ဆီကိုသွားမယ်ဆိုပြီး အတင်းထွက်သွားတယ်၊ ကျွန်တော်ဖြင့် သိပ်ရှက်တာပဲ၊ မျက်နှာကိုသာ ဓားနဲ့လှီးပစ်လိုက်ချင်တယ်'

'အခု ဒီစစ်သားတွေကိုတော့ ဖမ်းချုပ်ထားပြီးပါပြီ'

ကျွန်တော်။ 'နောက်တော့ ဒီဂျပန့်ဘယ့်နှယ်ဖြစ်သွားသေးသလဲ'

ဗိုလ်လက်ျာ။ 'အဓိပတိက ကာနယ်ဟီရာအိုကားဆီကို တယ်လီဖုန်း နဲ့ အကြောင်းကြားရတာပေါ့၊ ကာနယ်ဟီရာအိုကားလာတော့မှ ဒီဂျပန်ကို ဖမ်းရတယ်၊ ဒီဂျပန်က ကာနယ် ဟီရာအိုကားကိုတောင် သေနတ်နဲ့ ချိန်သေးတယ်၊ ဟီရာအိုကား နောက်ကပါလာတဲ့ ဂျပန်စစ်ပုလိပ်က လက်မြန်ပေလို့'

ကျွန်တော်။ 'အစ္စမိုးရားရဲ့ လက်ချက်နဲ့ပဲတူတယ်'

ဗိုလ်လက်ျာ။ 'ဒါတော့ ကျွန်တော် မသိဘူး'

အုပ်ချုပ်ရေးစီစဉ်မှုအဖွဲ့ (Preparatory Committee) ကို ဖွဲ့ပြီး၍ တစ်လလောက်ရှိသောအခါ တစ်နေ့သ၌ လက္ခဏာဖတ်တတ်သော ကုလား နာမည်ကြီးတစ်ဦးကို သူ၏ရုံးခန်းတွင်း၌ ဒေါက်တာဘမော်သည် ခေါ်၍ တိုင်ပင်ဖူး၏။

ထိုအခန်းထဲတွင် ကျွန်တော်လည်း ရှိ၏။

ထိုအခါ ဒေါက်တာဘမော် အသိချင်ဆုံးသောအချက်မှာ သူသည် ချောင်း၍အသတ်ခံရမည်လား ဟူသော အချက်ပင် ဖြစ်လေသည်။

ထိုလက္ခဏာဆရာက 'ချောင်းအသတ်ခံရမည့် လက္ခဏာကို မတွေ့ပါ၊ နိုင်ငံခြားတစ်ခုခုတွင်သွားပြီး ဆင်းဆင်းရဲရဲနှင့် ဒုက္ခရောက်နေမည်ကိုသာ တွေ့ရသည်' ဟု ပြန်ပြောသံကို ကြားလိုက်ရဖူး၏။

ဤအချက်ကိုထောက်ခြင်းဖြင့် ဂျပန်နှင့် သူနှင့် အလုပ်လုပ်ကြလျှင် သူသည် ချောင်းပြီးအသတ်ခံရမှာပဲ ဟူသော စိုးရိမ်ခြင်းမှာ ဒေါက်တာဘမော်တွင် ဟိုအခါကတည်းက ရှိခဲ့ကြောင်း ကောင်းစွာ ထင်ရှား၏။

အမှုကို စုံစမ်းလိုက်သောအခါ ထိုညက ဒေါက်တာဘမော်ကို သတ်ရန်လာသော ဂျပန်အဆာဟီးသည် အစ္စမိုးရား၏ တပည့်ဖြစ်၍ ဒေါက်တာဘမော်ကို သတ်ရန်အတွက် ရှိုနန်မှ တမင်သက်သက် မှာယူရခြင်း ဖြစ်လေသည်။

ထိုဂျပန်နှင့် အတူတူပါလာသော ဗမာမှာ လမ်းမတော်လူဆိုးဖိုးတုတ်၏ တပည့်တစ်ဦး ဖြစ်သည်။

အမှုမှာ ယင်ရှားလွန်းသဖြင့် လူကြားကောင်းအောင် ကျွန်တော်တို့၏ အစ္စမိုးရားကို ရှိုနန်သို့ ပြောင်းရွှေ့ပေးလိုက်သည်။

ဂျပန် အဆာဟီးနှင့် ၎င်း၏တပည့် တမိုးဒါးတို့ကို ဂျပန်စစ်တပ်က ထောင် ၁၅ နှစ်စီ ချထားလိုက်သည်ဟု ဆို၏။

အမှန်စင်စစ်မှာ ၎င်းတို့နှစ်ယောက်အား တိုက်တစ်တိုက်တွင် ခေတ္တထားပြီး အစားအသောက် အစုံအလင် မိန်းမရွှင်များနှင့်ထားသည်ကို မြင်ရသူများက သေသေချာချာ မြင်ကြရ၏။

၎င်းနောက် သူတို့ကိုလည်း ရှိုနန်သို့ ပို့လိုက်သည်။

သူတို့နှင့် အဖော်လိုက်လာသော ဗမာတရားခံမှာမူကား သူ့ဆရာ ဂျပန်အားကိုးနှင့် ခြောက်လုံးပြူးခါးထိုး၍ ဘိန်းခန်းတကာ့ ဘိန်းခန်းမှ နေပြီး အဓိပတိကို ကလော်ဆဲမြဲတိုင်း ဆဲလျက်ရှိလေသည်။

လွတ်လပ်သော နိုင်ငံတစ်နိုင်ငံ၏ အထွတ်အထိပ်ကို သတ်ရန် ကြိုးစားမိသည့်တိုင်အောင် ဂျပန်ဖြစ်နေ၍ ထိုနိုင်ငံ၏ အစိုးရက လက်ဖျား နှင့်မျှ မတို့ရ။ ထိုမျှမကသေး အထွတ်အထိပ်ဖြစ်သူသည် သူ့ကို သတ်ရန် ကြံသော သူ့နိုင်ငံသားကိုပင်လျှင် ဂျပန်၏ အရှိန်အဝါကြောင့် လက်ဖျား နှင့်မျှ မတို့နိုင်ချေ။

ထို့ကြောင့် ဂျပန် စစ်သေနာပတိချုပ် အသစ် ဂျင်နရယ်ကင်မူရာ ရောက်လာသောအခါ ဝန်ကြီးများကို သုံးယောက်တစ်တွဲ လေးယောက် တစ်တွဲစီ ဖိတ်၍ ဂျပန်ပေါ်တွင် မကျေနပ်မှုများကို အပြောခိုင်းစဉ်က

'ခင်ဗျားတို့ကတော့ ဗမာကို လွတ်လပ်ရေးပေးတယ်လို့ ပြောတာပဲ၊ ဒါပေမယ့် လွတ်လပ်ရေး ကြေညာတဲ့နေ့ကစပြီး အခု ထက်ထိ ခင်ဗျားတို့ရဲ့လွတ်လပ်ရေးဆိုတာဟာ အစစ် လွတ်လပ်ရေး လို့ ကျွန်တော် မထင်ဘူး၊ တခြားနေရာတွေမှာ ဘယ်လို ချုပ်ချယ် နှောင့်ယှက်မှုတွေ များနေတယ်ဆိုတာတော့ တခြားဝန်ကြီးတွေ ပြောပြီးကြလို့ ကျွန်တော်ကတော့ ဒါတွေကို ထပ်ပြီး မပြောချင် တော့ဘူး၊ တစ်ခု ပြောချင်တာက ကျုပ်တို့ဗမာတွေရဲ့ အထွတ်အထိပ် တစ်ယောက်လုံးကို သတ်ဖို့ကြံတဲ့ ဂျပန်နှင့်ဗမာကို လွတ်လပ်တယ် ဆိုတဲ့ ဗမာအစိုးရက လက်ဖျားနဲ့မှ မတို့ရဘူး ဆိုတာပဲ၊ ဂျပန် ဆိုတာက ခင်ဗျားတို့စစ်တပ်တွေ ဘာတွေကြောင့် လက်ဖျားနဲ့ မတို့ နိုင်ဘူးဆိုတာ ထားလိုက်ပါအုံးတော့၊ ဗမာတစ်ယောက်က ဗမာ့ အထွတ်အထိပ်ကို သတ်ဖို့ကြံတဲ့ကိစ္စမှာ ဗမာကိုပါ ဗမာအစိုးရက

လက်ဖျားနဲ့ မတို့ရဘူးဆိုတော့ ခင်ဗျားတို့ လွတ်လပ်တယ်ဆိုတာ ဘယ်မှာလဲ၊ အကယ်၍ ခင်ဗျားကို သတ်ဖို့ကြံတဲ့ကိစ္စမှာ ဗမာတစ်ယောက်ပါတယ်ဆိုရင် ခင်ဗျားတို့ဟာ ဒီဗမာအတွက် ဗမာအစိုးရကိုတောင် မတိုင်ဘဲနဲ့ ခင်ဗျားတို့ဟာ ခင်ဗျားတို့ ကြေသွားအောင် ချေပစ်လိုက်မယ် မဟုတ်ဘူးလား'

အစရှိသဖြင့် ဝန်ကြီး ဗန္ဓုလ ဦးစိန်၊ ဝန်ကြီး ဦးမြနှင့် အတွင်းဝန် ဦးတင့်ဆွေတို့၏ ရှေ့တွင် တိတိလင်းလင်း ပြောချလိုက်သောအခါ စစ်သေနာပတိချုပ် ဂျင်နရယ်ကင်မူရာကလည်း ဘာမျှ မပြောနိုင်ဘဲ ခေါင်းညိတ်၍သာ နေခဲ့ဖူးလေသည်။

သို့ရာတွင် ဒေါက်တာဘမော်သည် လုပ်ချင်လာလျှင် အေးအေးနှင့် လျှော့ပေးတတ်သော လူစားမဟုတ်။

ကျွန်တော် နေကောင်းလာသောအခါ ကျွန်တော့်ကို သံအမတ်ထံသို့ လွှတ်ပြီး 'ဂျပန်တရားခံတွေကို မဖမ်းနိုင်သည့် တိုင်အောင် ဗမာတရားခံကို ဖမ်းနိုင်ရမည်' ဟူသော ကိစ္စအတွက် အဆွေးနွေးခိုင်း၏။

ဂျပန်သံအမတ်လည်း မျက်နှာများနီလာအောင် စိတ်ဆိုးလာပြီးလျှင် 'ဂျပန်အစိုးရ၏ကိုယ်စား ဒီကိစ္စကို ကျုပ် ကန့်ကွက်တယ်၊ ဒီတရားခံတွေကို ဘယ်သူ့ကိုမှ အရေးမယူရဘူးလို့ ဆိုပြီးသည့်နေ့ကစပြီး ဒီကိစ္စဟာ ပိတ်သွားပြီ၊ ပြန်ဖွင့်လို့မရဘူး' ဟု ခပ်မာမာ ပြောလေသည်။

အမှန်စင်စစ် ဂျပန်သံအမတ်သည် ဤမျှလောက် တကယ် စိတ်မဆိုး။ နောက်ထပ်၍ ဤအမှုအကြောင်းနှင့်ပတ်သက်ပြီး မပြောဝံ့အောင် ပရိယာယ်လုပ်၍ ချောက်လွှတ်လိုက်ခြင်းမျှ ဖြစ်လေသည်။

နောက်ပြန်ကြည့်လျှင် အမြှောက်လုံးရှိနေသောသူများသည် ဤသို့ ချောက်လွှတ်နိုင်ပေသည်။

ကျွန်တော်၏နောက်တွင် ဓားမတို တစ်ချောင်းသာရှိသဖြင့် ကျွန်တော်လည်း ပြုံးပြီး ပြန်လာခဲ့ရလေသည်။

ဤအကျိုးအကြောင်းတို့ကို ဒေါက်တာဘမော်သို့ ပြန်ပြောသောအခါ ဒေါက်တာဘမော်လည်း အံကြိတ်၍ နေလေသည်။

နောက်တစ်နေ့တွင် နေပြည်တော် ရဲဗိုလ်ချုပ်ကိုခေါ်ပြီး တို့ဗမာ တရားခံအား ကာကွယ်ရေးနှင့် ဖမ်းရန် ဒေါက်တာဘမော်သည် အမိန့်ပေးလေသည်။

စစ်ပုလိပ်ကလည်း သူတို့လူကို မထိရန် အတော် ကြိုးစားသေးသည်။

ဒေါက်တာဘမော်သည် ဇွတ်အတင်းဖမ်းသောအခါ မတတ်နိုင်၍ သူ့အပေါ်တွင် နောက်ထပ် တစ်တေး တေးပြီး ငြိမ်နေလိုက်ကြရလေသည်။

ယခင်တစ်ကြိမ်က ဂျပန်သံအမတ်ကို ကျွန်တော်က နိုင်လိုက်သည်။

ယခုတစ်ကြိမ်တွင် ဂျပန်သံအမတ်က ကျွန်တော့်ကို နိုင်လိုက်သည်။

နောက်တစ်ချီတွင် အနိုင်ယူရန် မျှော်လင့်လျက်ရှိစဉ် အခွင့်ကောင်းတစ်ခု ပေါ်လာလေသည်။

ဗိုလ်ရန်နိုင် တင်ဇာမော် တို့၏ မင်္ဂလာဆောင်ပွဲသည် နီးကပ်လျက်ရှိလေပြီ။

ပွဲထိုင်တွင် နေရာချထားရေးအတွက် အစီစဉ်ရ အလွန်ခက်လျက်ရှိသည်။

သံအမတ်နှင့် စစ်သေနာပတိချုပ်ကလည်း အဓိပတိ၏ ညာဘက်တွင် ထိုင်ချင်သည်။

အဓိပတိကလည်း နေတာဂျီဘို့စ်ကို ညာဘက်တွင် ထားချင်သည်။

ပထမအစီအစဉ် ခိုင်းလိုက်သောသူများကို ဂျပန်များက အနိုင်ကျင့်လွှတ်လိုက်သဖြင့် ဂျပန်သံအမတ်နှင့် စစ်သေနာပတိချုပ်တို့ကို ညာဘက်တွင်ထားရန် သဘောတူလာခဲ့ကြရလေ၏။

အဓိပတိ သိသောအခါ အလွန်စိတ်ဆိုးလျက်ရှိလေသည်။

ဤကိစ္စအတွက် ဆွေးနွေးရန် အဓိပတိသည် ကျွန်တော့်ကို သံအမတ်ထံသို့ လွှတ်လေ၏။

ကျွန်တော်တစ်ယောက်တည်းကို စိတ်မချသည်နှင့် ဝန်ကြီး ဦးထွန်းအောင်ကိုပါ ထည့်လိုက်လေသည်။

သံအမတ်နှင့် တွေ့သောအခါ ဦးထွန်းအောင်လည်း ဟိုဟိုဒီဒီ စကား ဆယ့်လေးငါးခွန်းလောက် ပြောပြီးနောက် 'ဟော၊ နိုင်ငံခြားရေးဝန်ကြီးမှာ ကိစ္စတစ်ခု ပါလာတယ်၊ သူ ပြောပြပါလိမ့်မယ်' ဟု နိဒါန်းပျိုးလိုက်၏။

ကျွန်တော်။ 'ပြောဖို့ကတော့ တခြားဟာ မဟုတ်ပါဘူး၊ မင်္ဂလာဆောင်ပွဲမှာ နေရာထိုင်ခင်း စီစဉ်ရေးအတွက်ပဲ ဖြစ်တယ်၊ ခင်ဗျားဟာ သံအမတ်သာ ဖြစ်တယ်၊ နေတာဂျီဘို့စ်ဟာ အိန္ဒိယ အစိုးရအဖွဲ့ရဲ့ အထွတ်အထိပ်ဖြစ်တယ်၊ ဒါကြောင့် ခင်ဗျားကို ညာဘက်မှာ နေရာမပေးနိုင်ဘူး၊ နေတာဂျီဘို့စ်ကို ညာဘက်မှာ ပေးရလိမ့်မယ်'

ဟု တုံးတိတိ ပြောပြီး ငြိမ်နေလိုက်၏။

ကျွန်တော့်စိတ်ထင် ဂျပန်သံအမတ်၏ ရင်ဘတ်ကို တအားလွှဲထိုးလိုက်သလို ဖြစ်သွားသည်ဟု ထင်ရ၏။

မျက်နှာနီပြီး သုံးမိနစ်ခန့် စကားမပြောနိုင်ချေ။ ဦးထွန်းအောင်ကလည်း ဤအဖြစ်ကို ကောင်းစွာ အကဲခတ်မိသည်။

ထို့ကြောင့်

ဦးထွန်းအောင်။ 'ဒါကတော့ ဒီလိုပါလေ၊ မင်္ဂလာပွဲမှာ ကျွန်တော်တို့ မဏိပူလူမျိုးတွေကိုလဲ ဖိတ်ထားပါတယ်၊ အဲဒီလူတွေရှေ့မှာ သူတို့ရဲ့ ခေါင်းဆောင် ဘိုစ်ကို ကျွန်တော်တို့က နေရာထားတယ်ဆိုတာ ပြချင်တယ်၊ ပြီးတော့မှ သူတို့ဆီက ကြေညာစာတမ်းတစ်စောင် တောင်းပြီး ကျွန်တော်တို့ ကြေညာလိုက်ရင် အခုတိုက်နေတဲ့ အင်ဖာတိုက်ပွဲမှာ အပုံကြီး အကူအညီ ရမှာပဲ'

ဦးထွန်းအောင်ပြောသည့် မဏိပူလူမျိုးတွေဆိုသည်မှာ အခြားမဟုတ်။ မင်္ဂလာပွဲတွင် သတို့သားနှင့် သတို့သမီးအား လက်ထပ်ပေးရန် မန္တလေးမှခေါ်လာသော ပုဏ္ဏားဆရာနှင့် သူ့တပည့် ပုဏ္ဏားသုံးယောက်ပင် ဖြစ်လေသည်။

သူပဲ ဤသို့ ရှာရှာဖွေဖွေ စဉ်းစားပြီး ပြောတတ်ပလေ။ ဤသို့ဝင်ပြီး စကားမဖာလိုက်လျှင်လည်း ကျွန်တော် ပိတ်သလေးနှင့် ဘေးထုထားသော ဒဏ်ချက်ကြောင့် ကျွန်တော်တို့ပါ အနေရအတော်ခက်နေမည်ဖြစ်သည်။

ဂုင်းပြင်လည်း ရယ်စရာ မောစရာများနှင့် သိုင်းဝိုင်း၍ ကျွန်တော့် စကားများ ပြေအောင် ဦးထွန်းအောင်လည်း ငါးမိနစ်ခန့် အတော့်ကို ကြိုးစားရှာပါသည်။

ပထမ သုံး လေး မိနစ်တွင် ရယ်စရာပြောသည်များကို သံအမတ်သည် ဟန်လုပ်၍ပင် မရယ်နိုင်ချေ။

နိုင်ငံခြားရေးဝန်ကြီးအဖြစ် တစ်နှစ် တိတိ လုပ်ခဲ့သည့်အတွင်း

၁။ ဗမာစစ်သားအတွက် တောင်းပန်ရခြင်း

၂။ အဓိပတိကိုသတ်ရန် ကြံစည်ရာတွင်ပါသည့် ဗမာတရားခံအတွက် စေ့စပ်ရခြင်းနှင့်

၃။ မင်္ဂလာဆောင်တွင် နေရာထိုင်ခင်းအတွက် စေ့စပ်ရခြင်းတည်း ဟူသော သုံးကိစ္စမှလွဲပြီး အကြီးအကျယ် အလုပ်ဆို၍ ဘာမျှ မရှိခဲ့ချေ။

လွတ်လပ်ရေး ကြေညာသည့်နေ့ကစပြီး ဝင်ရိုးတန်းနိုင်ငံများသို့ မကြာခဏ သံကြိုးရိုက်ရပါ၏။

သို့ရာတွင် ၎င်းက ကြီးကြီးကျယ်ကျယ် အလုပ်မဟုတ်ပေ။ အစပထမ တွင် အတွင်းဝန်များ တင်ပြသော သံကြိုးစာများကို အနည်းငယ် ဖတ်ပါ သေးသည်။

နောက်တွင် ၎င်းတို့ကို ဖတ်ရသည်မှာ အလုပ်ကြီးတစ်ခုဖြစ်လာ၍ ကောင်းအောင်သာ ကြည့်ရိုက်ကြပေတော့၊ တင်မပြနှင့်ဟု ပိတ်ထားရ လေသည်။

မည်မျှ သံကြိုးရိုက်ရသနည်း ဆိုသော် နိုင်ငံခြားရေးရုံးကို သံကြိုးရုံး ဟူ၍ပင် တွင်သွားခဲ့လေ၏။

ဘယ်နိုင်ငံမှာ ဘယ်နေ့တွေဟာ နေ့ထူးတွေလဲ၊ ဘယ်နိုင်ငံရဲ့ သမ္မတ ဟာ ဘယ်နေ့မှာ မွေးသလဲ အစရှိသည်တို့ကို ပြက္ခဒိန်နှင့် မှတ်သားပြီး အချိန်မှန်မှန် သံကြိုးပို့နေရသည်။

အခြားတိုင်းပြည်များမှ ပို့ကြသော သံကြိုးများကိုလည်း စောင့်၍ ပြန်နေရသည်။

သံကြိုးရိုက်သည့် အလုပ်အပြင် နိုင်ငံခြားရေးဝန်ကြီး၏ အခြား အလုပ်တစ်ခု ရှိသေးသည်။

၎င်းမှာ အခြားမဟုတ်။ နိုင်ငံခြားမှလာသော ဧည့်သည်များနှင့် ဗမာ ပြည်မှပြန်သော အရာရှိကြီးများကို ဆီး၍ ဧည့်ခံရသော အလုပ်ပင် ဖြစ် လေသည်။

ဤအလုပ်အတွက် ကျွန်တော့်မှာ အတော် ဝန်လေးလျက် ရှိသည်။

ကျွန်တော်သည် ကိုယ့်အချင်းချင်းတွေနှင့် တွေ့လျှင်သာ ကျယ်ကျယ် လောင်လောင်ရှိ၏။ သူစိမ်းတစ်ရံဆံနှင့် တွေ့လျှင်မူကား စကားကို မထွက်ချေ။

ယခုမှ တော်သေးသည်။ ၁၉၃၆ ခု ကျောင်းသားသပိတ် မမှောက်မီ ကဆိုလျှင် ကျွန်တော်၏ ထမင်းဝိုင်းထဲတွင် သူစိမ်းတစ်ယောက် ပါလာ လျှင် စား၍ပင် မရတော့ချေ။

စိတ်မထင်လျှင် ဘုအလွန်မှုတ်သည်ဟု နာမည်ကြီးသော ဗိုလ် အောင်ဆန်းပင်လျှင် ထမင်းစားပွဲများ၊ လက်ဖက်ရည်ပွဲ များ၌ သူ၏ အရက်သမားကို ပညာစမ်းသည့် ပုံကလေးဖြင့် ဧည့်သည်များအား တသောသောနှင့် ပွဲကျစေနိုင်သည်။

ကျွန်တော်တို့အထဲတွင် စကားအလွန်နည်းသည်ဟု နာမည်ကြီး သော သခင်မြတောင် သူ့ဟာနှင့်သူ မြိုင်အောင်လုပ်နိုင်သည်။

ကျွန်တော်တို့အထဲတွင် သခင်သန်းထွန်းကမူကား အကျင်လည်ဆုံး ဖြစ်၍ နေလေသည်။

ထမင်းစားပွဲများတွင် အဓိပတိတို့ ဦးထွန်းအောင်တို့နှင့်အတူ ရော၍ မွှေနိုင်သည်။

ကျွန်တော်လည်း သူတို့ကိုအားကျ၍ ကြိုးစားကြည့်ပါသေးသည်။ စကားကို အလျင်းမထွက်သဖြင့် လက်လျှော့ပေးရသည်။

ပွဲတိုင်းလမ်းတိုင်းတွင် ငုတ်တုတ်ကြီး ထိုင်နေဖန်များသဖြင့် အဓိပတိ ကသော်လည်းကောင်း၊ ဦးထွန်းအောင်ကသော်လည်းကောင်း၊ ရံဖန်ရံခါ သခင်မြကသော်လည်းကောင်း ပြက်လုံးများကူ၍ ပျက်ပေးရသည်။

အဓိပတိ၏ ပြက်နေကျ ပြက်လုံးမှာ

'သခင်နုဟာ အရက်လဲမသောက်ဘူး၊ ဆေးလိပ်လဲမသောက်ဘူး၊ သူလုပ်တာ ဟိုဟာတစ်ခုပဲရှိတယ်'

ဟူသော ပြက်လုံးပင်ဖြစ်လေသည်။

ထို့ကြောင့် ဧည့်သည်များကို ဧည့်ခံရမည်ဆိုလျှင် ဝန်ကြီး ဦးထွန်းအောင်ကို ခပ်စောစောကြွခဲ့ရန် တောင်းပန်ထားရသည်။

နိုင်ငံခြားရေးဌာနမှ မဟာ ဗမာဌာနသို့ မပြောင်းမီကလေးတွင် အရှေ့အာရှလူငယ်များ အစည်းရုံးနှင့် အစိုးရတို့ ပေါင်းဖြစ်ရန် ကျွန်တော်လည်း အတော်ပင် ကြိုးစားခဲ့သေးသည်။

သို့ရာတွင် အစည်းအရုံး၏ လူငယ်အချို့က အစည်းအရုံးကို ဒေါက်တာဘမော် 'မျို' သွားလိမ့်မည်ဟု စိတ်ရိုး စေတနာရိုးဖြင့် လန့်လျက် ရှိကြသောကြောင့် ပေါင်းရန်အလုပ်မှာ ဖြစ်မလိုလို မဖြစ်မလိုလိုနှင့် ပျက်ပျက် သွားခဲ့လေသည်။

ထို့ကြောင့် တစ်နေ့တွင် ထိုသူငယ်များကို သူတို့၏အစည်းအရုံးတွင် တွေ့ပြီး

'ခင်ဗျားတို့ ဒီလို အီးရော အီးရောလုပ်နေတာနဲ့ အလကား အချိန်တွေကုန်နေပြီ၊ လူငယ်များရဲ့ အရေးတော်ပုံကြီးတစ်ခုကို လုပ်မယ်ဆိုရင် တံမြက်လှည်းတာကလေးလောက်၊ ဖုံးကျင်း တူးတာကလေးလောက်၊ စာကြည့်ပိဋကတိုက်ထောင်တာကလေးလောက်နဲ့ မပြီးဘူး၊

'နောင်တစ်ခေတ်မှာ ခေါင်းဆောင်ဖြစ်ရမယ့်လူတွေကို ကာယဗလ၊ ဉာဏဗလ၊ စာရိတ္တဗလတွေ ဖွံ့ဖြိုးလာအောင် အစွမ်းကုန် လုပ်ပေးရမယ်၊ ဒီလိုဟာမျိုးကို လုပ်ပေးနိုင်တာလဲ အစိုးရမှ တတ်နိုင်မယ်၊

'ဟစ်တလာတို့လဲ သူတို့အစိုးရ အာဏာကိုရမှ လူငယ် အရေးတော်ပုံတွေ လုပ်နိုင်တယ် မဟုတ်ဘူးလား၊ ဒီတော့ အခုလို အခွင့်အရေးမျိုးရတဲ့အခါမှာ ရနိုင်သလောက်ယူလိုက်ဖို့ ကောင်းတယ်၊

'ခင်ဗျားတို့ ဒေါက်တာဘမော် မျိုသွားမှာကို ကြောက်တယ်ဆိုတာ အခြေအမြစ်မရှိတဲ့ ကြောက်ခြင်းပဲ၊ ဘာဖြစ်လို့လဲဆိုရင် အင်္ဂလိပ် ပြန်လာမယ်၊ ဂျပန် ပြေးရမယ်၊ ဂျပန်ပြေးရရင် ဒေါက်တာဘမော်လဲ ပြေးရမယ်၊ အင်္ဂလိပ် ပြန်လာဖို့ကလဲ အလွန်တကာ အလွန်ဆုံး တစ်နှစ်ပဲ၊

'အမှန်တော့ ဒေါက်တာဘမော် မျိုဖို့ ဘယ်မှာအချိန်ရတော့မလဲ၊ ဒါပေမယ့် ခင်ဗျားတို့ လူငယ်တွေ အစိုးရအကူအညီနဲ့ တစ်နှစ်လောက်လုပ်လိုက်ရင် လုပ်သမျှဟာတွေဟာ ခင်ဗျားတို့အတွက် အမြတ်ချည်းပဲ မဟုတ်လား'

ဟု အတိအလင်း ဖွင့်ပြောခဲ့လေသည်။ သို့ရာတွင် ကျွန်တော်၏ ကြိုးပမ်းချက်တို့မှာ မအောင်မြင်ခဲ့ပေ။

မည်ကဲ့သို့ပင် မအောင်မြင်သော်လည်း စေတနာရိုးနှင့် သဘောကွဲလွဲကြခြင်း ဖြစ်သောကြောင့် တစ်ဦးကိုတစ်ဦး စိတ်မနာခဲ့ကြပေ။

လူငယ်နှင့် ဒေါက်တာဘမော် ပေါင်းမိမည်ကို စိုးရိမ်မိသည့် ဂျပန်တို့ကလည်း တစ်ထောင့်မှ ရှုပ်နေသည်။

တစ်ချိန်တွင် လူငယ်နှင့် ဒေါက်တာဘမော်တို့ စည်းလုံးကြတော့မည် ဟူသော သတင်းမှာ မည်သူက လွှင့်လိုက်သည်မသိ။ ရန်ကုန်တွင် အတော် ပျံ့နှံ့သွားလေသည်။

ထို့ကြောင့် ဥက္ကဋ္ဌ ကိုဘဂျမ်းထံသို့ ရှေးဦးစွာ ဂျပန်တစ်ယောက် လာပြီး၊ လူငယ်နှင့် ဒေါက်တာဘမော် ပေါင်းမိလျှင် ဘာပဲဖြစ်တော့မလိုလို ခြိမ်းခြောက်သည့် စကားကို ပြောကြားသွားသေးသည်။

တစ်နှစ်စေ့သောအခါ နိုင်ငံခြားရေးဌာနမှ ထွက်ခွင့်သော်လည်းကောင်း၊ ထွက်ခွင့်မရလျှင် အခြားဌာတစ်ခုသို့ ပြောင်းခွင့်သော်လည်းကောင်း ပေးရန် အမိပတိထံ ပြောရလေ၏။

နိုင်ငံခြားရေးဌာနသည် အလွန်အေးသည်။ မှန်ပါ၏။

တစ်နေ့တစ်နေ့ လက်ထောက်အတွင်းဝန် ကိုမျိုးမင်း၊ အလုပ်သင်ဝန်ထောက် ကိုထင်ဖတ်နှင့် ကျွန်တော်တို့သုံးဦး ကျွန်တော့် အခန်းထဲမှာ ထိုင်ပြီး ကျွန်တော်တို့ ဝါသနာပါသော လူမျိုး သန့်ရှင်းရေးအကြောင်း၊ ဗမာ့ယဉ်ကျေးမှု ဗမာ့စာပေ လောကဓာတ်ပညာ အစရှိသည်တို့ကို ရေးလျှင်လည်း ရေးနေကြသည်။ တွေးလျှင်လည်း တွေးနေကြသည်။ အလွန်ပျော်စရာ ကောင်းလှပေ၏။

သို့သော်လည်း အကြောင်းမှန်ကို ပြန်တွေးကြည့်လိုက်သော် ကိုယ့်လိပ်ပြာကို ကိုယ်ပြန်ရှက်နေသောကြောင့် ထိုဌာနမှ အခြားဌာနသို့ ပြောင်းလိုခြင်းဖြစ်သည်။

အဘယ့်ကြောင့် ရှက်သနည်းဆိုသော် အခြားလွတ်လပ်သော နိုင်ငံများတွင် သံအမတ်လုပ်သူကို နိုင်ငံခြားရေးဝန်ကြီး မပြောထားနှင့် ဒုတိယဝန်ကြီး သို့မဟုတ် အတွင်းဝန်ကပင် ရုံးသို့ ခေါ်ပြီး ပြောနိုင်၏။

ယခုမူကား သံအမတ်သည် ရောက်စက သူ့ကို ရုံးတွင် ဧည့်ခံပွဲပေး၍ တစ်ကြိမ်၊ နောက်တစ်ခါ အလည်လာသည့်အခါ တစ်ကြိမ်၊ ဤ နှစ်ကြိမ်တည်းသာ လာသည်။

ကျွန်တော်တို့က ပြောစရာရှိလျှင် သူ့ထံသို့သွား၍ ပြောရသည်။ သူက ပြောစရာရှိလျှင် နိုင်ငံခြားဝန်ကြီးလောက်ကို ဘယ်တော့မှ အဖက်မလုပ်၊ အမိပတိကိုမှ တွေ့ချင်တယ်ဆိုပြီး နိုင်ငံခြားဝန်ကြီးကို ကျော်သွားသည်။

နိုင်ငံခြားရေးရုံးသို့ လူကိုယ်တိုင်လာစရာရှိသည့်အခါ သူ့အကြံပေး အရာရှိ ကီတာဇာဝါးကိုသာ လွှတ်လေ့ရှိသည်။

ဤကဲ့သို့ နှိမ်ထားသည့်အတွက် ကျွန်တော့် စိတ်ထဲမှာ အတော် အခံရခက်လျက် ရှိ၏။

ထို့ကြောင့် ဤသို့ မနှိမ်ရန်ကြိုးစား၍လည်း မဖြစ်သဖြင့် အနိုင်မခံ ရရန် ကျွန်တော် ထွက်ပြေးခြင်း ဖြစ်လေသည်။

အင်ဖာတိုက်ပွဲအကြောင်းကို ပြောရင်း နိုင်ငံခြားရေးဌာနမှမထွက်မီ ကလေး ဒိုမေသတင်းထောက်နှင့် ကျွန်တော်တို့၏ အဖြစ်အပျက်တစ်ခုကို ပြေးပြီး သတိရမိသေးသည်။

ဂျပန်များကလည်း အင်ဖာကို မကြာမီ သိမ်းပိုက်နိုင်လိမ့်မည်ဟု ထင်၏။

ထို့ကြောင့် ဒိုမေသတင်းထောက်သည် တစ်နေ့သ၌ ကျွန်တော့်ထံသို့ လာ၏။

ယခုသတင်းထောက်မှာ ဟာစီဂါဝါးမဟုတ်၊ သူ့နောက် ပြောင်းလာ သော တကာဟာရှိ ဆိုသူပင် ဖြစ်လေသည်။

၎င်းက မကြာမီ အင်ဖာကို သိမ်းမိတော့မည်ဖြစ်သဖြင့် ချွန်ကင်း တရုတ်ပြည်သို့ ကြေညာချက်တစ်ရပ် ထုတ်ပေးရန် ပြောလေသည်။

ကျွန်တော်လည်း ကောင်းပြီဟု ဝန်ခံလိုက်သည်။ ၎င်းပြန်သွားပြီး သုံးနာရီလောက် အကြာတွင် သူ့ထံမှ စာတစ်စောင် ပေါက်လာလေ သည်။

ဖွင့်ဖတ်ရာ ကျွန်တော်၏ ကြေညာချက်တွင် သူ့စာထဲမှာပါသော အချက် ခြောက်ချက် ထည့်သွင်းပြီး ဖူးစကက် စာမျက်နှာနှင့် တစ်ရွက်နှင့် တစ်ဝက်လောက် ရေးပါလို့ တိုက်တွန်းထားသည်ကို တွေ့ရ၏။

ဤကဲ့သို့ ဆရာလာလုပ်ခြင်းကို ကျွန်တော်သည် အတော်ဒေါသ ထွက်ပြီး သူ့စာကို ဆွဲဆုတ်ပစ်လိုက်သည်။

သို့ရာတွင် ကျွန်ုပ်တော်ပေးထားသည့် ကတိအတိုင်း ကျွန်တော့် သဘောနှင့် ကျွန်တော် ရေးထားသော ဆယ်ကြောင်းလောက် ရှိသည့် ကြေညာချက်တစ်ခုကို ရေးထားပြီး ဒုတိယအတွင်းဝန် သခင်ဗဟိန်းသို့ ပေးထားလိုက်လေသည်။

နောက်တစ်နေ့လာလျှင် ကျွန်တော်ဆီသို့ မသွင်းလိုက်ဘဲ သခင် ဗဟိန်းနှင့်ပင် ပြီးပြတ်အောင် စီမံလိုက်ပါဟု တာဝန်လွှဲထား၏။

နောက်တစ်နေ့ လာသောအခါ ဆယ်ကြောင်းလောက် ရှိသော ကြေညာချက်ကို ကြည့်ပြီး အတော်စိတ်ပျက်သွားဟန် လက္ခဏာ ရှိလေ သည်။

သို့အတွက် သခင်ဗဟိန်းကို မရမက တောင်းပန်သောကြောင့် သခင်ဗဟိန်းက လာ၍ တိုက်တွန်းသည်နှင့် ကျွန်တော်လည်း အတွေ့ခံ လိုက်ရသည်။ သူ သခင်ဗဟိန်းနှင့် ကျွန်တော်တို့သုံးဦး ထိုင်မိသောအခါ

သူ။ ‘ကျွန်တော်ပေးလိုက်တဲ့စာကို ရတယ် မဟုတ်လား’

ကျွန်တော်၊ ‘ရသားပဲ’

သူ။ ‘ခင်ဗျားရဲ့ ကြေညာချက်ထဲမှာ ကျွန်တော့်စာထဲက အချက် ခြောက်ချက်ကို ထည့်ရေးလိမ့်မယ်လို့ ကျွန်တော်လဲ မျှော်လင့်နေပါတယ်’

ကျွန်တော်။ ‘ကျုပ် ဝမ်းနည်းပါတယ်၊ ဒီအချက်တွေကို ထည့်ပြီး မရေးနိုင်ဘူး’

သူ။ ‘ဘာဖြစ်လို့လဲ’

ကျွန်တော်။ ‘ခင်ဗျားရဲ့ အချက်တွေကို ထည့်ရေးရရင် ခင်ဗျားရဲ့ ကြေညာချက်ဖြစ်နေမှာပေါ့၊ ကျုပ်ရဲ့ ကြေညာချက်ဆိုရင် ကျုပ်ထည့်ချင်

တာကို ထည့်ရမယ်၊ တစ်ခုမှတ်ထားပါ။ ချွန်ကင်းက လူတွေဟာ လူ အတွေ မဟုတ်ဘူး၊

'ကျုပ်ရဲ့ ကြေညာချက် စစ်စစ်ကို လိုချင်ရင် ကျုပ်ပေးထားတဲ့ အတိုင်းပဲ၊ အဲဒါ ကြိုက်ရင်လဲ ယူသွား၊ မကြိုက်ရင်လဲ ထားပစ်ခဲ့'

တကာဟာရှိလည်း စိတ်ပျက်ပြီး ထွက်သွားလေ၏။

ထိုသတင်းသည် ဘယ်လိုကဘယ့်နှယ် အဓိပတိဆီသို့ ရောက်သွားသည် မသိ။ နောက်တစ်နေ့တွင် အဓိပတိသည် ကျွန်တော့်ကို ခေါ်ပြီး ဒိုမေသို့ ကြေညာချက်တစ်စောင်ကို ထုတ်ပေးရန် တိုက်တွန်းလေသည်။

သူကလည်း တစ်စောင်ရေးပြီး ကျွန်တော့်ကို ပေးလိုက်သည်။

ကျွန်တော်။ 'ဒီကောင်က ဆရာလာလုပ်တာ ကျွန်တော်က မခံချင်တာပါပဲ၊ ပြီးတော့လဲ သူ့အချက်တွေကို ထည့်ရေးရရင် ငါးစိမ်းသယ်ရန်တွေ့သလို သိပ်ပြီးအသားလွတ်ကြီးဖြစ်နေမယ်၊ ပြီးတော့လဲ ချွန်ကင်းကို ကျွန်တော် ဘယ့်နှယ်လုပ်ပြီး ရေးမလဲ၊ ချွန်ကင်းနဲ့ ကျွန်တော်နဲ့လဲ တစ်ခါမှ ရန်မဖြစ်ဖူးဘူး၊ ချွန်ကင်းကလဲ ကျွန်တော့်ကို တစ်ခါမှ မတရားမလုပ်ဖူးဘူး၊ သူ့ကျေးဇူးတွေတောင် ကျွန်တော့်အပေါ်မှာ ရှိသေးတယ်၊ အဲဒါကို ကျွန်တော် ဘယ့်နှယ် တွေ့ကရာတွေ ရေးနိုင်ပါမလဲ'

ဒေါက်တာဘမော်။ 'ဟုတ်တယ်လေ၊ ကိုယ်စိတ်ရှင်းအောင် ကိုယ်ကြည့်ရေးတာပေါ့၊ ဘာပဲရေးရေး ရေးချင်တာ ရေးပြီး တစ်စောင်တော့ ထုတ်ပေးလိုက်ပါ'

ကျွန်တော်လည်း အိမ်သို့ ပြန်လာပြီး အလုပ်သင် ဝန်ထောက် ဦးထင်ဖတ်နှင့် တိုင်ပင်၍ ရေးလေသည်။ ဖူးစကက် စာမျက်နှာနှင့် နှစ်ရွက်လောက် ရှိလိမ့်မည်။

ပြီးသောအခါ ဒေါက်တာဘမော်၏ ကြေညာချက်နှင့် အတူတူ ဒိုမေသတင်းထောက်သို့ ပေးလိုက်၏။

ကျွန်တော်၏ ကြေညာချက်မှာ ချောချောမောမောနှင့် ထွက်လာသည်။

ဒေါက်တာဘမော်၏ ကြေညာချက်ထဲတွင် 'ချွန်ကင်းရှိ ကျွန်တော်၏ မိတ်ဆွေများ' ဟူသော စကားတစ်လုံး ပါလေရာ ထိုကြေညာချက်မှာ သံအမတ်ထံသို့ ရောက်သွားပြီး အဓိပတိနှင့် သံအမတ် အပြန်အလှန် ပြောနေရင်း ဂျပန်စစ်တပ်များ အင်ဖာမှ ပြန်၍ ဆုတ်ခဲ့ရသည်နှင့် ၎င်းကြေညာချက်လည်း မြုပ်၍သွားလေသည်။

နောက်များမကြာမီ ကျွန်တော်လည်း နိုင်ငံခြားရေးဌာနမှ မဟာဗမာဌာနသို့ ပြောင်းရွှေ့လာခဲ့၏။

မဟာဗမာဌာနတွင်လည်း အကြောင်းမညီညွတ်သည်နှင့် များမကြာမီ ဝါဒနှင့် ပုံနှိပ်တိုက်ဌာနသို့ တစ်ဖန် ပြောင်းရွှေ့လာခဲ့ပြန်လေ၏။

ထိုဌာသို့ရောက်၍ များမကြာမီ ဂျပန်သတင်းစာများက ဝါဒဖြန့်ဖြူးရေးဌာန ဝန်ကြီး အသစ်၏ သဘောထားကို သိချင်ပါသည်ဟု အတွင်းဝန်ကို မကြာခဏ လာ၍ ပူဆာသဖြင့် 'ပြောရတာပေါ့' ဟု ပြောပြီး ရက်ချိန်းပေးလိုက်၏။

ဗမာ သတင်းစာဆရာများလည်း ရောက်ရှိနေကြသည်။ အစည်းအဝေးဖွင့်သောအခါ

ကျွန်တော်။ 'ယခုအခါ ဗမာပြည်မှာ ဂျပန်နဲ့ ဗမာ ကြားထဲမှာ ပင်လယ်ကြီး ခြားနေပြီ၊ ဒီလိုဖြစ်ရတာဟာ ဗမာတွေထက် ဂျပန်တွေရဲ့အပြစ်က ပိုကြီးတယ်လို့ ကျုပ်စွပ်စွဲတယ်၊

'ဘာဖြစ်လို့လဲဆိုရင် စစ်ဖြစ်စက ဗမာတွေဟာ ဂျပန်တွေကို ကြည်ညိုပြီး အစွမ်းကုန် ကူညီခဲ့ကြလို့ ဂျပန် စစ်သေနာပတိချုပ်ဟောင်း ဂျင်နရယ် အီးဒါးကတောင် ဂျပန်ပြည်ကို ပြန်ရောက်တဲ့အခါ

'ဗမာတွေရဲ့ အကူအညီကြောင့် ဗမာပြည်ရဲ့တိုက်ပွဲဟာ ဒီလောက် မြန်မြန် ပြီးရတယ်' လို့ ဖွင့်ပြောရဖူးတယ်၊

'အဲဒီလောက်ဖြစ်ခဲ့တဲ့ ဗမာတွေဟာ အခုတော့ တစ်ရာမှာ ၉၅ ယောက်လောက် ဂျပန်ကို အကြည်ညိုပျက်ကုန်ကြပြီ၊

'အဲဒီတော့ ဂျပန် ဗမာ ပြန်ပြီး စည်းလုံးတာကို ခင်ဗျားတို့ အလိုရှိနေရင် ကျုပ်တို့ဗမာတွေ တစ်ဖက်တည်းကသာ ဂျပန်ကို ချစ်ကြပါ ဆိုပြီး အော်နေလို့ မဖြစ်နိုင်ဘူး၊ ဂျပန်ကိုယ်တိုင်ကလဲ ဗမာတွေအပေါ်မှာ အဟုတ်တကယ် လှိုက်လှိုက်လှဲလှဲ စိတ်ထား ပြင်မှဖြစ်မယ်၊

'အခု စစ်ပုလိပ်တွေ ရမ်းနေတဲ့ စနစ်မျိုး၊ ဂျပန်ကုန်သည်တွေ လောဘကြီးနေတဲ့ စနစ်မျိုးနဲ့တော့ဖြင့် ဂျပန် ဗမာ ညီညွတ်ဖို့ဟာ ဘယ်နည်းနဲ့မှ မဖြစ်နိုင်ဘူး၊

'အဲဒီတော့ ခင်ဗျားတို့ ဂျပန်သတင်းစာဆရာတွေ ဂျပန် ဗမာ ညီညွတ်ရေးကို အဟုတ် လိုလားတယ်ဆိုရင် ခင်ဗျားတို့ကလဲ တာဝန် ယူပြီး ဗမာပြည်မှာရှိကြတဲ့ ဂျပန်တွေ စိတ်ထားပြောင်းကြအောင် ပြင်းပြင်းထန်ထန် လှုံ့ဆော်ပေးကြပေတော့'

ထိုသတင်းစာဆရာများက ဂျပန်ကို ကျွန်တော်တို့ ချစ်ပါသည်။ ဤစစ်ကြီး အောင်နိုင်အောင် ဗမာပြည်က အစွမ်းကုန် ကူညီပါမည် အစရှိသော ပလီစေ့ချောက်ချက် စကားလုံးတွေကိုများ မျှော်လင့်လာကြသလား မသိ။

မေးစရာ မေးခွန်းတွေရှိလျှင် မေးကြပါဟု ခွင့်ပြုသည့်တိုင်အောင် ပွဲတိုင်းတွင် မေးခွန်းများ အလွန်မေးခဲ့သော ဂျပန်များပင်လျှင် မျက်နှာထား ကြီးတွေ အောက်သိုးသိုးနှင့် ခေါင်းငုံ့လျက်ရှိကြသည်။

ထို့ကြောင့် ထိုနေ့အစည်းအဝေးမှာ ခပ်စောစောပြီးသွားသည်။

အတွင်းဝန် ဦးထွန်းစိန်လည်း သူ့ဝန်ကြီးထက် အကင်းပါးသူဖြစ်သောကြောင့် ဂျပန်တွေ စိတ်ခုသွားပြီ ဆိုသည်ကို ချက်ချင်း ရိပ်မိသည်။

ထို့ကြောင့် ကျွန်တော့်အခန်းက အထွက် ထိုဂျပန်စုထဲမှ အရေးပါအရာရောက်မည်ဖြစ်သော လက်ဖတင်နင် ဆာဝါယာမနှင့် အခြား ဂျပန်သုံးလေးဦးကို သူ့အခန်းထဲသို့ မ သွားပြီး

'ကျုပ်တို့ ဝန်ကြီးဟာ လူရိုး၊ စကားပြောရင် ဒီလို တုံးတိတိပဲ ပြောတတ်တယ်၊ သူ့စိတ်ထဲမှာ ဂျပန် ဗမာ ချစ်ကြည်ရေးကို အင်မတန်လိုလားနေတယ်၊ ကျုပ်တို့လဲ ဒီအကြောင်းပဲ နေ့စဉ်တိုင်ပင်နေတယ်' အစရှိသော စကားများဖြင့် အမျိုးမျိုး လှည့်၍ ဖာလေသည်။

အချို့လည်း ကျေနပ်ကောင်း ကျေနပ်သွားကြလိမ့်မည်။ အချို့မှာမူကား အလွန်အခဲမကျေဖြစ်ပြီး မေဂျာဂျင်နရယ် အစ္စမိုးရား၏ နေရာတွင်လာသော မေဂျာ ဂျင်နရယ် အိချိဒါးထံသို့ သွား၍ တိုင်ကြသည်။

တစ်ဆိတ်ကို တစ်အိတ်လုပ်ပြီး ကျွန်တော်ကပဲ 'မင်းတို့ ဂျပန်တွေနဲ့နောက်ကို ဘယ်တော့မှ အစည်းအဝေး မလုပ်တော့ဘူး' ဟူ၍ပင် ပြောချလိုက်သည်ဟု လီဆယ်၍ တိုင်ကြလေသည်။

အိချိဒါးက ထိုအကြောင်းကို အဓိပတိထံသို့သွား၍ တိုင်လေသည်။

အတွင်းဝန် ဦးထွန်းစိန်၊ လက်ထောက်ညွှန်ကြားရေးဝန် ဦးခင်အောင်၊ စာရေးဆရာကြီး ဦးညဏတို့လည်း အလွန်တော်ကြပါပေသည်။

နကာမူရားဆိုသော စစ်ပုလိပ်က ကျွန်တော့် အကြောင်းတွေကိုစုံစမ်းတိုင်း ဂျပန့်စိတ်ထဲတွင် ဝေခွဲ၍မရသည်အထိ ဖြစ်သွားအောင် သူတို့လည်း ခပ်တည်တည် ဖြီး လွှတ်တတ်ကြလေသည်။

ဤသို့ ဂျပန်နှင့်ဖြစ်ပြီး၍ မကြာမီ ဘုန်းကြီးကိစ္စတစ်ခု ပေါ်လာပြန်လေသည်။

ဘုန်းကြီးအချို့သည် လွယ်အိတ်ကလေးများ လွယ်ပြီး ဟိုဝန်ကြီးကိုဝင်တွေ့၊ သည်ဝန်ကြီးကိုဝင်တွေ့နှင့် သံဃာ့ကိစ္စ မဟုတ်သော ကိစ္စများကို လုပ်နေသည်ကို တွေ့ရသဖြင့် ကျွန်တော်လည်း များစွာ စိတ်မချမ်းမသာဖြစ်မိသည်။

သူတို့၏ကိစ္စများထဲတွင် ဘယ်သူကြီး ဖြုတ်ပေးပါ၊ ဘယ်မြို့အုပ် ဘယ်ဝန်ထောက် ဖြုတ်ပေးပါ အစရှိသည့် ကိစ္စများလည်း ပါသေးသည်။

ကျွန်တော့်ထံသို့ပင် ဘုန်းကြီးအချို့လာ၍ သူကြီးတစ်ဦးကို ဖြုတ်ပေးရန် ပြောသေးသည်။

'ကိုယ်တော်တို့ အခု ကိုယ်တော်တို့ လုပ်မယ်ကြံတဲ့ အလုပ်ဟာ ကိုယ်တော်တို့ကို ပါရာဇိကကျအောင် ချပေးလိမ့်မယ်ဆိုတာကို နည်းနည်းမှ မရိပ်မိကြဘူးလား၊ ကျောင်းကို ပြန်ပြီး ပရိယတ္တိ ပဋိပတ္တိ ဆိုတဲ့ သံဃာ့အလုပ်တွေကို ပြန်လုပ်ကြပါ'

ဟု ဘုန်းကြီးကို စာချ၍ လွှတ်လိုက်ရဖူးသည်။

ထို့ကြောင့် တစ်နေ့သ၌ ဗမာ့ခေတ်၏ လက်ထောက်အယ်ဒီတာ ဦးအုံးမြင့်ကို ခေါ်၍ ဘုန်းကြီးတွေ ဒီလိုလုပ်တာ အပြစ်ရှိသလား၊ မရှိဘူးလား ဟူသော အမေးဆောင်းပါးတစ်ပုဒ်ကို ဗမာ့ခေတ်သတင်းစာထဲတွင် ရေးထည့်ရန် ပြောလိုက်၏။

ထိုဆောင်းပါးထွက်လာပြီးနောက် 'ဘုန်းကြီးတွေ ဒီလိုလုပ်တာ အပြစ်ရှိတယ်' ဟူသော ဘုန်းကြီးတစ်ပါးရေးသည့် ဆောင်းပါးတစ်စောင် ထွက်လာလေသည်။

ဤဆောင်းပါး နှစ်စောင်ကို ဖတ်ပြီးနောက် မဟာသံဃအဖွဲ့မှ ကိုယ်တော်အချို့တို့သည် မခံမရပ်နိုင်ဖြစ်ပြီး သူတို့၏ သာသနာရေး ဝန်ကြီးထံသို့ သွားရောက်တိုင်တန်းကြလေသည်။

သတင်းမှာ မကြာမီ အဓိပတိ၏ နားသို့ ပေါက်ကြားသွားလေ၏။

ဂျပန်သတင်းစာဆရာတွေနှင့်ဖြစ်သောကိစ္စနှင့် ယခု ဘုန်းကြီးကိစ္စ နှစ်ခုကိုပေါင်းကြည့်ပြီးသော် အဓိပတိသည် ကျွန်တော့်အား ဝါဒဖြန့်ဖြူးရေး ဌာနတွင် ထား၍ မဖြစ်တော့ပြီဟု ဆုံးဖြတ်လေသည်။

ဂျပန်နှင့် ဖြစ်သည့်ကိစ္စထက် သူကိုးကွယ်ထားသော သူ့ဘုန်းကြီး တွေကို စိတ်နာကျင်အောင် လုပ်သည့်ကိစ္စက ပိုပြီးဆိုးသေးသည်ဟု အဓိပတိ အထင်ရောက်လေသည်။

သို့အတွက် ကျွန်တော့်ကို အလျင်အမြန်ခေါ်ပြီးလျှင် နိုင်ငံခြားရေး ဌာနသို့ ပြန်သွားလျှင် ကောင်းမည်ဟု တိုက်တွန်းသေးသည်။ ကျွန်တော်က လည်း မသွားချင်ဘူးဟု အတင်းငြင်းသည့်အခါမှ ဤကိစ္စ ပြီး၍သွားလေ သည်။

အမှန်စင်စစ် ဘယ်ဘုန်းကြီးကိုမှ နစ်နာစေချင်၍ မဟုတ်။ ထို ကိုယ်တော်များ နစ်နာမည်ကိုစိုးရိမ်သည့် စေတနာရှိုးဖြင့် ရေးသားခြင်း ဖြစ်လေသည်။

ကျွန်တော်၏စိတ်ထဲတွင် ဘုန်းကြီးဖြစ်လာလျှင် ပရိယတ် ပဋိပတ် အလုပ်သာရှိသည်။ နိုင်ငံရေး အစရှိသော လူတို့၏ လောကီအလုပ်များ တွင် ဝင်ရောက်စွက်ဖက်သည်ကို နည်းနည်းမှမကျေနပ်။

ကျွန်တော် မှားချင်လည်း မှားမည်။ ကျွန်တော်၏ ယုံကြည်ချက် တစ်ခုမှာ အခြားမဟုတ်။ ဘုန်းကြီးအားကိုးနှင့် နိုင်ငံရေး လုပ်ကြသူများမှာ အချောင်သမားများဖြစ်ကြသည်ဟူသော အချက်ပင်ဖြစ်လေသည်။

ကိုယ်တိုင်က အပင်ပန်းလည်းမခံနိုင်၊ အနစ်နာလည်းမခံနိုင်သဖြင့် ကိုယ်တော်များကို တစ်ပတ်ရိုက်ပြီး နိုင်ငံရေးထဲ ဆွဲသွင်းခြင်းဖြစ်သည်ဟု ကျွန်တော်ယုံကြည်သည်။

ရဟန်းများသည် လူနှင့်မတူ။ သိက္ခာပုဒ်ပေါင်း အကျဉ်းအားဖြင့် ၂၂၇ ပါး၊ အကျယ်အားဖြင့် ကုဋေကိုးထောင်ကျော်မျှ ထိန်းထားရသဖြင့် ရဟန်း၏ဘဝသည် အပ်ဖျားပေါ်တွင် မုန်ညင်းစေ့တင်ထားရသလို အလွန်နူးညံ့သိမ်မွေ့လှသည်ဟု ဘုရားဟောရှိ၏။

ဤသို့ နူးညံ့သိမ်မွေ့သောဘဝရှိသည့် ကိုယ်တော်များသည် အလွန်ကြမ်းတမ်းသည့် လောကီလုပ်ငန်းများတွင် အကြမ်းတမ်းဆုံးဟု ဆိုအပ်သည့် နိုင်ငံရေးလုပ်ငန်းကို အဘယ်မှာလျှင် လုပ်၍ ဖြစ်နိုင်ပါအံ့နည်း။

ကိုယ့်ကျောင်းကိုယ့်သင်္ကန်းနှင့် လူသူအတွေ့မခံဘဲ နူးညံ့သိမ်မွေ့စွာ ပရိယတ် ပဋိပတ်လုပ်ငန်းများကိုသာ အားထုတ်နေသည့် ကိုယ်တော်များပင်လျှင် အာပတ် မကြာခဏသင့်၍ အာပတ်ဖြေရခြင်း၊ ဥပုသ်ပြုရခြင်း၊ ဝတ်စောင့်ရခြင်း အစရှိသော ဆေးကြောရသည့် လုပ်ငန်းများကို မကြာခဏ လုပ်ရသေးသည်။

လူ့အလုပ်ကိုဝင်၍လုပ်ကြသော ကိုယ်တော်များမှာမူကား အဘယ်ဆိုဖွယ်ရာ ရှိတော့အံ့နည်း။

ထိုကိုယ်တော်များကို နိုင်ငံရေးထဲသို့ ဆွဲသွင်းသောလူများလည်း ကိုယ့်အပြစ် ဘယ်လောက်ကြီးသည်ကို ကိုယ့်ဟာကိုယ် မသိကြသဖြင့် သနားစရာပင် ဖြစ်တော့၏။

ကိုယ်တော်များမှာ တစ်ဂိုဏ်းသို့ဝင်မိလျှင် တခြားဂိုဏ်း၌ရှိသော ကိုယ်တော်များနှင့် ဂိုဏ်းကွဲရတော့မည်။

ဤသို့ သံယာဂိုဏ်းကွဲအောင်လုပ်သောကြောင့် လုပ်သူမှာ သံဃဘေဒကကံကြီးထိုက်လျက် ရှိလေပြီ။ ရာထူးရမှုလေး တစ်ခုကို ရှေ့ရှုပြီး သံဃဘေဒကကံ အထိုက်ခံရဲသည်မှာ အံ့ဖွယ်သူရဲရှိလေစွ။

ဇင်းပြင်လည်း နိုင်ငံရေးတွင် ဝင်လုပ်မိသဖြင့် ကိုယ်တော်တွေ အာပတ်သင့်မည်၊ ပါရာဇိကကျမည် ဆိုပြန်ပါလျှင်လည်း ထိုကိုယ်တော်များကို နိုင်ငံရေးထဲ ဆွဲသွင်းသူတို့မှာ အပြစ်မကင်းချေ။

ဒုတိယသိက္ခာပုဒ်ဆိုသည်မှာ အလွန့် အလွန် နူးညံ့သိမ်မွေ့သော သိက္ခာပုဒ်ဖြစ်ရကား လောကီအလုပ်ထဲတွင် ဝင်ရောက် စွက်ဖက်ကြသော ကိုယ်တော်များမှာ ဤသိက္ခာပုဒ် လွတ်အောင်ရှောင်ဖို့ရန် အတော်ပင် ခဲယဉ်းလှပေမည်တကား။

ဘုန်းကြီးကိစ္စပြီး၍ သုံးရက်ခန့်ကြာသောအခါ တစ်ညနေတွင် အဓိပတိသည် ကျွန်တော်၏အိမ်သို့ တယ်လီဖုန်းဆက်လိုက်သည်။

'သခင်နုလား၊ အားသလား၊ အားရင် ခုချက်ချင်း ခပ်မြန်မြန် လာခဲ့ပါ'

ဟု အဓိပတိ၏အရေးတကြီးခေါ်သံကို ကြားရသည့်အခါ ကျွန်တော့် ရင်ထဲ ဒိတ်ခနဲဖြစ်သွားသည်။ ကျွန်တော်လည်း ချက်ချင်းပင် အိမ်တော်သို့ ထွက်သွားသည်။

အိမ်တော်သို့ရောက်သောအခါ အဓိပတိသည် မျက်နှာမကောင်း ဖြစ်နေသည်ကို တွေ့ရသည်။ ကျွန်တော့်ကိုတွေ့လျှင် တွေ့ချင်း

အဓိပတိ။ (အတော်စိုးရိမ်သော မျက်နှာနှင့်) 'ညိုထွန်းကို သခင်နု လက်မှတ်နဲ့ စာတွေဘာတွေ ပေးလိုက်သလား'

ကျွန်တော်။ 'မပေးလိုက်ပါဘူး'

အဓိပတိ။ 'သေချာရဲ့လား'

ကျွန်တော်။ 'သေချာပါတယ်'

အမိပတိ။ 'မဟုတ်ဘူးလေ၊ အမှာစာတို့ ဘာတို့ သခင်နု လက်မှတ်နဲ့ တစ်ခုမှ မပေးမိဘူးလား၊ သေသေချာချာ စဉ်းစားပါအုံး'

ကျွန်တော်။ 'သေသေချာချာ မှတ်မိပါတယ်၊ ဘာစာမှ မပေးလိုက်ပါဘူး'

အမိပတိ။ (ရှေ့ကို ကုန်း၍မေးနေရာမှ သက်မကြီးချပြီး ဆိုဖာ နောက်သို့ မှီလိုက်ရင်း) 'စာတွေဘာတွေ မပါဘူးဆိုရင်တော့ ကိစ္စမရှိပါဘူး'

ကျွန်တော်။ 'ဘာဖြစ်လာလို့လဲ'

အမိပတိ။ (တော်တော်နှင့်မပြောနိုင်သေး။ အတော်ကလေး ကြာမှ) 'အခုပဲ ဦးထွန်းအောင် လာပြောသွားတယ်၊ သူ့ဆီကိုလဲ အီချီဒါး ခုနကပဲ ရောက်သွားတယ်၊ ညိုထွန်း အိန္ဒိယက ရခိုင်ပြည်ကိုပြန်ရောက်ပြီး ဂျပန်တွေကို ထချနေပြီ၊ သူ့ လက်ထဲမှာ သခင်နုရဲ့စာ တစ်ခုပါတယ်လို့ ရခိုင်မှာရှိတဲ့ စစ်ပုလိပ်အဖွဲ့က သတင်းရတယ်၊ အဲဒါနဲ့ ရန်ကုန် စစ်ဌာန ချုပ်ကို ဒီနေ့ပဲ ဝိုင်ယာလက်စ်နဲ့ ပို့လိုက်တယ်၊ ညိုထွန်း တောင်ကုတ် ဘက်ကို ထွက်သွားတယ်လို့ သတင်းရတာနဲ့ စစ်ပုလိပ်တွေလဲ လိုက်သွား ကြပြီ၊ အခု သုံးလေးရက်အတွင်းမိမှာပဲလို့ အီချီဒါးက ဦးထွန်းအောင်ကို ပြောသွားတယ်၊ မိလို့ သခင်နုရဲ့ အမှာစာကိုတွေ့ရင် အတော်ခက်မယ်'

ကျွန်တော်။ 'မပေးလိုက်ပါဘူး စိတ်ချပါ'

အမိပတိ။ 'စာရွက်စာတမ်း သက်သေခံပစ္စည်း မမိရင် မကြောက် ရပါဘူး၊ သခင်နုကို လာမေးရင် မသိဘူးလို့သာပြော၊ ကျန်တာ ကိုယ် ကြည့်လုပ်လိုက်မယ်၊ ဦးထွန်းအောင်နဲ့လဲ သွားပြီးတွေ့လိုက်အုံး၊ ဒါထက် တစ်ခုတော့ရှိတယ်၊ တစ်ချက်ခုတ် နှစ်ချက်ပြတ်ပဲ၊ ကိုယ်အခု ဥပဒေကြမ်း သုံးခုကို ဆွဲထားတာရှိတယ်၊ အဲဒါကို စစ်တပ်က ဆိုင်းထားပါအုံးလို့ ပြော

နေတယ်၊ ဒါပေမယ့် ကိုယ်ကတော့ ဇွတ်ချမှာပဲ၊ အဲဒါကို သခင်နုက နယ်ထွက်ပြီး ဒီဥပဒေတွေကို လုပ်တော့မယ်လို့ စကားကျဲထားလိုက်ရင် သိပ်ကောင်းမယ်'

ကျွန်တော်။ 'ဒီဥပဒေကြမ်း သုံးခုအတွက် ဂျပန်ကုန်သည်တွေက အဓိပတိကြီးကို တစ်ခါထပ်ပြီး သတ်ဖို့ကြံနေကြတယ် ဆိုပါလား'

အဓိပတိ။ 'ကိုယ့်ကိုလဲ စစ်ပုလိပ်ဘက်က ဒီလိုပဲ သတိပေးထားတယ်၊ ဒါပေမယ့် သူတို့လုပ်နိုင်ရင်လဲ လုပ်ပေ့ါ၊ မိုးကုတ်ထောင်က ထွက်ပြေးပြီးလို့ မသေကတည်းက ဒီဘက်မှာ အမြတ်ချည်းပဲ ဂရုမစိုက်ပါဘူး၊ အဲဒီတော့ သခင်နု နယ်ထွက်အားပေ့ါမလား၊ ဟသ်ာတဦးမြ၊ ဦးတင်၊ ဦးဘချို့တို့လဲ ဟိုဘက်ကို မဟာဗမာကိစ္စနဲ့ ထွက်ကြလိမ့်မယ်၊ သူတို့နဲ့ အတူတူသွားကြပေ့ါ၊

'နယ်မှာဟောရမှာ သုံးခုပဲ

၁။ ဒါ တို့အစိုးရ

၂။ ဒါ တို့ပစ္စည်း

'ဒါ တို့အစိုးရဆိုတဲ့အထဲမှာ ဗမာအစိုးရဟာ လွတ်လပ်တဲ့အစိုးရ ဖြစ်နေပြီ၊ ဗမာနိုင်ငံသူနိုင်ငံသားတွေဟာ အစစအရာရာမှာ အဓိပတိက စပြီး ဆယ်အိမ်ခေါင်းအထိ ဖွဲ့စည်းထားတဲ့ ဗမာအစိုးရကိုသာ အားကိုးရမယ်၊ တဆိတ်ရှိ ဂျပန်စစ်ပုလိပ် ဂျပန်စစ်တပ် ဒါတွေကို အားကိုးနေတဲ့ လူများကို စစ်ပြေးရင် ကောင်းကောင်း အပြစ်ဒဏ်ပေးမယ်လို့ ပြော၊

'ပြီးတော့လဲ အခု ဥပဒေကြမ်းသုံးခုကို ထုတ်နိုင်တာဟာလဲ ကိုယ်ပိုင် လွတ်လပ်တဲ့ အစိုးရဖြစ်လို့ ထုတ်နိုင်တယ်ဆိုတာထည့်ပြော၊

'ဒါ တို့ပစ္စည်းဆိုတဲ့အထဲမှာ ဗမာနိုင်ငံမှာရှိတဲ့ ပစ္စည်းတွေဟာ တို့ဗမာ ပစ္စည်းတွေသာ ဖြစ်ရမယ်ဆိုပြီး ဥပဒေကြမ်း ၁ နဲ့ ၂ ကို အကျယ်ချဲ့ ပြောပြ၊

'အဲဒါတွေကို ပြောလို့ကောင်းအောင် ဒါ တို့စစ်ဆိုတာကိုလဲ ထည့်ဟော၊ ဒီကောင်တွေက စစ်ရူးတွေ၊ အဲဒါကို ထည့်ဟောရင် သခင်နုအပေါ်မှာ အထင်မှားနေတာတွေလဲ ကျေကုန်မယ်၊ ပြီးတော့ ဒါပါရင် သွားဖို့လာဖို့ လွယ်ကူအောင် သဘောတို့ ဘာတို့ဆိုတဲ့ အကူအညီတွေလဲ သူတို့ဆီက ရမယ်'

ကျွန်တော်။ 'ဟုတ်ကဲ့ သွားဖို့ကိစ္စအတွက် ဦးမြ၊ ဦးဘချို၊ ဦးတင်တို့နဲ့ ကျွန်တော် စီစဉ်ပါ့မယ်'

ဟု ပြောပြီး ပြန်လာခဲ့လေ၏။

ပြန်ခါနီးတွင် ညိုထွန်းကိစ္စအတွက် ဝန်ကြီး ဦးထွန်းအောင်နှင့်သွားရောက်တွေ့ဆုံရန် ထပ်၍ မှာကြားလိုက်သဖြင့် နောက်တစ်နေ့တွင် ကျွန်တော်သည် ဦးထွန်းအောင်နှင့် တွေ့ရသည်။

ညိုထွန်းသည် အိန္ဒိယသို့ မထွက်မီကလေးတွင် ဂျပန်တို့နှင့်တွေ့၍ ဂျပန်တို့က လွှတ်လိုက်ပုံတို့ကို ဦးထွန်းအောင်အား ပြောပြရာ

'ဒီလိုဆိုရင် လာ အခုပဲ အီချီဒါးကို သွားပြောမယ်၊ အခုတော့ သူတို့လူတွေက လွှတ်လိုက်တာကို သခင်နုရဲ့အလွှတ်ဖြစ်အောင် ပြောနေတယ်၊ လာ သွားပြောမယ်'

ဟု ဦးထွန်းအောင် ခေါ်သွားသဖြင့် အီချီဒါး၏အိမ်သို့ ရောက်သွားသေးသည်။

သို့ရာတွင် ထိုနေ့က အီချီဒါးသည် အရေးကြီးသောကိစ္စတစ်ခုနှင့် အပြင်သို့ထွက်နေသဖြင့် မတွေ့ခဲ့ရချေ။

ဥပဒေကြမ်း သုံးခု ဆိုသည်မှာ

၁။ မရွှေ့မပြောင်းနိုင်သောပစ္စည်း ဥပဒေကြမ်း

၂။ ကုမ္ပဏီ ဥပဒေကြမ်း

၃။ လက်ထပ်ရေး ဥပဒေကြမ်း တို့ပင် ဖြစ်ကြသည်။

၁။ မရွှေ့ပြောင်းနိုင်သော ဥပဒေအရ ဗမာနိုင်ငံတွင် မရွှေ့ ပြောင်းနိုင်သော ပစ္စည်းဟူသရွေ့ကို ဗမာနိုင်ငံသားများသာ ပိုင်ဆိုင်စေရမည်။ ဗမာနိုင်ငံသား မဟုတ်သူတို့ မပိုင်ဆိုင်စေရ။

၂။ ကုမ္ပဏီဥပဒေကြမ်းအရ ဗမာနိုင်ငံတွင် မည်သည့်ကုမ္ပဏီမဆို အနည်းဆုံး ဗမာငွေရင်း တစ်ရာလျှင် ခြောက်ဆယ်မပါဘဲ မထူထောင်ရ။

၃။ လက်ထပ်ရေး ဥပဒေကြမ်းအရ ဗမာမိန်းမကို မည်သည့်နိုင်ငံခြားသားမဆို လက်ထပ်လျှင် လင်ခန်း မယားခန်း၌ ဗုဒ္ဓဘာသာ ဓမ္မသတ်အတိုင်း ဖြစ်စေရမည်။

ဂျပန်ကုန်သည်များသည် ဆွေ့ဆွေ့ခုန်ဖြစ်ပြီး ဒေါက်တာဘမော်ကိုပင် သတ်ပစ်ရန်အထိ အဘယ်ကြောင့် ကြံရွယ်ရသည်ဆိုသည်ကို ဤဥပဒေများကို ကြည့်ခြင်းအားဖြင့် ကောင်းစွာသဘောပေါက်နိုင်သည်။

ပထမအကြိမ် အသက်ကို အကြံခံရပြီးနောက် နောက်ထပ်၍ လောရဲသည်မှာ ဒေါက်တာဘမော်သည် အတော်ပင် ဇွတ်တရွတ်နိုင်လွန်းရာကျပေသည်။

ဘာပဲဖြစ်ဖြစ် ဂျပန်တွေအပေါ် တတ်နိုင်သမျှ ဂိုက်ပေးခြင်း၊ လုပ်စရာ ရှိလျှင် ဘေးကိုမကြည့်ဘဲ ဇွတ်တရွတ်လုပ်ခြင်း အစရှိသည်တို့မှာ သူ့ကို ထောက်ခံရသူ ကျွန်တော်တို့အား များစွာ နှစ်သိမ့်စေလေသည်။

၎င်းဥပဒေကြမ်းများကို ဥပဒေအဖြစ်နှင့် မထုတ်နိုင်မီ အတိုင်ပင်ခံလွှတ်တော်သို့တင်၍ စဉ်းစားရဦးမည် ဖြစ်၏။

ထို့ကြောင့် အတိုင်ပင်ခံလွှတ်တော်သို့ စဉ်းစားရန် လွှဲလိုက်သောအခါ အချို့လွှတ်တော်အမတ်များကပင်

'ကျွန်တော်တို့စဉ်းစားပြီး ဂျပန်က ဒီဥပဒေကြမ်းတွေကို အတည်မပြုရဘူးလို့ တားထားရင် ကျွန်တော်တို့ စဉ်းစားရတာ အလကားဖြစ်နေပါအံ့မယ်'

ဟု အဓိပတိကို ပြောကြသေးရာ

'စဉ်းစားသာ စဉ်းစားပါ၊ ကျန်တဲ့အလုပ်က ကျုပ်တာဝန်ထားပါ'

ဟု အဓိပတိက ပြန်ပြောခဲ့ရလေသည်။

ဤနောက် အဓိပတိလည်း အချိန်ကောင်းကို စောင့်နေရာ၊ မဟာမိတ်တပ်များက မိတ္ထီလာကို သိမ်းသည့်အချိန်သည် အကောင်းဆုံးအချိန်ဖြစ်သည်ကို တွေ့ရ၏။

ဂျပန်များလည်း ဗျာများနေသည့်အခါ 'ဂျပန် ဒုက္ခရောက်နေသည့်အချိန်သည် ကိုယ်တို့အတွက် အခွင့်ကောင်းဖြစ်တယ်' ဟု ပြောဆိုကာ ဥပဒေကြမ်းများကို ဖွတ်အတင်း အတည်ပြုလေ၏။

ဂျပန်စစ်တပ်ကလည်း မကြံတတ်သဖြင့် 'နောက်ကိုပြန်ပြီး ဆွေးနွေးချင်လျှင် ဆွေးနွေးနိုင်ပါတယ်' ဟူသော အဓိပတိ၏ ကတိကို စာနှင့်ရေးပေးရန်ကိုသာ တောင်းနိုင်ပေတော့၏။

အရင်းစစ်လိုက်လျှင် သူ့ကို ဂျပန်များသတ်ရန် ကြံစည်ရသည်အထိ အငြိုးကြီးငြိုးသည်မှာ အခြားကြောင့်မဟုတ်။ သူ့ကို အင်္ဂလိပ်သူလျှိုဟု သံသယဖြစ်သောကြောင့်ပင် ဖြစ်ပေသည်။

ဒေါက်တာဘမော်အား မလိုမုန်းထားသူအချို့မှာ အလွန် အကြံပက်စက်လှသည်။

ဒေါက်တာဘမော်သည် အင်္ဂလိပ် အမေရိကန်တို့၏ သူလျှိုဖြစ်သည့်အကြောင်းကို စာတို စာရှည်ပေါင်းရေးပြီး စစ်ပုလိပ်ရုံးသို့လည်းကောင်း၊ စစ်ဗဟိုဌာနချုပ်သို့လည်းကောင်း ပို့ကြသည်။

ပို့သည်မှာလည်း တစ်ခုနှစ်ခုမဟုတ်၊ ဖတ်ရသူမှာ ဖတ်ရဖန်များသော် မယုံကြည်ဘဲ မနေနိုင်အောင် ဟိုထောင့်ကတစ်စောင် သည်ဘက်ထောင့်က တစ်စောင် ဟိုလူ့လက်မှတ်နှင့်တစ်စောင် သည်လူ့လက်မှတ်နှင့်တစ်စောင် အစောင်ပေါင်းများစွာ ပို့ကြသည်။

တစ်နေ့တွင် ကျွန်တော့်ရုံးသို့ လူတစ်ယောက်ပေါက်လာသည်။

၎င်းလူသည် စာတစ်စောင်ရေး၍ ကျွန်တော့်အခန်းထဲသို့ သွင်းလိုက်ပြီး ကျွန်တော်နှင့် လျှို့ဝှက်စွာ တွေ့ဆုံခွင့်တောင်းသည်။

သူ့စာကိုဖတ်ကြည့်သောအခါ သူသည် အင်္ဂလိပ်စစ်တပ်မှ သူလျှိုဖြစ်သည်။ သူ့နံပါတ်မှာ ဘယ်လောက်ဖြစ်သည်။ ကျွန်တော်နှင့် ရင်းနှီးစွာတိုင်ပင်လိုသည် ဟူသော အကြောင်းများကို တွေ့ရသည်။

ကျွန်တော်က မအား၍ တွေ့ခွင့်မပြုနိုင်ဟု ဆိုသည့်အခါ နောက်တစ်ခါ လာတွေ့ပါဦးမည် ဆိုပြီး သူ့လိပ်စာကို ပေးသွားသည်။

ထိုလိပ်စာအတိုင်း သခင်စံဝေကို အစုံစမ်းခိုင်းရာ ၎င်းမှာ အင်္ဂလိပ်ဗမာ ကပြားဖြစ်၍ ဂျပန်စစ်ပုလိပ်၏တပည့်ဖြစ်ကြောင်းကို သိရလေသည်။

ဗန္ဓုလ ဦးစိန်ထံသို့လည်း ဤကဲ့သို့ပင်သွား၍ အစ် သေးသည်။

ထိုလူ၏ရန်မှာ အတော်ကြီးလာ၍ ကာကွယ်ရေးနှင့် ဖမ်းထားရန် ရဲဌာနသို့ လွှဲလိုက်ရလေသည်။

ဂျပန်သူလျှိုဖြစ်နေ၍ ရဲဌာနက ဖမ်းမှ ဖမ်းရဲပါမည်လား မသိ။ သို့သော်လည်း နောက်ထပ်၍ ကျွန်တော်တို့ထံ ပေါ်မလာတော့ချေ။

ကျွန်တော်တို့ကို အစ်ထုတ်လိုက်လျှင် ဒေါက်တာဘမော်သည် အင်္ဂလိပ် အမေရိကန် သူလျှို ဟုတ် မဟုတ် ထွက်လာမှာပဲ ဟူသော ရည်ရွယ်ချက်ဖြင့် ကျွန်တော်တို့ထံသို့ လာခြင်း ဖြစ်လေသည်။

ဤကဲ့သို့ တစ်ဖက်ကရှို့ထားသည့်ရသည့်အထဲတွင် အင်္ဂလိပ်စာနှင့် ဂျပန်စာ သင်ကြားရေးတွင် ဂျပန်စာကို အင်္ဂလိပ်စာနှင့်အတူတူ ဒုတိယတန်းသို့ ချထားခြင်း၊

ကျွဲရေ နွား အရေအတွက် ကျွဲ နွားများကို တောင်းရာ၌လည်း ဥပမာ ဂျပန်က တစ်ရာတောင်းလျှင် လယ်သမားတွေအတွက်က ပို၍အရေးကြီးသဖြင့် ၅၀ သာ ယူပါ ဟူ၍ လည်းကောင်း၊

ဂျပန်က ဝါဂွမ်းတစ်ရာ လိုချင်လျှင် ၃၀ သာ ယူပါ၊ ၄၀ သာ ယူပါ ဟူ၍ လည်းကောင်း၊ ဂျပန့် လိုဘကိုလိုက်၍ ကဖျက်ယဖျက် လုပ်ခြင်း ဟို့မှာ ဂျပန်အား သူ့အပေါ်တွင် ပို၍ အထင်အမြင်မှားစေလေသည်။

ဤကိစ္စများကို ကျွန်တော့်ထက် လက်တွေ့ ကိုင်ခဲ့ရသော သခင် သန်းထွန်းက ပိုပြီး ရေးသားနိုင်လိမ့်မည်။

ဒေါက်တာဘမော်သည် မည်သည့်နည်းနှင့်မျှ အင်္ဂလိပ် အမေရိကန် တို့နှင့် အဆက်အသွယ် မရှိသည့် အကြောင်းကို သခင်သန်းထွန်းနှင့် ကျွန်တော် အသိဆုံးဖြစ်လေသည်။

ဂျပန်တော်လှန်ရေးလုပ်ငန်းကို ဒေါက်တာဘမော်အား တိုင်ပင် ကြည့်ရလျှင် အကျိုး ရှိ မရှိကို သခင်သန်းထွန်းနှင့် ကျွန်တော် ဆွေးနွေး ကြည့်ရာ ဒေါက်တာဘမော် သဘောတူလျှင် သူ့အကူအညီကို ရနိုင်မည်၊

သဘောမတူသည့်တိုင်အောင် ကျွန်တော်တို့ကို ဂျပန့်ဘက်သို့ မအပ်ဟူ၍ ယုံကြည်ကြသောကြောင့် သခင်သန်းထွန်းကပင် တာဝန်ယူ၍ အဓိပတိကို ဖွင့်ပြီး တိုင်ပင်ကြလေသည်။

> 'သခင်သန်းထွန်းတို့ဟာ မီးနဲ့ ကစားနေတာနဲ့ တူတယ်နော် သတိထား၊ ဒါပေမယ့် ကိုယ့်ယုံကြည်ချက်နဲ့ ကိုယ်လုပ်တာကိုတော့ ကိုယ်လဲ ဘာမှ မပြောချင်ဘူး၊ ကိုယ့်စိတ်လဲ ရှင်းရအောင် ကိုယ့်ကို ဘာမှ မပြောဘဲ ထားရင် ကောင်းမယ်၊ ကိုယ့်သဘောကတော့ လွတ်လပ်ရေးဟာ အချုပ်ပဲ၊ အခု ဂျပန်က လွတ်လပ်ရေးပေးတယ်၊ ကိုယ် လက်ခံထားလိုက်တယ်၊ အင်္ဂလိပ်ကလည်း လွတ်လပ်ရေး ပေးမယ်ဆိုရင် ကိုယ် စဉ်းစားမယ်'

အစရှိသည်ဖြင့် သခင်သန်းထွန်း နှင့် ကျွန်တော်တို့က သူ့ကို ဆွယ်တိုင်း စကားခပ်ဝှက်ဝှက်ပြောပြီး ပိတ်လေ့ရှိလေသည်။

ဤသို့ပင်ပြောသော်လည်း တော်လှန်ရေးသမားများကို ဂျပန်က မဟုတ်ဘဲ သူ့အရာရှိတွေက စုံစမ်းရသောအခါ အုပ်၍ ထားတတ်သည်။

ဥပမာ အင်းစိန်ခရိုင်တွင် တော်လှန်ရေးသမားတစ်ဦးကို ဂျပန် တော်လှန်ရေးစာတမ်းများနှင့်တကွ အင်းစိန် ခရိုင်ဝန် ဦးသိန်းဖေက မိလေသည်။

ဦးသိန်းဖေလည်း ဘာလုပ်ရမှန်းမသိသဖြင့် အဓိပတိထံသို့ ပြေးလာလေ၏။

'ဂျပန် မသိစေနဲ့၊ ဒီလူတွေရဲ့ ခြေလှမ်းကို မင်းကိုယ်တိုင် အသာ စောင့်ကြည့်နေ' ဟူ၍ တိုးတိုးကျိတ်ကျိတ် မှာပြီး ပြန်လွှတ်လိုက်လေသည်။

ဂျပန့်လက်ထဲသာရောက်သွားလျှင် အင်းစိန် အမှုတည်းဟူသော အမှိုက်ကလေးမှ သခင်သန်းထွန်းတို့ လူစုတည်းဟူသော ပြာသဒ်ကြီး အထိ မီးလောင်သွားနိုင်သည်။

ထိုအမှုဖြစ်ပြီး နောက်တစ်နေ့တွင် အဓိပတိသည် ကျွန်တော့်ကို ခေါ်၍ 'သခင်သန်းထွန်းကို ကြည့်ပြောပါအုံး၊ သူလုပ်ပုံတွေက တယ်ရမ်း တယ်' ဟု ညည်းသည်မှတစ်ပါး ဤအမှုနှင့် ပတ်သက်၍ နောက်ထပ် ဘာမျှမကြားရတော့ချေ။



# အခန်း ၁၄
# ကရင် ဗမာ ချစ်ကြည်ရေး

ကရင် ဗမာ ချစ်ကြည်ရေးသည် ဂျပန်တော်လှန်ရေးလုပ်ငန်းတွင် အဓိက လုပ်ငန်းဖြစ်သည်။

ထိုကိစ္စအတွက် ဗိုလ်ချုပ်အောင်ဆန်းနှင့် သခင်သန်းထွန်းတို့လည်း အထူးကြိုးစားလျက်ရှိကြသည်။

အင်္ဂလိပ်ထွက်ခါစ ဗမာအုပ်ချုပ်ရေးလည်း မရောက်သေးမီ စပ်ကူး မတ်ကူးအတွင်း မြစ်ဝကျွန်းပေါ်ရှိ ခါတော်မီ သခင်အချို့တို့၏ ရမ်းကားမှုကြောင့် ကရင်များသည် သခင်ဆိုလျှင် အားလုံး လူဆိုးချည်းပဲဖြစ်ရမည်ဟု ဝါးလုံးရှည်ကြီးနှင့် သိမ်း၍ရမ်းထားသောကြောင့် ဗိုလ်ချုပ်အောင်ဆန်းနှင့် သခင်သန်းထွန်း တို့၏ ကရင် ဗမာ ချစ်ကြည်ရေး လုပ်ငန်းမှာ ထင်သလောက် မလွယ်ကူလှပေ။

ကရင် ဗမာ ချစ်ကြည်ရေးကို စတင်ဆောင်ရွက်ရန် အခွင့်အလမ်းကို စစ်အုပ်ချုပ်ရေးအတွင်းက စ၍ ရကြသည်။ ရပုံမှာ ဤသို့တည်း။

ဗမာအစိုးရက ဒေါက်တာစံစီဖိုး၊ စောဘဦးကြီး၊ မန်းရွှေထွန်းကြာ၊ မန်းဘခင်၊ ဒေါက်တာ ဖိုးဒီလုံး၊ ဒေါက်တာဒွေး အစရှိသော ကရင် ခေါင်းဆောင်တစ်စုကို ရန်ကုန်သို့ ဖိတ်ကြားလိုက်သည်။

ဤအခွင့်အလမ်းမျိုးကိုစောင့်နေသော သခင်သန်းထွန်းသည် ဤကိစ္စမျိုးတွင် လက်မနှေးပေ။ သူ၏စီမံချက်အရ ကရင် ခေါင်းဆောင်များကို တို့ဗမာဆင်းရဲသား အစည်းအရုံးက လက်ဖက်ရည်ပွဲတစ်ခုနှင့် ဧည့်ခံလေသည်။

ထိုလက်ဖက်ရည်ပွဲတွင် သခင်သန်းထွန်း အစရှိသော သခင်ခေါင်းဆောင်များက

ခါတော်မီသခင်များ၏ ရမ်းကားမှုအတွက် အထူးကြေကွဲဝမ်းနည်းကြောင်း၊

ဤသို့ဖြစ်ရသည်မှာလည်း ထိုအခါက သူတို့ခေါင်းဆောင်များသည် ထောင်ထဲတွင်ရှိ၍ အုပ်ထိန်းလမ်းညွှန်မည့်သူ မရှိသောကြောင့် ဖြစ်ရကြောင်း၊

ဗမာနိုင်ငံကြီး၌ ယခုလို သေရေး ရှင်ရေး ပြဿနာကြီး ပေါ်ပေါက်နေသည့် အခါမျိုးတွင် ညီညွတ်ရေးသာလျှင် ကိုးကွယ်စရာ ရှိတော့သဖြင့် ကရင် ဗမာ ညီညွတ်ရေးရရန်အတွက် ဘာမဆို လုပ်ရန် အသင့်ရှိကြောင်း၊

အစရှိသော စကားများကို ဘွင်းဘွင်းကြီး စေတနာရိုးဖြင့် ထုတ်ဖော်ပြောကြရာ ကရင်ခေါင်းဆောင်များ၏ စိတ်ကို အတော် ထိခိုက်သွားပုံရလေသည်။

သူတို့ မြင်နေကျ၊ ကြားနေကျ သခင်များမှာ ဘီလူးထွက်ချည်းထွက်နေရာ ဗဟိုမှ သခင်များကိုလည်း ဤသို့နှင်နှင် ဖြစ်တန်ကောင်းသည်ဟု သူတို့ မျှော်လင့်လာကြသည်။

သို့ရာတွင် အထက်ပါအတိုင်း ရင်းရင်းနှီးနှီး တွေ့ကြသောအခါ သူတို့လည်း များစွာ အံ့အားသင့်လျက်ရှိကြသည်။

သူတို့ ကလဲ့သို့ ရောက်သောအခါ ဤသို့ အံ့အားသင့်ကြောင်းကို လည်း တိတိလင်းလင်း ထုတ်ဖော်ပြောကြသည်။

ဒေါက်တာ ဖိုးဒီလုံးဆိုသူ ကရင်ခေါင်းဆောင်ကြီးကမူကား မြစ်ဝ ကျွန်းပေါ်တွင် ကရင် ဗမာ ဖြစ်ကြရသည်မှာ ဗမာတွေ ဆိုး၍မဟုတ်ဘဲ ဂျပန်တွေက အတင်းအကျပ်ခိုင်း၍သာ ဖြစ်ရသည်ဟု ဗမာကို အပြစ် လွှတ်ပြီး ဂျပန်ကို အတိအလင်း စွပ်စွဲချေသေး၏။

ထိုနေ့မှစ၍ ကရင် ဗမာ ချစ်ကြည်ရေးလုပ်ငန်းကို ဆက်၍ ဆောင် ရွက်ရန် လမ်းစပွင့်သွားလေသည်။

အရေးပါအရာရောက်သော ကရင်လူငယ်များနှင့်လည်း ထမင်းပွဲ များ၊ လက်ဖက်ရည်ပွဲများ မကြာခဏ ပြုလုပ်၍ ရင်းရင်းနှီးနှီး ပေါင်းကြ သည်။

ဤ ကရင် ဗမာ ချစ်ကြည်ရေးကိစ္စအတွက် ခေါင်းဆောင်သူ ဗိုလ်ချုပ်အောင်ဆန်းနှင့် သခင်သန်းထွန်းတို့ ရှိသည့်အနက် ဗိုလ်ချုပ် အောင်ဆန်းမှာ ကိုယ်တွင်းသံလိုက် အလွန်ကောင်းသောသူ ဖြစ်သည်။

သူစိမ်းတစ်ရံဆံထဲက သူနှင့် တွေ့ရလျှင် အကျကြီးကျသွားသော သူသာ များလေသည်။ သူနှင့်တွေ့သော ကရင်တိုင်း သူ့ကိုပုံ၍ ယုံကြ သည်။ အတော်လည်း ကြည်ညိုကြသည်ကို သိရ၏။

သခင်သန်းထွန်းမှာကား အစီမံ အခန့်ခွဲကောင်းသည်။ ကရင် လူကြီးလူငယ်များနှင့် သခင်ခေါင်းဆောင်များတွေ့ကြရအောင် သူစီစဉ် သည်က များ၏။ အပင်ပန်းလည်း ခံနိုင်၏။ ကိစ္စတစ်ခု မပြီးမချင်း ဇွဲကောင်းကောင်းနှင့် လိုက်တတ်၏။

ဂျပန်တော်လှန်ရေး၏ အဓိကဖြစ်သော ဤကရင် ဗမာ ချစ်ကြည် ရေးသည် အတော်အတန် ခရီးရောက်အောင် ထမြောက် အောင်မြင်ခဲ့

သည်မှာ ဤသံလိုက်နှင့် ဤဦးနှောက်တို့၏ ကျေးဇူးကြောင့်ဟု ဆိုလျှင် မမှားနိုင်ပေ။

မြစ်ဝကျွန်းပေါ်သို့ ဒါတို့အစိုးရ၊ ဒါတို့ပစ္စည်း၊ ဒါတို့စစ် တရားများကို ဟောရန် ထွက်ခါနီး၌ ကရင် ဗမာ ချစ်ကြည်ရေးအတွက် တတ်နိုင်သလောက် လုပ်ခဲ့ရန် သခင်သန်းထွန်းသည် ကျွန်တော့်အား မှာကြားပြီး တစ်များ ပေးလေသည်။

ပုသိမ်သို့ရောက်၍ ဒေါက်တာစံစီဖိုး၏နေရာ ဘုရားသုံးဆူ ဆိုသောရွာသို့ ကရင် ဗမာ ချစ်ကြည်ရေး တရားဟောသွားရန် စီစဉ်ကြလေ၏။

ဤတရားပွဲအကြောင်းကို ပြောမည်ကြံလျှင် ထိုနေ့က မြစ်ဝကျွန်းပေါ်ရှိ ဂျပန်စစ်တပ်များ၏ သေနာပတိ လက်ဖတင်နင် ဂျင်နရယ် အာနီးယား ဆိုသူနှင့် တွေ့ရသော အဖြစ်အပျက်ကလေးကို ပြေး၍သတိရမိ၏။

ထိုဂျပန်သေနာပတိသည် ထိုအချိန်က ဟင်္သာတမှ ပုသိမ်သို့ တိုင်းလှည့်ရောက်လာ၏။

သူတည်းနေသောနေရာမှာ ဘုရားသုံးဆူသို့သွားသည့် လမ်းပေါ်တွင် ရှိ၏။ သူက လက်ဖက်ရည်သောက်ဖိတ်သဖြင့် သူ့အိမ်သို့ ကျွန်တော်တို့ ခေတ္တဝင်ကြ၏။

ထိုင်မိသည်နှင့်တစ်ပြိုင်နက် နာရီဝက်လောက် သူကချည်းပဲ လျှောက်၍ ပြောနေ၏။

သူပြောသည့်အထဲတွင်လည်း ကျွန်တော်တို့ကို ရန်စသည့် စကားလုံးများ ပါ၏။

သူပြောသော စကားထဲတွင်

'ဗမာတွေဟာ စစ်အတွက် ဘာမှ အကူအညီမပေးဘူး၊ မန်ချူးကိုးတွေက အများကြီး အကူအညီပေးတယ်၊ ဗမာတွေ အလကား စကားများ

နေကြတာပဲ၊ မင်းတို့လဲ တရားထွက်ဟောတယ်ဆိုတာ ခုနေအခါမှာ အလကား အချိန်ဖြုန်းနေတာပဲ၊ အလုပ် အများကြီးလိုတယ်၊ စကား မလိုဘူး’

အစရှိသည့် စကားတွေကို မပြီးနိုင် မဆုံးနိုင် လေရှည်ကြီးနှင့် လျှောက်ပြောနေလေ၏။

သို့အတွက် ကျွန်တော်လည်း စိတ်တိုလာပြီးလျှင် သူ့စကားထဲကို အတင်းဝင်လုပြီး

‘ခင်ဗျား ဗမာပြည်ကိုရောက်တာ ဘယ်လောက်ကြာပြီလဲ’

သူ။ ‘တစ်နှစ်’

ကျွန်တော်။ ‘ဘယ်ကပြောင်းလာတာလဲ’

သူ။ (စကားလုပြောသည့်အတွက် အနည်းငယ်ဒေါပွလျက်)

‘မန်ချူးကိုး’

ကျွန်တော်။ ‘ဒါကြောင့် မန်ချူးကိုးအကြောင်းကိုသာ ခင်ဗျား သိတာပဲ၊ ဗမာပြည်က စစ်အတွက် ဘယ်လောက်ကူတယ်ဆိုတာ ဗမာပြည်ကို တကယ်တိုက်ယူရတဲ့ ဂျင်နရယ်အီးဒါးကိုယ်တိုင်က တိုကျိုမှာ ဝန်ခံရတယ်’

သူ။ (ဒေါသနှင့်) ‘မင်းတို့ ကူတယ်ဆိုတာ ဘာကူတာလဲ၊ လမ်းတွေဖောက်ပါဆိုလဲ မင်းတို့ မဖောက်ဘူး၊ တံတားတွေ ဆောက်ပါဆိုလဲ မင်းတို့ဆောက်မပေးဘူး၊ ဒါ ကူတာလား၊ မင်းတို့ ဗမာအစိုးရ အလကား စကားများနေတာပဲ’

ကျွန်တော်။ ‘ဘယ့်နှယ်လုပ် ထိထိရောက်ရောက် ကူနိုင်မလဲ၊ ခင်ဗျားတို့ ဂျပန်တွေက နေရာတကာတိုင်းမှာ ဝင်ပြီး နှောင့်ယှက်နေတာကိုး၊ ဗမာအစိုးရသာ အရာရာတိုင်းမှာ လွတ်လွတ်ကျွတ်ကျွတ် ကူရမယ်ဆိုရင် အများကြီး ကူနိုင်မှာပေါ့’

သူ။ (အလွန်ဒေါသဖြစ်လျက် ကြမ်းကိုပင် ဖနောင့်နှင့်ဆောင့်ပြီး) 'နားထောင်၊ ငါ့စကားထဲမှာ ဝင်ပြီးမပြောနဲ့၊ ဒေါက်တာဘမော်ဟာ ငါ့သား လောက် ရှိသေးတယ် သိလား၊ ဗိုလ်ချုပ်အောင်ဆန်းလဲ ငါ့ဆီကို လွှတ် လိုက်၊ မင်းလဲ အလကား တရားတွေလျှောက်ဟောမနေနဲ့၊ မင်း စစ်တိုက်ရဲ သလား၊ ရဲရင် ငါ့ဆီလာခဲ့၊ စစ်တိုက်တဲ့နည်းကို ငါသင်ပေးမယ်'

အဘိုးကြီးလည်း ပြောရင်းပြောရင်း သူ့ဟာသူ ဒေါသပြေပြီး စပ်ဖြီးဖြီးကြီးလုပ်နေသည်။

ရှူးသည်ဆိုရမှာလည်း အခက် ကောင်းသည်ဆိုရမှာလည်း အခက် အတော် အခံရကျပ်လျက်ရှိလေသည်။

ဤသို့စကားပြောပြီး လက်ဖက်ရည်သောက်ကြသည်။ လက်ဖက် ရည် သောက်နေစဉ် သူ့အပါးတော်မြဲနှင့်တူသော ကက်ပတိန် ဟန်ချိုက

'သခင်နု အဘိုးကြီးကို ဗွေမယူပါနှင့်၊ သူက စိတ်ထဲက ပါလို့ မဟုတ်ပါဘူး၊ ဒီလိုပဲ ပြောတတ်ပါတယ်'

ဟု သူ့ကို ရှေ့ထားပြီး ပြောလေသည်။ အဘိုးကြီးလည်း စပ်ဖြီးဖြီး လုပ်၍ နေလေသည်။

ကျွန်တော်။ 'ကိစ္စမရှိပါဘူး အဘိုးကြီးတွေဆိုတာ ဒီလိုပဲ၊ လူငယ် တွေက သည်းခံရမှာပဲ'

(အဘိုးကြီးလည်း စပ်ဖြီးဖြီးလုပ်၍ နေလေသည်)

ကျွန်တော်။ 'ဂျင်နရယ် ခင်ဗျား ရန်ကုန်ကို မလာဘူးလား'

သူ။ 'ကျုပ် အခု မလာနိုင်သေးဘူး၊ (ပြုံး၍) မော်င့်ဘက်တန် လာမယ်ဆိုလို့ စောင့်နေရတယ်'

ကျွန်တော်တို့နှင့်ပါလာသော သခင်လူထွန်းဆိုသူမှာ အဘိုးကြီးက ငေါက်သည်ကို ဒေါသဖြစ်ပြီး မျက်ရည်ပင်ကျခဲ့ရလေသည်။

အဘိုးကြီး၏အကြောင်းကို ရန်ကုန်သို့ရောက်၍ စုံစမ်းကြည့်ရာ သူသည် စစ်အတိုက်တွင် အလွန်ကျွမ်းကျင်၍ စိတ်အလွန်ခက်ထန်သော စစ်ဗိုလ်ကြီးတစ်ဦး ဖြစ်သည်။

စိတ်မထင်လျှင် သူ့အောက်က မေဂျာ ကာနယ် အစရှိသော စစ်ဗိုလ်ကြီးများကိုပင် ကြိုးနှင့်တုပ်ပြီး ကြာပွတ်နှင့် ရိုက်တတ်သည်ကို သိခဲ့ရလေသည်။

ဤအကြောင်းကိုကြားရမှ ထိုစဉ်အခါက ကျွန်တော်တို့ကို တုပ်ပြီး မရိုက်လိုက်သည်မှာ ကံကောင်းလေစွဟု ကျောစိမ့်သွားလေသည်။

ခေါင်းဆောင်ကြီး ဒေါက်တာစံစီဖိုးနှင့် ဘုရားသုံးဆူရွာမှ အရေးပါအရာရောက်သော ကရင် လူကြီးလူကောင်းများသည် တရားနာရန် စာသင်ကျောင်းနှင့်အပြည့် ရောက်လျက်ရှိကြသည်။

ရန်ကုန်၌ ကရင် ဗမာ ချစ်ကြည်ရေးလုပ်ငန်းကို လုပ်ထားနှင့်သော အရှိန်အပြင် ဗိုလ်ချုပ်အောင်ဆန်း ဗိုလ်လက်ျာ အစရှိသော ဗမာ့တပ်မတော် ခေါင်းဆောင်များကလည်း ထိုအရပ်များသို့ ကရင် ဗမာ ချစ်ကြည်ရေးကိစ္စနှင့် ပတ်သက်ပြီး တိုင်းလှည့်ထားလိုက်သဖြင့် ကျွန်တော်တို့ ရောက်သွားသည့် အချိန်မှာ ကရင် ဗမာ ချစ်ကြည်ရေးလမ်းကြီးသည် အတော်ဖြူးလျက်ရှိလေပြီ။

ကျွန်တော်တို့နှင့် အတူပါလာသော ကရင်ခေါင်းဆောင် စောဘဦးကြီးက 'သခင်နု၊ ရှေးတုန်းက ဒီအရပ်တွေကို သခင်ကလွဲပြီး ဘယ်သူလာလာ၊ သခင်တော့ ဘယ်သူ့ကိုမှ အလာမခံဘူး' ဟု ပြောပြသည့်အခါ ဗိုလ်ချုပ်အောင်ဆန်း၊ ဗိုလ်လက်ျာ၊ သခင်သန်းထွန်း တို့၏ ကရင် ဗမာ ချစ်ကြည်ရေးလုပ်ငန်းမှာ မည်မျှ ကြီးလေးသောတာဝန် ဖြစ်သည်ကို ကောင်းစွာ သဘောပေါက်မိ၏။

ဘုရားသုံးဆူ ရွာသားများသည် အခြား ဗမာရွာများမှ ဗမာ တောသူတောသားများကဲ့သို့ အလွန်ဆင်းရဲသောသူများ ဖြစ်ကြသည်။

အချို့မှာ အင်္ကျီ လုံချည် လုံလုံလောက်လောက် ဝတ်စရာမရှိ။ အချို့မှာ ဝဝလင်လင် စားရပုံမပေါ်၊ အချို့မှာ ယားနာတွေနှင့် ပြည့်နေ၏။

ကရင်ခေါင်းဆောင် စောဘဦးကြီးပြောသည့် ခြင်းကြားစွပ်ထားသော နွားနှစ်ကောင်၏ပုံမှာ အလွန်မှန်လေစွဟု ကျွန်တော်လည်း ဘုရားသုံးဆူရွာသားများကို ကြည့်ပြီး အထူးသဘောပေါက်မိ၏။

နွားနှစ်ကောင်မှာ စပါးနယ်ရင်း စပါးတွေကိုစားမည်စိုးသောကြောင့် လယ်ရှင်က ၎င်းတို့၏ပါးစပ်တွင် ခြင်းကြားစွပ်ထား၏။

ကိုယ်လုပ်ရသည့် စပါးပုံကိုမြင်ရလျက်သားနှင့် နွားနှစ်ကောင်စလုံးသည် ခြင်းကြားအစွပ်ခံနေရသောကြောင့် မစားရချေ။ အချိန်တန်လျှင် စပါးတွေကို လယ်ပိုင်ရှင်က ကျုံးသွားသည်။

ဤသို့ဖြစ်လျက်နှင့်တောင် နွားနှစ်ကောင်သည် အလုပ်ဖြုတ်လွှတ်လိုက်လျှင် ကန်သင်းဘေးမှာ ချိုသွေးပြီး တစ်ကောင်ကို တစ်ကောင် ဝှေ့နေကြသေး၏။

ဗမာ့ မြေဆီမြေနှစ်တွေကို ကရင်၊ ချင်း၊ ကချင်၊ ရှမ်း၊ တောင်သူ၊ ဗမာ တည်းဟူသော ဗမာတိုင်းရင်းသား ၁၆ သန်းသည် စား၍ မကုန်၊ ဝတ်၍ မကုန်၊ သုံး၍ မကုန်ချေ။

သို့သော်လည်း အထက်ပါ နွားနှစ်ကောင်ကဲ့သို့ ဗမာ၏ပါးစပ်ကို ပိတ်ထားသလို ကရင်၊ ချင်း၊ ရှမ်း၊ တောင်သူတို့၏ ပါးစပ်ကိုပါ ပိတ်ထားရာ အားလုံးကုန် တိုင်းရင်းသားတွေမှာ ဒူးခေါင်းလောက် ဝက်သားဆီတုံးကြီးကို မြင်ရပါလျက်သားနှင့် ဝမ်းဟောင်းလောင်းကြီး ကြည့်နေရသည်။ မစားရ၊ မဝတ်ရ၊ မသုံးရချေ။

ထိုမျှမကသေး နွားနှစ်ကောင်ကဲ့သို့ ထမ်းပိုးဖြုတ်၍ လွှတ်လိုက်သည်လျှင် အိမ်ကြက်အချင်းချင်း ပြန်၍ ခွပ်ချင်ကြသေးသည်။

ထို့ကြောင့် ကရင်၊ ချင်း၊ ကချင်၊ ရှမ်း၊ ဗမာ အစရှိသော ဗမာတိုင်းရင်းသားမှန်သမျှတို့သည် အိုးရှင် အိမ်ရှင် ပစ္စည်းရှင် ဖြစ်ကြသည့်အတိုင်း မိမိတို့၏ နေရာနက်သန် နေရာမှန်သို့ အမြန်ရောက်ကြရအောင် တိုင်းရင်းသားအားလုံးတို့၏ တစ်ခုတည်း ကိုးကွယ်ရာဖြစ်သော ညီညွတ်ရေးကြီးကို မမေ့မလျော့သော လုံ့လဥဿဟဖြင့် မနေမနား ကြိုးစားကြပါကုန်လော့ဟု တကယ့် စေတနာ အရင်းခံ၍ ကရင်ခေါင်းဆောင်များအား ကျွန်တော်တို့သည် ညီညွတ်ရေးတရားများကို ဟောကြားခဲ့ကြလေ၏။

မြောင်းမြအနီးရှိ စခန်းကြီး ခေါ် ကရင်ရွာတွင် ရွာသူရွာသားများနှင့် ကျွန်တော်တို့သည် နှစ်ရှည်လများက ကွဲကွာနေသော ဆွေမျိုးများကဲ့သို့ တစ်ဦးနှင့် တစ်ဦး အထူး ချစ်ချစ်ခင်ခင်ရှိကြသည်။

နံနက်စာကို သူတို့က အလွန်သဒ္ဓါတရားရှိစွာဖြင့် ကျွေးမွေးကြ၍ ညနေစာကို ကျွန်တော်တို့က ပါလာသမျှသော ဟင်းလျာဖြင့် ကျွေးပါရစေဟု အထူးတောင်းပန်ပြီး ကျွေးခဲ့ရလေသည်။

တစ်ဦးနှင့် တစ်ဦး ဆွေလိုမျိုးလိုဖြစ်ကြပြီး လွမ်းဆွတ်တသလျက် ခွဲခွာခဲ့ကြရလေသည်။



# အခန်း ၁၅
# တော်လှန်ရေး

ကျွန်တော်သည် အတွေးသမား၊ အငေးသမား၊ အရေးသမား ဖြစ်သည်။

ထို့ကြောင့် ဂျပန်ကို အလွန်မုန်းတီးသောစိတ်သာရှိပြီး ဤစိတ်ကို အလုပ်ဖြစ်အောင် မလုပ်တတ်ချေ။

အလုပ်သမား သခင်သန်းထွန်းမှာ သူ့လုပ်ငန်း အောင်မြင်ရေး အတွက် ကျိတ်၍ လုပ်လျက်ရှိလေသည်။

သခင်သန်းထွန်းသည် တရုတ်စစ်တပ်များနှင့် အဆက်ရရန်အတွက် သခင်ကျော်ရင်တို့လူစုကို တရုတ်ပြည်ဘက်သို့ လွှတ်သေးသည်။ ငှက်ဖျား မိလာသဖြင့် ပြန်လာခဲ့ရသည်။

သို့နှင့်ပင် စိတ်မလျှော့သေး။ အခြားနည်းလမ်းများကို ရှာဖွေလျက် ရှိလေသည်။

ကျွန်တော်လည်း ဘာမျှ မေးလားစမ်းလား မလုပ်။ သူပြောပြသရွေ့ ကိုသာ နားထောင်လျက်ရှိ၏။

တစ်ညနေတွင် သခင်သန်းထွန်းသည် ကျွန်တော်၏ အိမ်သို့ ပေါက်လာသည်။

'သခင်တင်ရွှေ ရောက်လာတယ်၊ သခင်နု တွေ့မလား၊ တွေ့မယ်ဆိုရင် ညကို ခေါ်ခဲ့မယ်'

ဟု သခင်သန်းထွန်းက ပြောလေသည်။

ကျွန်တော်ကလည်း တွေ့ချင်သည်ဟုပြောသဖြင့် ညဘက်တွင် သခင် တင်ရွှေကို ကျွန်တော်၏ အိမ်သို့ ခေါ်လာသည်။

သခင်တင်ရွှေမှာ တခြားသူမဟုတ်၊ သိန်းဖေနှင့် အတူတူ အိန္ဒိယသို့ သခင်သန်းထွန်း ထည့်လိုက်သောသူပင် ဖြစ်လေသည်။

သူ့ထံတွင် သိန်းဖေနှင့် အိန္ဒိယ ကွန်မြူနစ်ပါတီ၏ အတွင်းရေးမှူးချုပ် ကွန်ခရိတ်ဂျိုရှီတို့ထံမှ အမှာစာများ ပါလာလေသည်။

သခင်သန်းထွန်းတို့နှင့် တိုင်ပင်စရာရှိသရွေ့ လုပ်စရာရှိသရွေ့တို့ကို လုပ်ပြီးပြီဖြစ်သဖြင့် များမကြာမီ အိန္ဒိယပြည်သို့ ပြန်တော့မည်ဖြစ်၏။

သူပြန်လျှင် ဗမာပြည်မှ ညိုထွန်းပါ လိုက်မည်ဖြစ်၏။

ညိုထွန်းသည် ကျွန်တော်၏ အိမ်ဝင်းထဲ ကျွန်တော့်အိမ်၏ နောက်တွင် ကပ်၍ တဲဆောက်နေသည်။

သို့သော်လည်း ၎င်းသို့ လိုက်သွားမည်ဆိုသည်ကို ထိုညက သူတို့ဖွင့်ပြောမှ ကျွန်တော် သိရသည်။

ကျွန်တော်။ 'သခင်သန်းထွန်း၊ ခင်ဗျား တယ်လက်မြန်တဲ့လူပဲ၊ ကျုပ်အိမ်ထဲကလူကိုဆွဲတာ ကျုပ်တောင် မသိလိုက်ဘူး'

ဟု ပြောရာ သခင်သန်းထွန်းလည်း ပြုံး၍နေလေသည်။

သခင်သန်းထွန်း။ 'သခင်နုကော အိန္ဒိယကို သွားချင်သလား၊ သွားချင်တယ်ဆိုရင် စီမံလိုက်မယ်'

ကျွန်တော်။ 'အေးဗျာ၊ စီမံလိုက်စမ်းပါ'

သခင်သန်းထွန်း။ 'အခုတစ်ခေါက်တော့ မလိုက်နဲ့အုံး၊ နောက်ကို လွယ်မယ်ဆိုရင် ကလေးတွေပါ အကုန်လုံးခေါ် သွားနိုင်အောင် လေယာဉ်ပျံနဲ့ ကြည့်ပြီး စီစဉ်ပေးမယ်'

'လိုက်မယ်' ဟူ၍သာ ရုတ်တရက်ပြောလိုက်ရသည်။ တကယ်လိုက်ရန်စဉ်းစားမိပြန်သောအခါ ကျွန်တော်လည်း တောင်တွေး မြောက်တွေးနှင့် စိတ်လေးလျက်ရှိလေသည်။

ညိုထွန်းလည်း အိမ်မှထွက်ခါနီး လေး ငါး ရက်လောက်တွင် ကံကောင်းထောက်မ၍ ဂျပန်စစ်ဝါဒဖြန့်ဖြူးရေးဌာနမှ ဂျပန်အရာရှိနှစ်ဦးနှင့် တွေ့ရလေသည်။

၎င်းတို့က ရခိုင်ပြည်ကို ဗမာအစိုးရလက်အောက်က ခွဲထွက်ရန်အတွက် ညိုထွန်းကို လှုံ့ဆော်ခိုင်းသည်။

၎င်းမှာ ချက်ကောင်းဖြစ်သည်ဟု သဘောပိုက်ကာ ညိုထွန်းလည်း လက်ခံလေသည်။

ထို့ကြောင့် ဂျပန်အရာရှိများသည် ညိုထွန်းအား အသွားအလာလွယ်ကူရန် ကာကွယ်ရေး လက်မှတ်များ၊ ဝါဒဖြန့်ဖြူးရန် စာအုပ်စာတမ်းများ အစရှိသည်တို့ကို ပေးလိုက်လေသည်။

သခင်တင်ရွှေနှင့် ညိုထွန်းကို ရခိုင်ကမ်းခြေ၌ အင်္ဂလိပ် အမြောက်တင်သင်္ဘောက ချိန်းထားသည့်ရက်တွင် လာ၍ခေါ်မည်ဖြစ်၏။

သင်္ဘောသို့ ကမ်းမှအကူးတွင် ဂျပန်ကင်းသမားများနှင့် တွေ့၍ သင်္ဘောနှင့် ကင်းသမားတို့မှာ အပြန်အလှန်ပစ်ရသေးသည်ဟု လိုက်ပို့သောသူများထံမှ သိရသည်။

သင်္ဘောမှ အမြောက်ကလေးဖြင့် ကမ်းဘက်သို့ တရကြမ်းပစ်ခတ်ရာ လိုက်ပို့သူများပင် ကံသီ၍ အမြောက်ဆံဘေးက လွတ်ခဲ့ရသည်ဟု ကြားသိရလေသည်။

သခင်ဗဟိန်းသည် ကျွန်တော်နှင့်အတူ နေသည်။

သခင်သန်းထွန်းနှင့် သူနှင့် ကျိတ်၍ တော်လှန်ရေးလုပ်ငန်းများ လုပ်နေကြသည်ကို အရိပ်အမြွက်မျှသာ ကျွန်တော် သိသည်။

ဘာတွေလုပ်နေမှန်းကိုကား ကျွန်တော် သေသေချာချာ မသိချေ။

ဗဟိန်းနှင့် ညိုထွန်းတို့သည် သွားခါနီး တစ်ခု အချိန်းအချက်လုပ် ထားသည်။

အိန္ဒိယသို့ ညိုထွန်းတို့လူစု ဘယ်နေ့တွင်ရောက်နိုင်မည်ကို ရက် တွက်၍ နှစ်ရက်လောက် ခွာပြီး ရက်ချိန်း နှစ်ရက် ကန့်သတ်လိုက်သည်။

ထိုနေ့များတွင် နယူးဒေလီ အသံလွှင့်ရုံမှ 'ဘိုးရုံမိဂဒါရုံသို့ ရောက်ပြီ' ဟု အသံလွှင့်လျှင် ညိုထွန်းတို့ အိန္ဒိယသို့ ချောချောမောမောရောက်ပြီဟု ရန်ကုန်က လူများက သိမည်ဖြစ်၏။

ကျွန်တော်သည် နိုင်ငံခြားရေးဝန်ကြီးအဖြစ်နှင့် တစ်ကမ္ဘာလုံးမှ အသံ ဖမ်း၍နားထောင်ရန် ဂျပန်စစ်တပ်မှ ခွင့်ပြုထား၏။

ထို့ကြောင့် ကျွန်တော့်ရေဒီယိုမှာ ညိုထွန်းတို့လွှင့်သောအသံကို ကြားနိုင်မည်ဖြစ်၏။

ပထမနေ့တွင် ချိန်းထားသည့်အတိုင်း အသံလွှင့်ချက်ကို ကြားရရာ ဗဟိန်းက 'ကိုကြီးနု ညိုထွန်းတို့ရောက်သွားပြီ' ဟု ကောက်၍ ပြောလိုက် ၏။

ကျွန်တော်လည်း အမှတ်တမဲ့ဖြစ်နေ၍ သူတို့၏ အချိန်းအချက် မကြားလိုက်ရချေ။

ထို့ကြောင့် နောက်တစ်နေ့ ဆက်၍နားထောင်မှ 'ဘိုးရုံမိဂဒါရုံသို့ ရောက်ပြီ' ဟူသောအသံကို ကောင်းစွာကြားရလေ၏။

ကျွန်တော်တို့လူစု ကြံသမျှစည်သမျှ လုပ်သမျှတွေမှာ ဘယ်လောက် အတွင်းရေးဖြစ်ဖြစ်၊ ဘယ်လောက် သေရေးရှင်ရေးဖြစ်ဖြစ် ကျွန်တော် အမြဲပါရ၏။

သို့ရာတွင် ကျွန်တော်ပါခြင်းကား လုပ်ဖော်လုပ်ဖက်အနေနှင့် မဟုတ်ဘဲ အိမ်သားတွေ အရေးပေါ်လျှင် ညီအစ်ကိုတစ်တွေ စုဝေးတိုင်ပင်သည့်အခါ လုပ်လုပ် မလုပ်လုပ် ညီအစ်ကိုမှန်သမျှခေါ်၍ တိုင်ပင်ခြင်းမျိုးဖြစ်လေသည်။

ကျွန်တော် သဘောမတူသည့်အရာတွေလည်း အများကြီးရှိသည်။ တူသည့်အရာတွေလည်း အများကြီးရှိသည်။

မတူသည့်အခါလည်း မတူသည့်အကြောင်း အတိအလင်း ပြောပြသည်။

မည်ကဲ့သို့ပင် သဘောမတူစေကာမူ ကျွန်တော်သည် ကျွန်တော့် လူစုကိုကား မည်သည့်အခါမှ ဒုက္ခရောက်သွားအောင် သစ္စာမဖောက် ဟူ၍ ထိုသူများ၌ ယုံကြည်ချက်ရှိသည်။

ဤယုံကြည်ချက်ကြောင့်ပင် အသေးစိတ်လုပ်ငန်းကလေးတွေမှအပ အရေးကြီးလာသည့်အချက်တိုင်း၌ ကျွန်တော့်အား အသိပေးခြင်း ဖြစ်လေ သည်။

သခင်တင်ရွှေနှင့် ညိုထွန်းတို့ အိန္ဒိယသို့ ရောက်ကြပြီး သုံး လေး ရက်လောက် အကြာတွင် ကျွန်တော်၏ ရုံးခန်း၌ ဗိုလ်ချုပ်အောင်ဆန်း၊ သခင်သန်းထွန်းနှင့် ကျွန်တော်တို့သုံးဦး တွေ့ဆုံကြပြီးလျှင် သခင်တင်ရွှေ လာသည့်ကိစ္စကို ဗိုလ်ချုပ်အောင်ဆန်းအား သခင်သန်းထွန်းက ရှင်းလင်း ပြောပြလေ၏။

များမကြာမီ ဗိုလ်ချုပ်အောင်ဆန်း၏ ဆန္ဒအရ ဖျာပုံ စီရင်စု၏ ရွာတစ်ရွာတွင် ပုန်း၍ ဂျပန်တော်လှန်ရေးလုပ်ငန်းကို ဖြန့်နေသော သခင်စိုးကို ရန်ကုန်သို့ မှာယူပြီး ဗိုလ်ချုပ်နှင့် တွေ့စေ၏။

ဗိုလ်ချုပ်၊ သခင်စိုး၊ သခင်သန်းထွန်းတို့လည်း သဘောတူညီချက် ရပြီးလျှင် ဘီ ဒီ အေ စစ်တပ်နှင့် တော်လှန်ရေးအဖွဲ့တို့ တာဝန်ဝေ၍ ယူကြလေသည်။

သခင်စိုးကို ဘီ ဒီ အေ မှ ဗိုလ်ကျော်ဇောက တာဝန်ယူ၍ ရန်ကုန်သို့ ခေါ်လာလေသည်။

သခင်စိုးမှာ ထိုအခါက ဘီ ဒီ အေ စစ်ဗိုလ်အဝတ်အစားနှင့်ဖြစ်၍ ခပ်စိမ်းစိမ်းလူများ ရုတ်တရက် သူ့ကိုမြင်လျှင် မှတ်မိနိုင်ရန် ခဲယဉ်းသည်။

ရန်ကုန်မှ ပဲခူးရှိ ဘီ ဒီ အေ စစ်တပ်သို့ ခေါ်သွားပြီးလျှင် ဗိုလ်အောင်ဆန်းနှင့် ထိုနေရာတွင် တွေ့စေသည်။

၎င်းနောက် ပဲခူးမှ ရန်ကုန်သို့ ပြန်ခေါ်လာပြီးလျှင် ဘောက်ထော်ရှိ ဗိုလ်လရောင်၏အိမ်တွင် ထားသည်။

ဘီ ဒီ အေ စစ်သားအချို့က သေနတ်ကိုင်၍ စောင့်ပေးကြသည်။

ထိုအခါ ဂျပန်လာလျှင် အလွယ်တကူနှင့် အဖမ်းမခံ၊ ခံချရန် အသင့်ပြင်ထားကြလေသည်။

တစ်ညတွင် သခင်သန်းထွန်းနှင့် ဗိုလ်လက်ျာတို့ လာခေါ်၍ ကျွန်တော်လည်း သခင်စိုးနှင့် တွေ့ရန် လိုက်သွားခဲ့လေသည်။

ထိုညတွင် သခင်စိုးသည် ကျွန်တော်၏ အိမ်သို့ ပြောင်းရွှေ့ခဲ့လေ၏။

နောက်တစ်နေ့နံနက်တွင် အဓိပတိထံသို့ ကျွန်တော်သွားပြီး သခင်စိုး ဘယ်မှာရှိသည်ကို မပြောဘဲ အကယ်၍ သခင်စိုးကို တစ်နေရာရာမှာ မိသွားလျှင် သခင်စိုးအား ဗမာအစိုးရအဖွဲ့ထဲတွင် တစ်နေရာရာပေးရန် အတွက် စကားကမ်းလှမ်းထားပြီး ဖြစ်သဖြင့် သခင်စိုးကလည်း သူ့တော်လှန်ရေးလုပ်ငန်းကိုစွန့်ပြီး အစိုးရအဖွဲ့တွင် ဝင်တော့မည် ဖြစ်သည် ဟု ဂျပန်ကို ပြောရန် အကြံပေးလေသည်။

အဓိပတိကလည်း ဆရာလာလုပ်သည်ကို မကြိုက်၍လားမသိ။ သူနားလည်ပါတယ်၊ သူကြည့်လုပ်ပါ့မယ်ဟု ပြောပြီး လွှတ်လိုက်လေသည်။

သို့အတွက် သခင်စိုး ရန်ကုန်သို့လာသည့်အတွက် အနည်းနှင့်အများ ဆိုသလို စိုးရိမ်စရာကင်းပြီဟူ၍ ကျွန်တော်လည်း စိတ်ချနေလိုက်သည်။

အမှန်စင်စစ် ထိုအခါက သခင်စိုးသည် ရန်ကုန်သို့ လာခြင်းမှာ မြွေပွေးတောထဲသို့ လမ်းလျှောက်လာသည်နှင့် တူလေသည်။

အဘယ့်ကြောင့်ဆိုသော် သခင်စိုးကို သေသေချာချာ မှက်မိသော သခင်များစွာတို့သည် ဂျပန် စစ်ပုလိပ်၏ တပည့်များ ဖြစ်နေကြသောကြောင့်တည်း။

သခင်တင်ရွှေ ရန်ကုန်သို့လာစဉ်ကလည်း သခင်တင်ရွှေကိုသိသော စစ်ပုလိပ်၏ တပည့်ဖြစ်သူ သခင်တစ်ဦးက တွေ့သွားသောကြောင့် သခင်တင်ရွှေ လာသည့်အကြောင်းကို စစ်ပုလိပ် သိသွားခြင်း ဖြစ်လေသည်။

သခင်စိုးနှင့် ကျွန်တော် မတွေ့မီ သုံး လေးရက်လောက်က ဗဟိန်းသည် ကျွန်တော့်အိမ်မှ ပျောက်သွားသည်။

ကျွန်တော်လည်း ဤသို့ ပျောက်သွားခြင်းမှာ တော်လှန်ရေးသမားတွေ၏ လက်ချက်ပင် ဖြစ်သည်ကို ရိပ်မိ၏။

ထို့ကြောင့် သခင်စိုးနှင့် တွေ့သောအခါ ညီညွတ်စွာ ပျောက်သွား၍ စစ်ပုလိပ်တွေက ကျွန်တော့်ကို မသင်္ကာနေတုန်း တစ်အိမ်ထဲနေတဲ့ ဗဟိန်းကလဲ တစ်ခါ ထပ်ပျောက်သွားလျှင် သိပ်ဆိုးရွားလိမ့်မည်။

ထို့ကြောင့် ပြန်ပို့ပေးပါဟု ပြောသောကြောင့် နောက် နှစ်ရက်လောက် ကြာသောအခါ ဘယ်က ဘယ့်နှယ် ရောက်လာမှန်းမသိ၊ အိမ်သို့ပြန်ရောက်လာလေသည်။

သို့ရာတွင် သခင်စိုး ပြန်သွားပြီး လေး ငါးရက် အကြာတွင် တစ်ကြိမ် ထပ်၍ ပျောက်သွားပြန်လေသည်။

ကျွန်တော်လည်း သခင်သန်းထွန်းကို သွား၍ဆူရာ သခင်သန်းထွန်း ကလည်း သူ ဘာမှမသိရဟု ကျွန်တော့်ကို ဖြီးလိုက်သည်။

ရင်းနောက် အကြောက်အနည်းငယ်ပြေသွားမှ 'အလုပ်ကြီး လုပ်နေတဲ့အခါ လူတစ်ယောက်ဟာ ပဓာနမဟုတ်ဘူး' လို့ သူတို့ ယူဆကောင်း ယူဆကြလိမ့်မယ်ထင်ပါရဲ့ဟု တွေးဆပြီး ကျွန်တော့်စိတ်ကို ဖြေလိုက်ရ၏။

ဇဟိန်းပျောက်သွားပြီး နှစ်ရက်ခန့် ကြာသောအခါ ကျွန်တော့် အိမ်တွင် အစည်းအဝေးတစ်ခု ချိန်းထားသည်ကို အစည်းအဝေးတက်မည့် သူများ ရောက်လာမှ ကျွန်တော် သိရ၏။

ရင်းအစည်းအဝေးမှာ အတွင်းလူများ အစည်းအဝေးဖြစ်သည်။

သခင်မြ၊ ဗိုလ်ချုပ်၊ သခင်သန်းထွန်း၊ သခင်ချစ်၊ ဗဆွေ၊ ကျော်ငြိမ်း အစရှိသောသူများ စုံလင်ကြသောအခါ ဗိုလ်ချုပ်သည် သူရေးလာသော ဖက်ဆစ်ဓားပြများကို ခုခံတိုက်ဖျက်ကြလော့ ဟူသော ခေါင်းစဉ်ဖြင့် ကြေညာစာတမ်းရှည်ကြီးကို ဖတ်ပြရာ အားလုံး သဘောတူ ထောက်ခံကြလေ၏။

ရင်းကို ဗမာစစ်တပ်မှ တာဝန်ယူ၍ ပုံနှိပ်ပြီး ဗမာပြည်အရပ်ရပ်ရှိ တော်လှန်ရေးသမားများထံသို့ ပို့လေသည်။

ရင်းတို့မှတစ်ဆင့် တော်လှန်ရေးကို စေတနာပေါက်မည့်သူများ၏ လက်ထဲသို့ထည့်ရန် ဖြစ်၏။

ထိုနေ့မှစ၍ ဘီဒီအေ စစ်တပ်နှင့် အပြင်ဘက် တော်လှန်ရေးသမားများတို့သည် စနစ်တကျ တစ်ဦးနှင့် တစ်ဦး ဆက်သွယ်မိလျက် ရှိလေသည်။

သခင်သန်းထွန်း၊ သခင်ချစ်၊ ဗဆွေ၊ ကျော်ငြိမ်း အစရှိသော သူများလည်း တော်လှန်ရေးအတွက် လုံးပမ်းလျက်ရှိသည်ကို တွေ့ရလေသည်။

သို့နှင့်ပင် မတ်လထဲသို့ ရောက်လာလေ၏။

တစ်ညတွင် ကျွန်တော့်အိမ်သို့ ဗိုလ်ချုပ်၊ ဗိုလ်လက်ျာ၊ သခင်သန်းထွန်း၊ ကျော်ငြိမ်းနှင့် သခင်စိုးတို့ ပြုန်းခနဲ ရောက်လာကြ၏။

သခင်စိုး၏ လက်ထဲတွင်လည်း ဘော်မီဂန်း ခေါ် သေနတ်ကြီးတစ်လက် ကိုင်ထားသည်ကို တွေ့ရသည်။

အခန်းတစ်ခုထဲတွင် ထိုင်မိကြသောအခါ သခင်သန်းထွန်းက စက္ကူအပါးကလေးပေါ်တွင် အင်္ဂလိပ်လက်နှိပ်စက်နှင့် ရိုက်ထားသော စာတစ်စောင်ကို ထုတ်ပြသည်။

စာ၏အဓိပ္ပာယ်မှာ သခင်သန်းထွန်း မတ်လ ၁၈ ရက်လောက်တွင် တောင်ငူဘက်သို့သွား၍ အင်္ဂလိပ် စစ်ဗိုလ်တစ်ဦးဖြစ်သော မေဂျာ ဘာရှနှင့် ဆွေးနွေးရန် ဖြစ်၏။

ဤသို့သွားပြီးလျှင် ရန်ကုန်သို့ပြန်လာ၍ မဖြစ်တော့ပြီ။ တစ်ခါတည်းဆက်၍ ပုန်းရတော့မည် ဖြစ်၏။

သို့အတွက် သခင်သန်းထွန်းပုန်းလျှင် ဗိုလ်ချုပ်နှင့် ကျွန်တော်တို့၏အခြေနေမှာ မည်ကဲ့သို့ ဖြစ်မည်ကို ဆွေးနွေးရန် လာကြခြင်းဖြစ်သည်။

သခင်သန်းထွန်း ပျောက်သွားလျှင် ဗိုလ်ချုပ်နှင့် ကျွန်တော်ပါ ပျောက်မှ ဖြစ်လိမ့်မည်ဟု အားလုံးက ယူဆကြသည်။ ကျွန်တော်ကလည်း ဤသို့ပင် ယူဆသည်။

သို့အတွက် သခင်သန်းထွန်း နှင့် တစ်ချိန်တည်း ပျောက်သွားရန် ကျွန်တော်လည်း သဘောတူလိုက်၏။

ဗိုလ်လက်ျာက ကျွန်တော်နှင့် မိသားတစ်စုတို့ ပုန်းရန်အတွက် တာဝန်ယူရမည်ဖြစ်၏။

ကျွန်တော့်ကို ဤသို့ ပုန်းရန် ပြောကြခြင်းမှာ အခြားသူများကဲ့သို့ သေနတ်ကိုင်ပြီး တိုက်ရန်အတွက် ခေါ်ခြင်းမဟုတ်။

ဤကိစ္စတွင် ကျွန်တော်သည် ဘာမျှ အသုံးမဝင်ရုံမက ကျွန်တော် ရှိနေလျှင် အတိုက်အခိုက်လုပ်ငန်းမှာပင် အနှောင့်အယှက်ဖြစ်နေမည်ကို ကျွန်တော်၏ လူရင်းများအားလုံး သိ၏။

ထို့ကြောင့်လည်း သခင်စိုးက 'ခင်ဗျားတို့ ရောက်လာလျှင် ရောက်လာချင်း ကျွန်တော်တို့မှာရှိတဲ့ ဝိုင်ယာလက်နဲ့ လေယာဉ်ပျံတစ်စင်းကို မှာပြီး အိန္ဒိယကိုဖြစ်ဖြစ် ပို့ထားမယ်' ဟု ကျွန်တော့်ကို ပြောသေး၏။

ကျွန်တော့်ကို ခေါ်ကြခြင်းမှာ ကျွန်တော့်အတွက် အသက်အန္တရာယ် ဖြစ်မည်စိုး၍ ဂျပန်၏ ရန်မှ ကွယ်ဝှက်ထားရန်အတွက်ပင် ဖြစ်လေသည်။

နောက်သုံးရက်မျှကြာသောအခါ အဆင်သင့် ထုပ်ပိုးထားသော အထုပ်အပိုးများကို သခင်စိုး အပြန်တွင် ဝင်၍ယူသွားသည်။

ထိုအတွင်း သခင်သန်းထွန်းအတွက် ရန်ကုန်မှထွက်ရန် အခွင့်ကောင်း ကြုံလာသည်မှာ အခြားမဟုတ်။ ဂျပန်တွေ သက်ာမကင်း ဖြစ်နေသည်ကို ပြေပျောက်ရန် သခင်သန်းထွန်းသည် တောင်ငူဘက်ဆီသို့ စစ်တရားဟောထွက်နိုင်လျှင် ကောင်းမည်ဟု အဓိပတိက သခင်သန်းထွန်း အား ဗိုလ်လက်ျာမှတစ်ဆင့် တိုက်တွန်းခြင်းပင် ဖြစ်လေသည်။

သခင်သန်းထွန်းလည်း သူ့ရက်ချိန်းစေ့သောအခါ တောင်ငူဘက်သို့ ထွက်ပြီး ပျောက်သွားလေ၏။

သူ့အိမ်တွင် အိမ်စောင့်ကျန်ရစ်သော သူငယ်များသာ စည်းကမ်း သေဝပ်မည်ဆိုလျှင် အိမ်မှ အထွက် အကြောင်းပြ ကောင်းနေသဖြင့်

သခင်သန်းထွန်းပျောက်သွားကြောင်း စစ်ပုလိပ်များသည် တော်တော်နှင့် မသိနိုင်ပေ။

ကျွန်တော်နှင့် ဗိုလ်လက်ျာတို့လည်း ပျောက်ကြဖို့ရန် အချိန်ရောက်လေပြီ။

ကျွန်တော်လည်း သွားရခါနီးမှ ချီတုံချတုံဖြစ်လျက် ရှိလေသည်။ ချီတုံချတုံဖြစ်ရခြင်းမှာ အခြားမဟုတ်။ အမိပတိအတွက် ဖြစ်၏။

မကြာသေးမီကပင် အတွင်းရေး အပြင်ရေးများကို ခေါ်၍တိုင်ပင်ပြီး

'သခင်နု၊ သခင်နုဟာ သခင်ဖြစ်နေပေတဲ့လဲ ဂျပန်မျက်စိနဲ့ ကြည့်မယ်ဆိုရင် တချို့ ဓားမတွေထက်တောင် ကိုယ်နဲ့ ပိုပြီး အတွင်းကျသေး သလိုလို ဖြစ်နေတယ်'

ဟု အမိပတိက ကျွန်တော့်ကို ပြောသေးသည်။

သို့အတွက် ပထမ ကြံစည်ထားသလို အမိပတိကို အသိမပေးဘဲနှင့် ပုန်းလိုက်ရလျှင် ကျွန်တော့်အတွက် အမိပတိ ချောက်ကျသွားမည်လားဟု စိုးရိမ်မိလေသည်။

ရင်းပြင် ဝန်ကြီးစ၍ဖြစ်မည့်နေ့က အမိပတိအပေါ်တွင် သစ္စာရှိပါမည်ဟု ကျမ်းကျိန်ထားသည့် ကိစ္စကလည်း ရှိသေးသည်။

ဤကိစ္စကို လွယ်လွယ်နှင့် ဖျက်၍ မရနိုင်။

သို့အတွက် ရန်ကုန်မှထွက်ရမည့်နေ့တွင် ဗိုလ်လက်ျာနှင့်တွေ့ပြီး အထက်ပါအကြောင်းတွေကြောင့် ဘယ်နည်းနှင့်မဆို မပျောက်ခင် အမိပတိကို အသိပေးမှ ဖြစ်လိမ့်မယ်။ ထို့ကြောင့် နှစ်ရက်လောက် နောက်ထပ်စောင့်ပါဦးဟု ပြောပြီး ဗိုလ်လက်ျာကို တားထားလိုက်လေသည်။

ဤကိစ္စတွင် ကျွန်တော် ဇွတ်တရွတ်လုပ်သဖြင့် ဗိုလ်လက်ျာလည်း မတားသာသောကြောင့် ကြည့်နေလိုက်ရခြင်း ဖြစ်သည်။

အမှန်စင်စစ် ကျွန်တော် လုပ်သော အလုပ်သည် ကျွန်တော်နှင့် ဗိုလ်လက်ျာကို ဂျောက်ကျစေနိုင်သော အလုပ် ဖြစ်လေသည်။

ကျွန်တော် တိုင်ပင်လိုက်သဖြင့် အဓိပတိက ကျွန်တော့်ကို စစ်ပုလိပ် လက်သို့ အပ်မည်ကိုကား အနည်းငယ်မျှ စိုးရိမ်စရာမရှိ။ သခင်သန်းထွန်း ပင်လျှင် ထိုထက်အရေးကြီးသော ကိစ္စများကို ဖွင့်၍ တိုင်ပင်ခဲ့ဖူးသည်။

သို့ရာတွင် ထိုအခါ၌ ပျောက်သောလူများလည်း အတော်အတန် ပျောက်ကုန်၍ စစ်ပုလိပ်များလည်း ဒေါင်းတောက်လျက် ရှိပြီဖြစ်ရာ ပုန်းရမည့်သူများသည် အချိန်ကိုလုနေရသောကြောင့် ဖြစ်လေသည်။

စစ်ပုလိပ်၏ လက်တွင်းမှ လွတ်ရန်အတွက် နာရီ မပြောထားနှင့် မိနစ်တိုင်း အရေးကြီးလျက် ရှိနေလေပြီ။

ကျွန်တော်၏စိတ်မှာ အတော်ထူးဆန်းသည်ဟု ကျွန်တော်ထင်သည်။ ကျွန်တော်၏ လူရင်းများကမူကား ခွကျသည်ဟု အမှတ်ထားကြသည်။

ထို့ကြောင့် ကျွန်တော့်ကို ချွင်းချက်ထဲသို့ သွင်းထားကြလေသည်။

ကျွန်တော်၏ စိတ်ထားကို ဆယ်နှစ်ခန့်လောက်က ပန်းတနော်၌ ဖြစ်ပွားခဲ့သော အဖြစ်အပျက်ကလေးတစ်ခုကို ကြည့်ခြင်းဖြင့် ကောင်းစွာ သိနိုင်ပေလိမ့်မည်။

ပန်းတနော်ရှိ ကျွန်တော်၏ အိမ်နောက်ဖေးတွင် ခင်မောင် ဆိုသူ တစ်ဦး၏ အိမ်ရှိသည်။

ထိုအိမ်တွင် ကြက်တွေကိုမွေးထားရာ ကြက်ပေါက်စကလေးများနှင့် ကြက်ဥများကို မြွေဟောက်ကြီးတစ်ကောင်သည် မကြာခဏ လာ၍စား တတ်၏။

ကြက်ကလေးများနှင့် ကြက်ဥများကို စားရုံသာမက အိမ်ရှိလူတွေ ကို ပေါက်သွားမည့် ဘေးကလည်း ရှိသေး၏။

မကြာခဏ မြွေကြီးနှင့် ပက်ပင်းပါတွေ့နေ၍ အိမ်ရှိလူများသည် မြွေကြီး မြွေကြီးဟု ငယ်သံပါအောင် အော်ဟစ်ပြီး ဆင်း ဆင်း ပြေးရသည် မှာလည်း မကြာခဏပင်။ ကျွန်တော်တို့၏အိမ်နှင့် ထိုအိမ်မှာလည်း အလွန် နီးကပ်လျက်ရှိသဖြင့် ကျွန်တော်တို့၏ အိမ်သားများပါ ထိုမြွေဟောက် ကြီးကို ကြောက်၍ နေကြရ၏။

တစ်နေ့သ၌ အိမ်သာနံဘေးရှိ ကြွက်တွင်းတစ်ခုမှ ထိုမြွေကြီးသည် ခေါင်းထွက်နေသည်ကို ခင်မောင် မြင်ရ၍ မှိန်းနှင့်ထိုးလိုက်ရာ ထိုမြွေကြီး ၏ ပါးပျဉ်းကို တဲတဲကလေး ထိုးမိနေလေ၏။

ထိုအခါ ခင်မောင်က 'ဆရာနုရေ ခင်ဗျားတို့အိမ်က သေနတ်ကြီးကို ယူခဲ့ပါ၊ မြွေဟောက်ကြီးကို မှိန်းနဲ့ ထိုးမိနေပြီ' ဟု အော်ခေါ်လေ၏။

ကျွန်တော်လည်း ခင်မောင်၏ အော်သံကို ကြားလျှင် ကြားချင်း ထိုင်ရာမှ အတင်းထတဲ့ပြီး သေနတ်ကို ပြေးဆွဲ၏။

သေနတ်ယူ၍ လမ်းတစ်ဝက်သို့ရောက်သောအခါ 'ဟာ ဒီအကောင် ကြီးကို ဆော်လိုက်ရင် ပါဏာတိပါတကံကြီးထိုက်တော့မှာပဲ၊ သဗ္ဗေသတ္တာ ကမ္မသကာပေါ့ကွာ' ဟု သတိရပြီး သေနတ်ကို ပြန်ထားလိုက်ရန် သွားလေ သည်။

သို့ရာတွင် သေနတ်ကိုထားခါနီးတွင် 'ဟာ၊ ဒီကောင်ကြီးတော့ ဆော်မှပဲ၊ နို့မဟုတ်ရင် လူတွေကို ပေါက်လိမ့်မယ်၊ ကံယုံပြီး ဆူးပုံကိုနင်းလို့ ဘယ်ဖြစ်မလဲ' ဟု တွေးပြီး သေနတ်ကိုပြန်၍ ဆွဲပြန်သည်။

ပစ်ရခါနီးတွင် စိတ်လေး၍ နေပြန်သည်။ ဤသို့ ချီတုံချတုံဖြစ်နေ သည်နှင့် မြွေဟောက်ကြီးလည်း အတင်းရုန်းလိုက်ရာ ပါးပျဉ်းပြတ်ပြီး လွတ်ထွက်ပြေးလေ၏။

မင်းလုပ်ချင်လျှင် ရက်စက်မှ ဆိုသော စကားကဲ့သို့ နိုင်ငံရေးသမား၊ အထူးသဖြင့် တော်လှန်ရေးသမား လုပ်ချင်လျှင် ဤသို့ အခါခပ်သိမ်း ချိုတုံချတုံ ဖြစ်နေ၍ ဘယ့်နှယ်နှင့်မျှ မဖြစ်နိုင်ချေ။

ထို့ကြောင့် လူရင်းများက ကျွန်တော့်အား နိုင်ငံရေးထဲသို့ ဆွဲသွင်းမည်ကြံတိုင်း ဤအဖြစ်အပျက်ကလေးကို ပြောပြရလေသည်။

ဗိုလ်လက်ျာကို တားထားပြီး နှစ်ရက်မြောက်၍ ကျွန်တော်တို့ ထွက်ရ တော့မည့်နေ့တွင် အဓိပတိနှင့် သွား၍ တွေ့လေသည်။

ကျွန်တော်လည်း ကျွန်တော့်ကိစ္စကို ဖွင့်၍ပြောပြလိုက်ရာ အဓိပတိသည် သုံးမိနစ်ခန့် အပေါ်သို့ မော့ကြည့်၍ အပြန်အလှန် စဉ်းစားပြီးနောက်

အဓိပတိ။ 'ပုန်းချင်လဲ ပုန်းပေတော့ သခင်နု၊ ဘာဖြစ်လို့လဲဆိုရင် အခုအခြေအနေအတိုင်း သခင်နုတို့ကို ကယ်ဖို့ မပြောနဲ့ ကိုယ့်ကိုယ်ကိုယ်တောင် ကိုယ်မကယ်နိုင်တဲ့ နေ့တစ်နေ့ကို ကိုယ်တို့ ရောက်လာလိမ့်မယ်၊ အဲဒီတော့ သခင်နုလဲ ပုန်းချင် ပုန်းတော့၊ ကိုယ့်အပေါ်မှာ သစ္စာပြုထားတာတွေ ဘာတွေ အားလုံးကုန် ခွင့်လွှတ်တယ်'

ဟု ဝမ်းနည်းပက်လက်ဖြစ်သည့် လေသံနှင့် ပြောလေသည်။

ကျွန်တော်။ 'ကျွန်တော် ပုန်းလိုက်ရင် ဂျပန်တွေက အဓိပတိကို ပိုပြီး သက်ာမကင်း မဖြစ်ဘူးလား'

အဓိပတိ။ 'သခင်နုရှိလဲ ကိုယ့်အပေါ်ကို ဂျပန်က ပိုပြီး ယုံတော့တာမှ မဟုတ်ဘဲ၊ ဘယ်တော့လောက် ပုန်းရမလဲ'

ကျွန်တော်။ 'ချက်ချင်း ပုန်းရမှာပဲ'

အဓိပတိ။ 'ပုန်းဖို့နေရာက လုံရဲ့လား'

ကျွန်တော်။ 'လုံပါတယ်'

အဓိပတိ။ 'လူတွေ့တိုင်းမယုံနဲ့နော်၊ သခင်နုက တယ်ပြီး ယုံလွယ်တတ်တယ်၊ အခု လူတွေကို တွေ့ရသမျှ စစ်ပုလိပ်တစ်ချက် ညှဉ်းလိုက်ရင် အကုန်အန်ထွက်တာပဲ'

ကျွန်တော်လည်း အဓိပတိကို နောက်ဆုံး အရိုအသေပြုခြင်းဖြင့် ခါးညွတ်၍ အရိုအသေပေးပြီး ပြန်လာခဲ့လေ၏။

သို့ရာတွင် ဗိုလ်လက်ျာနှင့် ထိုနေ့ညတွင် ရန်ကုန်မှ ထွက်သွားရန် မဖြစ်နိုင်သည့် ကိစ္စတစ်ခု ပေါ်ပေါက်လာပြန်လေသည်။

သို့တွက် ဗိုလ်လက်ျာနှင့်တွေ့သောအခါ

'ကဲ ဗိုလ်လက်ျာ၊ မင်းကနေ့ညထွက်နှင့်ပေတော့၊ မင်းတို့ ဖျာပုံရောက်ရောက်ချင်း တို့ကို ခေါ်ဖို့ လူလွှတ်လိုက်ပါ' ဟု မှာလိုက်ရလေ၏။

ဗိုလ်လက်ျာလည်း ထိုညပင် ဖျာပုံဘက်သို့ ထွက်၍သွားလေသည်။

အကယ်၍ နောက်တစ်နေ့သာ နေလိုက်ပါမူကား သူ့လည်ပင်းမှာ ဂျပန်စစ်ပုလိပ်၏ဓားဖြင့် အပိုင်းခံရပေတော့မည်။

အဘယ့်ကြောင့်ဆိုသော် နောက်တစ်နေ့မနက်အစောကြီးတွင် သူ့အိမ်ကို ဂျပန်စစ်ပုလိပ်များ လာ၍ဝိုင်းသောကြောင့်ပင် ဖြစ်လေသည်။

ကျွန်တော်လည်း ဗိုလ်လက်ျာလွှတ်လိုက်သော လူလာ၍ ခေါ်သည့်နေ့တွင် အသင့်ဖြစ်စေရန် စီစဉ်ထားလေ၏။

လွှတ်လိုက်သောသူ မရောက်မီ တစ်ရက်တွင် လှမောင်နှင့် ကျော်ငြိမ်းတို့သည် ကျွန်တော်၏အိမ်သို့ ပေါက်လာပြီး။

'ခင်ဗျား ပုန်းလို့ မဖြစ်ဘူးထင်တယ်၊ ခင်ဗျားပုန်းလိုက်ရင် သခင်မြတစ်ယောက်ထဲနဲ့ နိုင်မှာ မဟုတ်ဘူး၊ ခင်ဗျားပါနေရစ်ရင် ဂျပန်ကို လှည့်ဖို့နည်းနည်း လွယ်လိမ့်အုံးမယ်၊ ပြီးတော့လဲ ဂျပန် ဖမ်းထားတဲ့ လူတွေကို

လွတ်အောင်လုပ်ဖို့နဲ့ ဂျပန်ထွက်ခါနီး ရမ်းမသွားရအောင် ကာနိုင်သမျှ ကာဖို့ကလဲ လိုသေးတယ်'

ဟု ဝိုင်းပြီးတားကြ၏။

နောက်တစ်နေ့တွင် ဗိုလ်လက်ျာလွှတ်လိုက်သော ဗိုလ်ဘတင်ဆိုသူ ရောက်လာသောအခါ အကျိုးအကြောင်း စာတစ်စောင် ရေးပေးပြီး ပြန်လွှတ်လိုက်ရလေ၏။

ဤအဖြစ်အပျက်များ ဖြစ်ပျက်ပြီး၍ ငါးရက်ခန့် ကြာသောအခါ သန်းခေါင်ကျော် နှစ်ချက်တီး အချိန်လောက်တွင် ကျွန်တော့် အိပ်ခန်း၏ ခေါင်းရင်းရှိ ပြတင်းပေါက်အောက်တည့်တည့်မှ အော်၍ နှိုးနေသံများကို ကြားရ၏။

ကျွန်တော်လည်း လန့်နိုးရာမှ ဘာသံများပါလိမ့်ဟု အိပ်မှုန်စုံမွှား နှင့် စဉ်းစားလျက်ရှိစဉ် ထိုအသံများမှာ ဂျပန်သံများ ဖြစ်သည်ကို သိရ သည်နှင့် တစ်ပြိုင်နက် ဒိတ်ခနဲ ဖြစ်၍သွားလေသည်။

ဆက်နားထောင်စဉ်

'သခင်နု သခင်နု၊ ခင်ဗျားကို မေဂျာတကကၡ်ရှီးတားက တွေ့ချင်လို့ အောက်ကို ခဏလာပါ'

ဟု စကားပြန်၏ ခေါ်သံကို ကြားရ၏။

'ဖမ်းပြီ' ဟု ကျွန်တော်လည်း တွက်လိုက်၏။

ထို့ကြောင့် အသင့်လုပ်ထားသော အဝတ်နွေးများကို ထပ်၍ ဝတ် နေ၏။

'ခပ်မြန်မြန်လာပါ အရေးကြီးတယ်'

ဟု ထပ်၍ခေါ်သဖြင့် ခပ်မြန်မြန်ဝတ်ပြီး ကျွန်တော်နှင့် အတူတူ လာအိပ်နေသော ကိုချစ်ကို နှိုး၍ မှာစရာရှိသည်ကို မှာနိုင်ရန် အိမ်အောက် သို့ ခေါ်လာခဲ့လေ၏။

မေဂျာတကက်ရှီးတားနှင့်အတူတူ စကားပြန်တစ်ယောက် လုံ့စွပ်ကိုင်စစ်သား နှစ်ယောက်နှင့် ဗမာ အရပ်ဝတ်အရပ်စား ဝတ်ထားသော ဂျပန်စစ်ပုလိပ်တစ်ယောက်တို့သည် တံခါးဝတွင် ရပ်နေကြသည်ကို တံခါးဖွင့်လျှင်ဖွင့်ခြင်း တွေ့ရ၏။

မေဂျာ တကက်ရှီးတားသည် အင်္ဂလိပ်လို လက်နှိပ်စက်နှင့် ရိုက်ထားသော စာရွက်တစ်ရွက်ကို ကျွန်တော့်အား ထုတ်၍ ပေးလေသည်။

ထိုစာကို ဖတ်ကြည့်သောအခါ

'ညအချိန်မတော် နှိုးရသည့်အတွက် အင်မတန် ဝမ်းနည်းကြောင်း၊ ရန်သူများ၏ အန္တရာယ်ကို စိုးရိမ်ရသောကြောင့် ဂျပန်စစ်တပ်ကြီးက ဝန်ကြီးများ၏ အသက်ကို စောင့်ရှောက်လိုသဖြင့် ယခုလို အရေးတကြီး လာခဲ့ရကြောင်း'

အစရှိသည်တို့ကို တွေ့ရသည်။

ထိုညတွင် အဓိပတိမှစ၍ ဝန်ကြီးအားလုံးတို့ကိုလည်း ဤသို့ နှိုးပြီး အစောင့်များချထားလေသည်။

အဓိပတိကို ဂျပန်များက သေကြောင်းကြံစည်ပြီးလျှင်ပြီးချင်း ဂျပန်စစ်တပ်က ဂျပန်စစ်သားများကို သူ့အသက် ကာကွယ်ရန်အတွက် အိမ်တော်တွင် ချထားရန် ပြောသေးသည်။

အဓိပတိက လက်မခံ။ ဤသို့လက်မခံသည်ကိုပင် အိမ်တော်အတွင်းမှာ ဂျပန်မကြိုက်တာတစ်ခုခု လုပ်နေ၍သာ အသက်ကို စောင့်ရှောက်ပေးမည်ဟု ဆိုသော သူများကိုပင် လက်မခံတာဘဲဟု အဓိပတိအပေါ်တွင် တစ်ခုတိုးပြီး သင်္ကာမကင်း ဖြစ်သေးသည်။

ယခုမူကား အဓိပတိနှင့် ဝန်ကြီးတွေကို တိုင်ပင်ခြင်း မပြုတော့ပေ။ ဇွတ်အတင်းလာ၍ ထားခြင်းဖြစ်သည်။

အမိပတိနှင့် သခင်မြတို့၏ တွက်ကိန်းအရဆိုလျှင် ဤသို့ ထားရခြင်းသည် အမိပတိ သခင်မြနှင့် ကျွန်တော်တို့အား နောက်ထပ် ထွက်မနှေးပြေးနိုင်အောင် ချထားခြင်းပင် ဖြစ်လေသည်ဟု ဆို၏။

ကျွန်တော်တို့၏ အသက်အန္တရာယ်ကို စောင့်ရှောက်ရန် ထားရပါသည်ဆိုသော စစ်ပုလိပ်သည် ကျွန်တော်တို့ ဘယ်သွားသည်၊ အိမ်သို့ ဘယ်သူတွေလာပြီး ဘာလုပ်သည် အစရှိသည်တို့ကို သူတို့ဌာနချုပ်သို့ နေ့စဉ် အစီရင်ခံရသည်။

သို့နှင့်ပင် ဧပြီလ ၂၂ ရက်နေ့သို့ ရောက်လာ၏။ နံနက် ကိုးနာရီလောက်တွင် အမိပတိက တယ်လီဖုန်းနှင့်ခေါ်သဖြင့် အိမ်တော်သို့ သွားရ၏။

အခြားဝန်ကြီးများကိုလည်း ခေါ်ထားသည်ဟု သိရသည်။ သို့ရာတွင် ဘယ်သူမျှ မရောက်ကြသေး။

အမိပတိ။ 'ဂျပန်တွေ ဆုတ်တော့မယ်၊ မနက်ဖြန်ခါညှ ရန်ကုန်က ထွက်ရမယ်၊ သခင်နုနဲ့ ဂျပန်နဲ့ မဖြစ်ဘူး၊ အဲဒီတော့ မလိုက်ခဲ့နဲ့၊ ဒါပေမယ့် ကိုယ်ပြောတယ်လို့ တခြားဝန်ကြီးတွေကို မပြောနဲ့'

ကျွန်တော်။ 'ကျွန်တော် နေရစ်လို့မဖြစ်ဘူး၊ မော်လမြိုင်ဘက်ဆီမှာ ပုန်းဖို့ အချိန်မရတာနဲ့ ဂျပန်ဖမ်းထားတဲ့ သခင် ခေါင်းဆောင်တွေ အများကြီးရှိလိမ့်မယ်၊ အဲဒါတွေကို လိုက်ပြီး ကယ်ရဖို့ တာဝန်ပေးထားတယ်၊ ဒါပေမယ့် ဗမာပြည်အတွင်းပဲ လိုက်မယ်'

များမကြာမီ အခြားဝန်ကြီးများလည်း ရောက်လာကြပြီး အမိပတိက မေးရာ ကျွန်တော်လည်း လိုက်မည်ဟု ပြောလိုက်၏။



# အခန်း ၁၆
# ဂျပန်တွေ ဆုတ်ပြီ

ဂျပန်တွေ ရန်ကုန်က ဘယ်နေ့ဆုတ်မလဲ ဟူသော သတင်းကို ဗမာအစိုးရသည် ဂျပန်စစ်တပ်သို့ မကြာခဏ မေးလျက်ရှိသည်။

ဗမာအစိုးရ အရာရှိ၊ တိုင်းသူပြည်သား အစရှိသည်တို့ကို စစ်ဘေးမှ လွတ်ကင်းအောင် အချိန်မီ ရွှေ့ပြောင်းပေးရမည့်တာဝန်သည် ဗမာအစိုးရ အပေါ်သို့ ကျရောက်လျက်ရှိလေသည်။

သို့ပင်ဖြစ်သော်လည်း ဂျပန်စစ်တပ်သည် ဗမာအစိုးရ မေးသမျှကို မှန်မှန်မပြောဘဲ ဂျပန်စစ်တပ်ကို ရန်ကုန်မှဆုတ်ရန် မကြံရွယ်ပါဘူး ဟူ၍သာ အဖြေပေးလျက် ရှိလေသည်။

ဝန်ကြီးများထဲမှ ဝန်ကြီးအချို့သည် ဂျပန်စစ်တပ်မှ လေယာဉ်ပျံ အသံဖမ်းသည့်စက်များ ဌာနများကို ဘန်ကောက်သို့ ရွှေ့ပြောင်းသွားသည့် သတင်းများကို ထိုဌာနများတွင် လုပ်နေကြသူများထံမှ အသေအချာ သတင်းရ၏။

ပုသိမ်ဘက်တွင်လည်း စစ်ဘက်က တယ်လီဖုန်းကြိုးများ၊ သံဆူးကြိုးများကို လိပ်ကုန်ကြပြီဟူသော သတင်းများကို ကြားရသည်။

သို့အတွက် ဝန်ကြီးများ အစည်းအဝေးတွင် ဂျပန်တွေ ဘယ်နေ့ဆုတ်မည်ကို ဂျပန်စစ်တပ်က အတိအလင်း ထုတ်ဖော်ပြောဆိုရန် ဝန်ကြီးများက တောင်းဆို၏။

ထို့ကြောင့် သခင်မြနှင့် သခင်ထွန်းအောင်တို့ကို ဤကိစ္စကို ဂျပန်စစ်တပ်မှ စုံစမ်းရန် တာဝန်လွှဲခဲ့ကြရသေးသည်။

ထိုဝန်ကြီးများက အထက်ပါအကြောင်းများကို ပြောပြပြီး ထိုအကြောင်းများကြောင့် ဂျပန်စစ်တပ်ဆုတ်တော့မည်ဟု ယူဆကြောင်းကို ပြောပြသည့်တိုင်အောင် ဤဌာနကို ဘန်ကောက်သို့ရွှေ့သည်မှာ အလုပ်လုပ်ရလွယ်ခြင်း အတွက်သာ ဖြစ်သည်။

ဂျပန်များ မဆုတ်သေးပါဟု ဖြောင်လိမ်၍ လွှတ်လိုက်ကြပြန်သည်။

သို့နှင့်ပင် ဧပြီလ ၂၂ ရက်နေ့သို့ ရောက်လာခဲ့လေ၏။

နောက်တစ်နေ့ ဧပြီလ ၂၃ ရက်နေ့တွင် ဗမာအစိုးရကို ရန်ကုန်မှ ပြောင်းရွှေ့ရန် အကြောင်းကို ဂျပန်စစ်တပ်မှ ပြောပြလေသည်။

အစပထမတွင် ဦးထွန်းအောင်၊ ဗန္ဓုလ ဦးစိန်၊ ဦးလှဖေနှင့် ကျွန်တော်တို့သာ အဓိပတိနှင့် လိုက်မည့်လူများ ရှိကြသည်။

အခြားဝန်ကြီးများက မလိုက်လိုဟု ငြင်းဆိုကြသည်။

သခင်မြနှင့် သခင်လွန်းဘော်တို့သည် ၂၂ ရက်နေ့ နေ့လယ်စည်းဝေးစဉ်က ရန်ကုန်တွင် နေရစ်မည်ဟု ပြောပြီးမှ ၎င်းနေ့ညဘက်တွင် သခင်မြအိမ်၌ ချမှတ်သော ဆုံးဖြတ်ချက်ကြောင့် မော်လမြိုင်သို့ အဓိပတိနှင့် လိုက်မည်ဟု ၂၃ ရက်နေ့ နံနက်စောစောတွင် စကားထပ်၍ ပြင်ရလေသည်။

ထို့နေ့တွင် မော်လမြိုင်သို့လိုက်ကြမည့်သူများမှာ အထုပ်အပိုးများ ပြင်ဆင်လျက်ရှိကြ၏။

သခင်မြ၊ ကျော်ငြိမ်း၊ လှမောင်နှင့် ကျွန်တော်တို့မှာ ကျွန်တော်တို့၏ လုပ်ငန်းကို စ၍ လုပ်ကြရလေ၏။

ထိုလုပ်ငန်းမှာ အခြားမဟုတ်၊ ဂျပန်စစ်ပုလိပ်တို့ ဖမ်းဆီးထားသော ကေဘိုထိုင် ဗိုလ်ချုပ်ဘဆွေနှင့် တင်ညွန့်တို့ကို လွှတ်ပေးရန် ကိစ္စပင် ဖြစ်လေ၏။

ဤကိစ္စနှင့် ပတ်သက်၍ ကျွန်တော်တို့သည် အဓိပတိထံသို့ ပြေးရ၏။

အဓိပတိသည် ဗိုလ်ရန်နိုင်ကို ခေါ်ပြီးလျှင် ဗိုလ်ရန်နိုင်နှင့် ဂျပန် စစ်တပ်က တွဲထားသော လက်ဖတင်နင် ဆိုက်တိုးတို့ကို မေဂျာဂျင်နရယ် အီချိဒါးနှင့် စစ်ပုလိပ်ဌာနချုပ်သို့ လွှတ်ရ၏။

ထိုအတွင်း ကျော်ငြိမ်းနှင့် လှမောင်တို့က ကာနယ်ဟီရာအိုကား အိမ်သို့ ရောက်သွားရာ ထိုအိမ်သို့ မကြာမီ အီချိဒါးလည်း ရောက်လာ လေ၏။

ဟီရာအိုကားနှင့် အီချိဒါးတို့လည်း ဘဆွေနှင့် တင်ညွန့်အကြောင်း ကို ဆွေးနွေးရာတွင် 'ဆိုးတယ်၊ ဆိုးတယ်' ဟူသော စကားများ အီချိဒါး၏ ပါးစပ်မှ မကြာခဏ ထွက်လာသည်ကို ဂျပန်စကား အနည်းငယ် နားလည် သော လှမောင်က ကြားရလေသည်။

ထို့ကြောင့် သူတို့လည်း ထိတ်လန့်တကြားဖြစ်ကာ သခင်မြနှင့် ကျွန်တော်တို့ထံသို့ ပြေးလာပြီး 'အေးမနေပါနဲ့၊ ဆိုးတယ် ဆိုးတယ် ဆိုတဲ့ စကားကို အီချိဒါး ပြောတာ ကျုပ်တို့ကိုယ်တိုင် ကြားခဲ့ရတယ်'ဟု ပြောပြီး ပြာပြာသလဲ ဖြစ်နေကြလေ၏။

ထို့ကြောင့် သခင်မြနှင့် ကျွန်တော်တို့လည်း အဓိပတိထံသို့ တစ်ခေါက် ထပ်သွားပြီး အကျိုးအကြောင်းကို ပြောပြရလေသည်။

အဓိပတိလည်း ဗိုလ်ရန်နိုင်ကို ခေါ်မေးသောအခါ တစ်ရက်နှစ်ရက်အတွင်း လွှတ်လိုက်ပါမယ်လို့ စစ်ပုလိပ်ရုံးက သေသေချာချာ ကတိပေးလိုက်သည်ဆိုမှ ကျွန်တော်တို့လည်း စိတ်အေးသွားလေသည်။

ထိုနေ့ညနေ ခြောက်နာရီလောက်ကတည်းက ကုက္ကိုင်းလမ်းနှင့် ဂွတ္တလစ်လမ်းရှိ အရှေ့ပိုင်း စစ်ပုလိပ်ရုံးဝင်းတွင်း ကျွန်တော်တို့ သွားရောက်စုဝေးနေကြရသည်။ ည ကိုးနာရီလောက်မှစ၍ ထွက်ဖြစ်သည်။

ကျွန်တော်တို့ထွက်သွား၍ တစ်နာရီလောက်အကြာတွင် အင်္ဂလိပ်လေယာဉ်ပျံတစ်စင်း ပေါက်လာပြီး စစ်ပုလိပ်ရုံးနားတွင် စက်သေနတ်နှင့်ပစ်သေးသည်ဟု နှစ်ရက်လောက်အကြာတွင် အသိဂျပန်များနှင့် တွေ့ကြသည့်အခါ သူတို့ထံမှ သိရလေသည်။

ကျွန်တော်တို့ စီးရမည့် မော်တော်ကားများသည် ဂျပန်စစ်တပ်က ဂျပန်ကုန်သည်များထံမှ အတင်းဆွဲသိမ်းလိုက်သော ချိုကျိုး နားရွက်ပဲ့ကားများ ဖြစ်ကြသည်။

ထို့ကြောင့် အချို့ကားများသည် မင်္ဂလာဒုံလောက်တွင် စက်ပျက်လိုပျက် ဘီးပေါက်လိုပေါက်နှင့် ဖြစ်ကုန်ကြလေသည်။

ကျွန်တော်တို့၏ကားသည် ပဲခူးနှင့် သုံးမိုင်ကွာအရပ်တွင် ဘီးပေါက်သွားလေသည်။

လဲစရာ ဘီးပိုလည်း တစ်ခုမျှမပါသောကြောင့် ဘယ့်နှယ်မှ မလုပ်တတ်တော့ဘဲ လမ်းဘေးရှိ တဲကလေးတစ်ခုတွင် ဝင်၍ အိပ်ကြရလေသည်။

နံနက်လင်းသောအခါ ဦးထွန်းအောင်နှင့် ဦးစိန်တို့၏ လော်ရီကားပေါက်၍ လာသဖြင့် သူတို့၏ကားနှင့် ပဲခူးသို့ ဆက်ခဲ့ရလေသည်။

ကားမောင်းသမားများအား ကားပိုင်ရှင် ဂျပန်များက ဘယ်သွားမည်၊ ဘယ်လာမည်ကို ဘာမျှ မပြောလိုက်သဖြင့် ဘယ်သူမျှ အိမ်သူအိမ်သားများကိုပင် နှုတ်မဆက်ခဲ့ရပေ။

ကျွန်တော်စီးသောကား၏ ဒရိုင်ဘာမှာမူ ဝတ်စရာဆို၍ စွပ်ကျယ်အင်္ကျီကလေး တစ်ထည်သာ ပါလေသည်။

သူလည်း စိတ်မချမ်းသာသည့်အကြောင်းကို ကျွန်တော့်အား ပြောပြပြီးလျှင် သူ့ကို ကူညီရန် ပြောလေသည်။

'ခင်ဗျား နေရစ်ခဲ့ရအောင် ခင်ဗျားတတ်တဲ့နည်းနဲ့ ခင်ဗျား ကြိုးစားပါလား၊ ကျုပ်တို့အတွက်တော့ ဘာမှမပူနဲ့၊ ခင်ဗျား ကားကို မစီးရလဲ စစ်တပ်က ကားတစ်ကားကို ရှာပြီး ကျုပ်တို့ကို ခေါ်ရမှာပဲ'

ဟု ကျွန်တော်လည်း ပြန်ပြောပြလေ၏။

ပဲခူးသို့ ဧပြီလ ၂၃ ရက်နေ့ နံနက် ခုနစ်နာရီလောက်မှ ရောက်သွားသည်။

ကျွန်တော်တို့လည်း ဦးစိန်၏အသိ ပဲခူး မြို့အုပ်တစ်ယောက်နှင့်တွေ့၍ သူ့အိမ်၌ ခေတ္တတည်းခိုနေကြသည်။

နံနက် ကိုးနာရီလောက်တွင် လေယာဉ်ပျံ နှစ်စင်း၏ အသံကိုကြားရလေ၏။

အိမ်ရှင်များကလည်း သူတို့ နေ့တိုင်းလာနေကျပါဟုပြောနေစဉ်စက်သေနတ်နှင့် အောက်သို့ ထိုးပစ်သံတွေကြားရ၏။

လေယာဉ်ပျံများက သုံးလေးပတ်လောက် ဆက်ပြီးပစ်သောအခါအောက်တွင်ပုန်းနေသော ဂျပန်စစ်သားများကလည်း ပြန်၍ပစ်ကြလေ၏။

လေယာဉ်ပျံများကလည်း တစ်နာရီလောက် လှည့်၍ပစ်ပြီးနောက်ပြန်သွားကြလေ၏။

ကျွန်တော်တို့ တည်းသောအိမ်တွင် အိမ်ရှေ့၌ ဗုံးခိုကျင်းတစ်ခုရှိသည်။

ကျင်းက သေးပြီး လူက များနေသောကြောင့် အချို့မှာ အိမ်ထဲတွင် ငုတ်တုတ်ထိုင်နေကြရသည်။

နောက်တစ်နာရီလောက်ရှိသောအခါ လေယာဉ်ပျံ ခြောက်စင်း ထပ်၍ လာပြန်သည်။

ဤအကြိမ်တွင် အောက်က ဂျပန်စစ်သားများကလည်း မီးကုန်ယမ်းကုန် ခံ၍ ပစ်ကြသည်။

ကျွန်တော်တို့တည်းခိုနေသောအိမ်မှာ အကြီးအကျယ်ခံပစ်နေသော စစ်တပ်များရှိရာနှင့် လမ်းတစ်လမ်းသာ ခြားလျက် ရှိလေသည်။

လေယာဉ်ပျံများသည် ဝဲနေပြီး စိန်ပြေးတမ်းကစားသလို တစ်စင်းနောက် တစ်စင်း ထိုး၍ပစ်လေသည်။

ဒုတ် ဒုတ် ဒုတ် ဒုတ် ဟု လေယာဉ်ပျံက ပစ်လိုက်ပြီး၊ မြေကတုတ်ထဲမှလည်း ဖောက် ဖောက် ဖောက် ဖောက် ဟု ပြန်၍ ပစ်လေသည်။

ဒုတ် ဒုတ် ဒုတ်၊ ဖောက် ဖောက် ဖောက် ဆိုသော ပစ်သံများမှာ ကျွန်တော်တို့နှင့် ကိုက် ၂၀၀ လောက်သာ ဝေးသဖြင့် နားပွင့်လုမတတ် ရှိလေသည်။

တစ်ခါတစ်ခါလည်း လေယာဉ်ပျံက၊ တစ်ခါတစ်ခါလည်း မြေကတုတ်က လက်မြန်သည့်သူက အရင်စ၍ ပစ်ကြသည်။

တစ်ခါတစ်ခါ ဒုတ် ဒုတ် ဒုတ်၊ ဖောက် ဖောက် ဖောက်၊ ဒုတ် ဒုတ် ဒုတ်၊ ဖောက် ဖောက် ဖောက်နှင့် အပေါ်နှင့်အောက် မိနစ်ဝက်ခန့် ဆိုင်ပြီး ပစ်နေ ကြသည်မှာ အားရစရာကြီးပင် ဖြစ်တော့၏။

ဤကဲ့သို့ ပစ်နေရာမှ ဘာတွေကို တွေ့သည်မသိ၊ တစ်ချက် တစ်ချက် ဗုံးကြဲချတတ်ပေသေး၏။

ဗုံးကြဲသည့်နေရာနှင့် ကျွန်တော်တို့မှာ မည်မျှနီးသနည်းဆိုသော် ဗုံးကြဲလိုက်တိုင်း ကျွန်တော်တို့၏ ဗုံးခိုကျင်းကလေးမှာ သွက်သွက်ခါအောင် တုန်လှုပ်ရုံမျှမက ဗုံးအရှိန်ကြောင့် စင်လွင့်သွားသော ဖုန်များ မြေမှုန့်များသည် ကျွန်တော်တို့၏ကျင်းထဲသို့ စင်၍ ဝင်လာကြလေသည်။

ဒုတိယအကြိမ် လေယာဉ်ပျံများလာကြပြီးသောအခါ မော်တော်ကား တစ်စင်းထဲရှိသဖြင့် မိန်းမများနှင့် ကလေးများကို ပဲခူးမှ နှစ်မိုင်ကွာ အရပ်သို့ ပို့ထားလိုက်ရသည်။

ထိုနေ့က ညနေ ငါးနာရီခွဲလောက်အထိ လေယာဉ်ပျံများသည် ပဲခူးသို့ အကြိမ်ပေါင်း ငါးကြိမ် စက်သေနတ်နှင့်ပစ်ပြီး ဗုံးကြဲသွားလေသည်။

ညနေ ခြောက်နာရီလောက်တွင် ဗုံးဒဏ်ကြောင့် မီးလောင်နေကြသည်မှာ ကျွန်တော်တို့၏ ပတ်ဝန်းကျင်တွင် ထိန်ထိန်လင်းလျက်ရှိလေ၏။

ထိုအထဲတွင် ယမ်းတိုက်များကို ဗုံးထိ၍လားမသိ၊ တဒိန်းဒိန်းနှင့် ပေါက်ကွဲသံများသည် ဆူညံလျက်ရှိတော့၏။

ကျွန်တော်တို့လည်း ညဘက်တွင် အမှောင်ခို၍ ခရီးဆက်ထွက်ရတော့မည်။ ကိုယ်ပိုင်မော်တော်ကား တစ်စီးမျှ မရှိသေး။

ကျွန်တော်စီးလာသောကား၏ ဒရိုင်ဘာကလည်း သူ့ကားမှာ စက်ပျက်နေပြီဖြစ်၍ ဆက်ပြီး မထွက်နိုင်ဟု ပြောလေပြီ။

ထို့ကြောင့် ကျွန်တော်တို့ကို စောင့်ရှောက်ရန် ထည့်လိုက်သော ဂျပန်စစ်သားများ၏ ဗိုလ်ဖြစ်သူ လက်ဖတင်နင် မော်ရီသည် တွေ့သမျှသော စစ်လော်ရီတို့ကို ဖမ်းရပ်ပြီး ကျွန်တော်တို့အတွက် စီစဉ်ရလေသည်။

နောက်ဆုံးတွင် စစ်သား လေးငါးယောက်ပါသော လော်ရီတစ်စင်းကိုတွေ့၍ ထိုအထဲသို့ ဒေါက်တာဘဟန်နှင့် မိသားတစ်စု၊ ဦးထွန်းအောင်နှင့် မိသားတစ်စုနှင့် ကျွန်တော်တို့ မိသားတစ်စုကို ထိုလော်ရီထဲသို့ အတင်းထိုးထည့်လိုက်လေသည်။

လက်ဖတင်နှင် မော်ရီလည်း အရက်အလွန် မူးနေပြီဖြစ်သဖြင့် ကျွန်တော်တို့လည်း သူ့ကို ဘာမှပြော၍မှ မရချေ။ သူထည့်ပေးသလိုသာ ငါးပိ ငါးချဉ်တွေ သိပ်သလို စီးလိုက်သွားကြရ၏။

ကျွန်တော်တို့စီးသောကားထဲတွင် ပစ္စည်းများတင်စရာ နေရာမရှိ၍ ဒေါက်တာဘဟန်၊ ဦးထွန်းအောင် ဦးစိန်နှင့် ကျွန်တော်တို့ ယူလာသမျှ ပစ္စည်းတွေကို ဖြစ်ချင်ရာ ဖြစ်ပစေတော့ဆိုပြီး ကျွန်တော့်တပည့် တစ်ယောက် ဦးစိန်၏ တပည့်တစ်ယောက်အား အစောင့်ထားခဲ့၍ ကျွန်တော်တို့ ထွက်ခဲ့ရလေသည်။

ဤပစ္စည်းများကို ခွဲထားသည့် အချိန်မှစ၍ ယခုတိုင် ဘာတစ်ခုမျှ မမြင်ကြရတော့ချေ။

ကျွန်တော်တို့စီးလာသော ကားသည် လေးလွန်း၍လားမသိ၊ ကိုက်သုံးရာလောက် မောင်းပြီးသောအခါ ဘီးပေါက်သွားလေသည်။

အရက်မူးနေသော မော်ရီလည်း ဘီးပေါက်လျက်နှင့် အမောင်းခိုင်းရာ မိုင်ဝက်လောက်သွားမိသောအခါ တာယာများ ပြတ်ထွက်ပြီး သံခွေသာကျန်တော့၍ မောင်းမဖြစ်တော့မှ ရပ်စေပြီးလျှင် နောက် လော်ရီတစ်စင်းထဲသို့ ကျွန်တော်တို့ကို ထိုးထည့်ပြန်လေ၏။

ကျွန်တော်တို့လည်း ဝေါသို့ ထိုနေ့ည ၁၂ နာရီလောက်မှ ရောက်သွားသည်။ မော်တော်ကားများလည်း ထိုနေရာတွင် ကျပ်တောက်ပြီး ရှေ့ဆက်ထွက်၍ မရတော့ပေ။

ထို့ကြောင့် ကျွန်တော်တို့သည် ကားပေါ်မှဆင်းပြီး မော်တော်ကားများနှင့် မိုင်ဝက်လောက်ဝေးသည့် နေရာတွင်ရှိသော တဲကလေးများတွင် ခေတ္တအမောဖြေရင်း အိပ်ကြရလေသည်။

သန်းခေါင်ကျော် တစ်ချက်တီးလောက်ရှိသောအခါ 'ဒိုင်း' ဟူသော ပေါက်ကွဲသံကြီးတစ်ခုကို ကြားသဖြင့် လန့်နိုးကြပြီး ဝေါမှ အဗျားဘူတာသို့ မီးရထားလမ်းပေါ်မှ ဆက်၍လျှောက်ကြရပြန်သည်။

သန်းခေါင်ကျော် နှစ်ချက်တီးလောက်မှ တဖြည်းဖြည်း နား၍ လျှောက်ကြရာ အဗျားဘူတာအနီးရှိ ချောင်းကလေးသို့ နံနက် ခုနစ်နာရီလောက်မှ ရောက်ကြလေသည်။

ကျွန်တော်လည်း ဖောင်ကလေးဖြင့် တစ်ဖက်ကမ်းသို့ ကူး၍ ရောက်ခါစသာရှိသေးသည်။ လေယာဉ်ပျံနှစ်စင်း ပေါက်လာကြလေ၏။

ကျွန်တော်တို့လည်း အနီးအနားရှိ ချုံပုတ်ထဲသို့ အတင်းဝင်၍ ပုန်းရလေသည်။

ထိုအနီးအနားရှိ ဂျပန် မိုက်ကန်ကန်းအချို့က လေယာဉ်ပျံကို စက်သေနတ်နှင့်ပစ်ရန် ပြင်ဆင်ကြရာ ကျွန်တော်တို့ စစ်ပုလိပ်ကို လွှတ်ပြီး တားခိုင်းရသည်။

တားမရ၍ ပစ်လိုက်ပါမူ ကျွန်တော်တို့အားလုံး စိစိညက်ညက် ဖြစ်သွားမည်မှာ မလွဲချေ။

အဓိပတိ၊ သခင်မြ၊ သခင်လွန်းဘော်၊ ဦးစိန် နှင့် ဦးလှဖေတို့ လူစုမှာ ဘယ်နေရာသို့ ရောက်နေမှန်း ကျွန်တော်တို့ မသိတော့ချေ။ ပဲခူးသို့ မရောက်မီကတည်းက လူချင်းကွဲသွားကြလေသည်။

လေယာဉ်ပျံ နှစ်စင်းသည် ဝေါတွင် ကျပ်တောင့်နေသော မော်တော်ကားများကို အားရပါးရ တစ်နာရီကျော်ကျော်လောက် လှည့်ပစ်လျက် ရှိလေသည်။

ကျွန်တော်တို့လည်း ထိုနေ့အဖို့ အနီးရှိ ယာယီဘုန်းကြီးကျောင်း ကလေး၌ ဝင်၍ နားကြရသည်။

ကိုယ်တော်များသည် အဗျားဘူတာ အနီးရှိ တောရကျောင်းမှ ဘုန်းကြီးများ ဖြစ်သည်။

ထိုကိုယ်တော်များ၏ကျောင်းကို ဂျပန်များ တက်၍နေသဖြင့် ထိုနေရာသို့ ရွှေ့ပြောင်းလာပြီး သက်ကယ်မိုး သက်ကယ်ကာ ယာယီကျောင်း ကလေးကို ဆောက်၍ သီတင်းသုံးနေကြခြင်း ဖြစ်လေသည်။

ကျွန်တော်တို့လည်း ကျွန်တော်တို့၏ အဖြစ်အမှန်ကို ကွယ်ဝှက်ထားရန် ကြံပါသေးသည်။

သို့သော်လည်း ဘုန်းကြီးများက ကျွန်တော်တို့အား သိနှင့်နေသည်နှင့် ကျွန်တော်တို့ အကြံကို လက်လျှော့လိုက်ရသည်။

ညနေ သုံးနာရီလောက်တွင် မိုးကလေးတဖွဲဖွဲ ရွာနေလျက်ရှိ၏။

'ဒီလို မိုးရွာနေလျှင် လေယာဉ်ပျံမလာဘူး'ဟု ပြောနေစဉ် လေယာဉ်ပျံ နှစ်စင်း ပေါက်လာလေ၏။

၎င်းတို့မှာ ကျွန်တော်တို့တည်းနေသော ဘုန်းကြီးကျောင်းပေါ်မှ ခပ်နိမ့်နိမ့်ကလေးပျံပြီး ကျွန်တော်တို့နှင့် မနီးမဝေးရှိ ဂျပန်များနှင့် သူ့တို့၏ မော်တော်ကားများကို လိုက်လံပစ်ခတ်လျက်ရှိကြ၏။

ကျွန်တော်တို့၏ ဘုန်းကြီးကျောင်းထဲတွင်လည်း ဂျပန်စစ်သားများ ရှိကြသည်။ သူတို့ကလည်း ဂနာမငြိမ်ဘဲ ထလိုက် ထိုင်လိုက် လုပ်နေသဖြင့် သူတို့ကို အော်ရ ငေါက်ရသည်မှာလည်း အမောပင်။

သူတို့သည် ရဲသည်လည်း မဟုတ်။ အလွန့်အလွန် အ ခြင်းပင် ဖြစ်လေသည်။

လေယာဉ်ပျံကို သူတို့လောက် ကြောက်သည်လည်း မရှိ။ သို့သော် လည်း လေယာဉ်ပျံလာလျှင် ဘေးလွတ်အောင်လည်း မနေတတ်။

ထိုနေ့က လေယာဉ်ပျံနှစ်စင်းလည်း ကျွန်တော်တို့၏ ဘုန်းကြီး ကျောင်းကလေးကို ဘေးက လှည့်ကြည့်လိုက် ရှေ့ကလှည့်ကြည့်လိုက်နှင့် မသက်ာ၍ အကြိမ်ပေါင်းများစွာ လှည့်ပတ်ကြည့်သေးသည်။

ထိုအတောအတွင်း ဂျပန်တွေကလည်း ဂနာမငြိမ်သဖြင့် ဦးထွန်း အောင်ကလည်း စိတ်တိုလာပြီးလျှင် ဖြစ်ချင်ရာ ဖြစ်ပစေတော့ကွာဟု ပြော၍ ဂျပန်တွေကို မအော်တော့ဘဲ ထိုင်နေလိုက်လေ၏။

ထိုအတွင်း ရွာထဲမှ ဂျပန် နှစ်ယောက် သေနတ်ကြီးတွေလွယ်ပြီး ဘုန်းကြီးကျောင်းဘက်သို့ ထွက်လာလိုက်သေးသည်။

ဒီကောင်တွေဟာ ဘယ်လောက် ထူပူထိုင်းမှိုင်းသည်ကို ပြော၍မယုံ ကြုံဖူးမှ သိနိုင်သည်။

လေယာဉ်ပျံသံများကလည်း မပျောက်သေး။ ဘုန်းကြီးကျောင်းထဲက ဂျပန်တွေက ဝိုင်း၍ အော်လိုက်မှ ရွာထဲသို့ ပြန်ဝင်ပြေးကြသည်။

ဘုန်းကြီးကျောင်းမှာ အမိုးသာရှိသည်။ အကာမရှိ။ ဟာလာ ဟင်းလင်းကြီးဖြစ်နေ၍ ကျောင်းရှေ့နှင့် ဘေးမှ လေယာဉ်ပျံ နိမ့်နိမ့်ပျံလျှင် အတွင်းရှိ လူများအားလုံးကို ကောင်းစွာ မြင်နိုင်သည်။

ထိုနေ့က အကြိမ်ကြိမ်ကြည့်ပြီး ပစ်မသွားသည်မှာ ကျွန်တော်တို့ လူစုထဲမှ မိန်းမများ ထိုင်နေသည်ကို မြင်သွားသဖြင့်သာ မပစ်ခြင်း ဖြစ်တန်ရာသည်ဟု တွေးရ၏။

ထိုည ကိုးနာရီလောက်တွင် မီးရထားလမ်းပေါ်၌ ပြေးသော ထရော်လီ မော်တော်ကားကလေးကို စီးကြရ၏။

ထိုမော်တော်ကားမှာ ကျွန်တော်တို့လူစုအတွက် သတ်သတ်ဖြစ်သည်။ လက်တွင် ဒဏ်ရာကြီးနှင့် ဂျပန်စစ်သားတစ်ယောက် အတင်းတက်လာရာ ပထမတွင် စကားနှင့် နှင်ချသေးသည်။ စကားနှင့် နှင်၍မရသောအခါ အတင်း ကလော်၍ ချလိုက်ရာ ထရော်လီပေါ်မှ မီးရထားလမ်းဘေးရှိ မြေနိမ့်ချိုင့်အထိ ဒလိမ့်ခေါက်ကွေးနှင့် ကျသွားရှာလေ၏။

ပဲခူးက အထွက်တွင်လည်း ခြေကျိုးနေသော စစ်သားတစ်ဦး ကျွန်တော်တို့၏ ကားပေါ်သို့ အတင်းတက်လာရာ ကလော်ချခဲ့သည်။ အကျနာသွား၍လားမသိ။ ကျသည့်နေရာတွင် ပုံ၍ နေလေသည်။

ဂျပန်ဆိုတဲ့လူတွေဟာ သူတို့၏ ဦးနှောက်ထဲမှာ စဉ်းစားနိုင်တဲ့ လမ်းတစ်လမ်းထဲသာ ရှိလေသည်။

ဒီလူတွေကို တင်ရမည်ဆိုလျှင် အခြားတစ်ယောက်ယောက်ကို တင်ရန် တွေး၍ မရတော့ပေ။

ထရော်လီကားနှင့်သွား၍ တစ်နာရီလောက်ရှိသောအခါ ကျွန်တော်တို့ကားဆီသို့ သေနတ်နှင့် ပစ်လိုက်သံ တစ်ချက် ကြားရ၏။

'ဘီဒီအေတွေပစ်တယ်' ဟု ဂျပန်များကပြောသဖြင့် ကျွန်တော်တို့လည်း ကားပေါ်မှ အတင်းခုန်ချကြရလေသည်။

ဂျပန်တို့လည်း လူစုခွဲပြီးလျှင် မီးရထားလမ်းကို မြေကတုတ်လုပ်၍ နာရီဝက်လောက် ပစ်ခတ်ကြသေးသည်။

ကျွန်တော်၏သားဖြစ်သူ ငါးနှစ်သားအရွယ် မောင်သောင်းထိုက်မှာ ဤသို့ သေနတ်သံတွေ တဒိန်းဒိန်းနှင့် ပစ်နေကြစဉ် ကြောက်လွန်း၍ ကျွန်တော့်ကို တအားဖက်ထားသည်။

သို့ရာတွင် ပစ်ပြီး၍ ကားပေါ်သို့ပြန်တက်သောအခါ 'ဖေဖေရယ် နောက်ဆိုရင် ဆင်းမပြေးပါနဲ့တော့ ဘာကြောက်စရာ ရှိသလဲ' ဟု ကြီးကြီး

ကျယ်ကျယ် စကားပြောသဖြင့် အရေးထဲတွင် ကျွန်တော်တို့ ရယ်ကြရသေးသည်။

စစ်တောင်းမြစ်ကမ်းနှင့် ခုနစ်မိုင်လောက်ရှိသောအခါ ကျွန်တော်တို့စီးလာသော ထရော်လီကားမှာ ရှေ့သို့ ဆက်၍ မသွားနိုင်တော့ချေ။ ထို့ကြောင့် ဆင်း၍ လျှောက်ကြရပြန်သည်။

တစ်လမ်းလုံးတွင် စစ်တောင်းမြစ်ကမ်းပါးအထိ စစ်လော်ရီကားများသည် ကျပ်တောက်၍နေလေသည်။

စစ်တောင်းမြစ်ကမ်းပါးသို့ရောက်၍ မကြာမီ ကျွန်တော်တို့လည်း တစ်ဖက်ကမ်းသို့ မော်တော်ဖောင်ဖြင့် ကူးခွင့်ရလေသည်။

ထိုညကသာ ထိုနေရာသို့ အင်္ဂလိပ်လေယာဉ်ပျံ လေးစင်းလောက်ရောက်လာလျှင် သေလိုက်ကြရမည့် ဂျပန်တွေ အတုံးအရုံးပင် ဖြစ်တော့မည်။

စစ်တောင်းမြစ်ကို ဖြတ်ကူးနေရသည့် ၁၅ မိနစ်လောက်အတွင်း အသက်ကိုလက်ကဲမှာ ဆုပ်ထားပြီး ဘုရားကိုသာ တနေကြရ၏။

လေယာဉ်ပျံ တစ်စင်းထဲသာ လာလိုက်လျှင်လည်း ကျွန်တော်တို့မှာ စိစီမွမွ ဖြစ်ကုန်မည်မှာ မလွဲပေ။

စစ်တောင်းကမ်းပါးတစ်ဝိုက်တွင် ပြေးစရာလည်း မြေမရှိ၊ ပုန်းစရာလည်း တွင်းမရှိ၊ လေယာဉ်ပျံကို ခံပစ်စရာလည်း အမြောက်မရှိ၊ စစ်သားများကို လက်ပစ်ဗုံး တစ်လုံးစီ ပေးထားသည်။

အကယ်၍ လေယာဉ်ပျံက စက်သေနတ်နှင့်ပစ်၍သော် လည်းကောင်း၊ ဗုံးကြဲ၍သော်လည်းကောင်း၊ ဒုက္ခရာအနာတရဖြစ်လျှင် ဝေဒနာကို ကြာရှည်မခံဘဲ ကိုယ့်ကိုယ်ကိုယ် လက်ပစ်ဗုံးနှင့် ပစ်သတ်လိုက်ရန်ဖြစ်၏။ တယ်တော်တဲ့ အစီအစဉ်ပေပဲ။

ဂျပန်တွေ တပ်ဆုတ်ဖို့အတွက် ဂျပန်စစ်သေနာပတိချုပ် ဂျင်နရယ်ကင်မူရာနှင့် သူ၏ စစ်ဦးစီး ဗိုလ်ချုပ် လက်ဖတင်နင် ဂျင်နရယ်တနာကာတို့မှာ အကြီးအကျယ် စကားများကြရသည်ဟု ဂျပန် သံအမတ်ထံမှ ကြားသိရလေသည်။

ဂျင်နရယ်ကင်မူရာက တပ်များကို စနစ်တကျ ဆုတ်နိုင်ရန် ခပ်စောစောကပင် ဆုတ်ဖို့ အကြံပေးသည်။

သို့ရာတွင် ဂျင်နရယ်တနာကာက ဆုတ်ဖို့မလိုဟု အတင်းငြင်းနေသည်။ ၂၂ ရက်နေ့သို့ ရောက်လာမှ ဂျင်နရယ် ကင်မူရာက တနာကာ၏ အမိန့်ကို ပယ်ဖျက်၍ အတင်းဆုတ်ခိုင်းရသည်။

သို့ကြောင့် စစ်တပ်များသည် ဖရိုဖရဲဖြစ်ပြီး မပျက်စီးသင့်ဘဲနှင့် ပျက်စီးကုန်ကြရသည်။

ဤသို့ ဖရိုဖရဲဆုတ်နေရသော စစ်တပ်ထဲသို့ ကျွန်တော်တို့ကို အတင်း ထည့်ပေးလိုက်ခြင်း ဖြစ်လေသည်။

အမိပတိသည် ဂျပန်သံအမတ်မှတစ်ဆင့် ဤသို့လုပ်ပုံကို အပြင်းအထန် ကန့်ကွက်သည်။

ဂျပန်သံအမတ်ကလည်း မော်လမြိုင်သို့ ရောက်လျှင် ရောက်ချင်း၊ ဤကိစ္စကို ဂျပန်အစိုးရ သိအောင် လုပ်ပါမည်ဟု ဝန်ခံသည်။

ဘယ်သူ့လက်ချက် စူးသွားသည် မသိ။ မကြာမီ တနာကာကို ဂျပန် အစိုးရက ပြန်ခေါ်၏။

သူ့နေရာတွင် လက်ဖတင်နင် ဂျင်နရယ် ရှိဒယ်အိ ဆိုသူ ပို့လိုက်လေသည်။

တနာကာလည်း ဂျပန်အစိုးရသို့ ထုချေလွှာပေးရန် ဂျပန်ပြည်သို့ အပြန်တွင် လမ်း၌ လေယာဉ်ပျံပျက်ကျသဖြင့် ဒဏ်ရာ အကြီးအကျယ် ရသွားသည်ဟု ဂျပန်သံအမတ်ထံမှ ကြားသိရလေသည်။

ထိုည သုံးနာရီလောက်တွင် စစ်တောင်းမြစ် တစ်ဘက်ကမ်းရှိ ဂျပန်တွေ နေရာချထားပေးသော အိမ်တစ်လုံးတွင် တည်းခိုကြရသည်။

နံနက် ငါးနာရီခွဲလောက်တွင် ဒိန်း ဟူသော ပေါက်ကွဲသံကြီးကြောင့် အားလုံး လန့်၍နိုးကြသည်။ ဂျပန်တွေလည်း အတော် ယောက်ယက်ခပ် သွားကြသည်။

မမျှော်လင့်ဘဲနှင့် ကျွန်တော်တို့တည်းနေသောအိမ်မှာ ဗိုလ်မှူးကြီး စောကြာဒိုးနှင့် သူ့ဇနီးတို့လည်း တည်းခိုနေကြကြောင်းကို မိုးလင်း သည်နှင့် တစ်ပြိုင်နက် သိရှိရလေ၏။

ကျွန်တော်လည်း သွား၍ တွေ့မည်လုပ်ရာ ဂျပန်စစ်ပုလိပ်များ အထင်မှားလိမ့်မည်ဟု ဦးထွန်းအောင်က အကြံပေးသည်နှင့် မတွေ့ခဲ့ရ ချေ။

လေယာဉ်ပျံ ရန်ကြောင့် ထိုနေ့ နံနက် ခြောက်နာရီ လောက်တွင် ကျွန်တော်တို့ကို မုပ္ပလင်ဘူတာနှင့် နှစ်မိုင်လောက်ဝေးသည့် တောစခန်း တစ်ခုသို့ ပို့ထားကြလေသည်။

ညနေ သုံးနာရီလောက်တွင် အုံး အုံး အုံး အုံး နှင့် လေယာဉ်ပျံသံ များကို ကြားရသည်။

လမ်းသလားနေသော ဂျပန်များကို တောအုပ်ထဲတွင်ဝင်၍ ပုန်းရန် အော်ရသည်မှာ အမောပင် ဖြစ်တော့၏။

ကျွန်တော်တို့နေရာတွင် ပုန်းစရာ ဗုံးခိုကျင်းကလေးတစ်ခုသာရှိ၏။

ဦးထွန်းအောင်နှင့် ဒေါက်တာဘဟန်တို့လူစုမှာ တဲကလေး တစ်တဲ ၏ အောက်ထပ်တွင် ထိုင်၍ နေကြရ၏။

ကျွန်တော့်မှာ သူတို့နှင့် ဆယ်ကိုက်လောက် ကွာသည့် နေရာရှိ အကာမရှိသော သက်ကယ်တဲကလေးတွင် မိနေလေ၏။

ခပ်စောစောက ဂျပန်စစ်သားတစ်ယောက်က လေယာဉ်ပျံတွေ လာလျှင် ကျွန်တော့်ကို မြင်သွားမယ်ဆိုပြီး သက်ကယ် သုံးလေးပစ်နှင့် အကာကလေး လုပ်ပေးထားလေသည်။

သေနတ်များကို လွယ်၍ လျှောက်လာကြသော ဂျပန်စစ်သား ဆယ်ယောက်ခန့်ကို ကျွန်တော်တို့က ပုန်းရန် အော်ပြောသေးသည်။

အော်၍မရ။ လူရဲကြီးတွေလုပ်ပြီး ရင်ကော့၍ လျှောက်သွားကြသည်။

လေယာဉ်ပျံ ခေါင်းပေါ်သို့ ရောက်ခါနီးမှ ကျွန်တော်တို့ဘက်သို့ အတင်းပြေးဝင်လာကြသည်။

လေယာဉ်ပျံသည် ကျွန်တော်တို့အပေါ်မှ ဖြတ်ပြီး နိမ့်နိမ့်ကလေး ပျံသွားသည်။

ထိုစစ်သား ဆယ်ယောက်ခန့်လည်း သူတို့ကို မြင်သွားပြီထင်ပြီး လမ်းတစ်ဘက်သို့ ကူးပြေးကြပြန်၏။

၎င်းတို့ကူးနေစဉ် နောက်ထပ် လေယာဉ်ပျံတစ်စင်း ရောက်လာပြန်သည်။ ကျွန်တော်တို့လည်း အသည်းတုန်၍သွားလေ၏။

နောက် လေယာဉ်ပျံတစ်စင်းသည် တောင်ဘက်မှ ကျွန်တော်တို့ဘက်သို့ ထိုး၍ ပျံလာသည်ကို သက်ကယ်ကြားမှ ကျွန်တော် မြင်လိုက်ရာ ပစ်ပြီဟု စိတ်နှလုံး ဒုံးဒုံးချလိုက်မိလေ၏။

ထိုညနေက လေယာဉ်ပျံ ၁၂ စင်းလောက် စစ်တောင်းတစ်ဘက်ကမ်းရှိ မော်တော်ကားများ မုပ္ပလင် ဘူတာရုံအတွင်းရှိ မီးရထားခေါင်းတွဲများကို နှစ်နာရီကြာမျှ အမျိုးမျိုး လှည့်၍ ပစ်လျက်ရှိကြသည်။

တစ်လမ်းလုံးတွင် ဤနေရာသည် အသည်းထိတ်စရာ အကောင်းဆုံး နေရာဖြစ်သည်။

ဂျပန်စစ်သားများ၏ ရဲသလိုလို ထူသလိုလို အ သလိုလို လူပါးမဝမှု ကြောင့် ကျွန်တော်တို့၏ တဲများတည့်တည့်ပေါ်မှ နိမ့်နိမ့်ကလေးဖြတ်ဖြတ်ပျံ နေသော လေယာဉ်ပျံတို့မှာ ကျွန်တော်တို့ကို မမြင်ချင်အဆုံး ဖြစ်လေသည်။

မုပ္ပလင် ဘူတာတစ်ဝိုက်ကိုပစ်သည့်အခါများ၌လည်း ကျွန်တော်တို့ တဲ၏ အနောက်ဘက် ကိုက်ငါးရာခန့်လောက်မှပစ်နေသည်ကို သက်ကယ် အကြားမှ အထင်းသား တွေ့နေရလေ၏။

လေယာဉ်ပျံတွေပတ်နေစဉ် ဂျပန် ကားတစ်စင်း စက်နှိုးသံကြား လိုက်ရပြီး မကြာမီ လေယာဉ်ပျံတစ်စင်း ရောက်လာ၍ ဒုတ် ဒုတ် ဒုတ် ဒုတ် ဟု ဆယ့်လေးငါးချက် ပစ်သံ ကြားလိုက်ရသည်။ နောက်ထပ် မော်တော်ကားသံကို မကြားရတော့ချေ။

ဤမျှ အဆင်ခြင်ကင်းသော ဂျပန်တွေတည်း။ သူတို့ အဆင်ခြင် ကင်းခြင်းက အရေးမကြီး၊ ကျွန်တော်တို့နှင့် ကိုက်သုံးရာလောက်သာ ကွာသဖြင့် ကျွန်တော်တို့မှာ အသက်ရှူများပင် မှားလျက်ရှိလေသည်။

လေယာဉ်ပျံများသွား၍ တစ်နာရီလောက်ကြာသောအခါ ကျွန်တော် တို့ ခရီးဆက်ထွက်ရန်အတွက် မုပ္ပလင်ဘူတာသို့ သွား၍ စီစဉ်နေသော လက်ဖတင်နင် မော်ရီသည် မျက်နှာမဲ့မဲ့နှင့် ပြန်လာလေသည်။

ကျွန်တော်တို့အတွက် စီစဉ်ထားသော မော်တော်ကားများမှာ စက်သေနတ်ဒဏ်ကြောင့် မီးလောင်သွားပြီဖြစ်ကြောင်း ကျွန်တော်တို့မှာ ထိုညအဖို့ ကုန်းကြောင်းသော် လည်းကောင်း၊ လှေနှင့်သော် လည်းကောင်း သွားရမည်ဖြစ်ကြောင်း၊

မိန်းမတွေနှင့် ကလေးတွေအတွက်ဆိုလျှင် ထရော်လီကားနှင့် စီစဉ် ပေးနိုင်၍ ယောကျ်ားများမှာ ထရော်လီနောက်က လမ်းလျှောက်လိုက် ရမည် ဖြစ်ကြောင်း အစရှိသည်တို့ကို ပြောပြလေသည်။

ဦးထွန်းအောင်နှင့် ဒေါက်တာဘဟန်တို့ကလည်း ကုန်းကြောင်းဆိုလျှင် ဘယ်နည်းနှင့်မှ မလိုက်ဘူးဟု စိတ်တိုတိုနှင့် ဂျပန်အား အော်ငေါက်လျက် ရှိလေသည်။

ကျွန်တော်လည်း ငုတ်တုတ်ကြီးထိုင်နေရာ ဦးထွန်းအောင်နှင့် ဒေါက်တာဘဟန်တို့က ဝင်ပြီးပြောရန် တိုက်တွန်းသေးသည်။

သို့ရာတွင် ဘာဖြစ်မှန်းမသိ။ စိတ်တွေ နောက်ကျိကျိဖြစ်ပြီး အားအင်ကုန်ခမ်းသလို ဖြစ်နေသောကြောင့် ခေါင်းခါ၍သာ ပြလိုက်သည်။

ည ရှစ်နာရီလောက်တွင်မှ ဒဏ်ရာရသော စစ်သားတွေတင်သည့် မီးရထားထဲတွင် ကျွန်တော်တို့ကို နေရာလုပ်ပေးသဖြင့် မုပ္ပလင်ဘူတာမှ မုတ္တမသို့ မီးရထားနှင့် ထွက်ခဲ့ကြလေသည်။

ထိုညအဖို့ ဘာမှမဖြစ်။ ဒုံဝန်းဘူတာသို့ရောက်သည့်အခါ မိုးလင်းနေပြီဖြစ်သဖြင့် တောင်ဝင်၍ ခိုကြရပြန်သည်။

ညနေ ခြောက်နာရီလောက်တွင် ဒုံဝန်းမှ ခရီးဆက်ထွက်ကြရသည်။

ရင်းငြိမ်ဘူတာ၌ ဆိုက်နေစဉ် မနီးမဝေးမှ စက်သေနတ်ပစ်သံကြားသဖြင့် ကျွန်တော်တို့ မီးရထားပေါ်မှ ဆင်းပြေးရသေးသည်။

ကျွန်တော်တို့တွဲထဲတွင် ခြေချစရာမရှိအောင် ပြည့်ကျပ်နေသဖြင့် ကလေး နှစ်ယောက်ကို ချီနေရသော ကျွန်တော်နှင့် ကျွန်တော်၏မိန်းမမှာ အမြဲတမ်း နောက်ဆုံးကျန်ရစ်၏။

ထိုရင်းငြိမ်ဘူတာတွင် မီးရထားတွဲပေါ်မှ ခုန်ချလိုက်ရာ မမြရီ၏ ခြေထောက် ပွတ်တိုင်လယ်သွားသဖြင့် မပြေးနိုင်တော့ချေ။

မီးရထားလမ်းနံဘေးရှိ တစ်ယောက်တွင်းထဲသို့သာ ခုန်ချရပြန်၏။ တွင်းထဲတွင်လည်း ဂျပန်နှစ်ယောက် ရှိနေပြန်၍ ကျွန်တော်တို့အားလုံး မတ်တပ်ရပ်နေကြရသည်။

အကယ်၍ ထိုအချိန်က လေယာဉ်ပျံသည် မီးရထားကိုမြင်၍ စက်သေနတ်နှင့် လာပစ်လျှင် ကျွန်တော်တို့ ဘယ်နည်းမှ မလွတ်နိုင်ချေ။

လေယာဉ်ပျံတစ်စင်းလည်း မီးရထားလမ်းဘေးရှိ မော်တော်ကားလမ်းပေါ်မှ ဖြတ်၍ ပျံသွားသည်။

သို့ရာတွင် မီးရထားတွဲများကို ဘူတာရုံတွင်းရှိ ကုက္ကိုပင်များက ဖုံးအုပ်ထားသဖြင့် လေယာဉ်ပျံ မမြင်ရချေ။

နာရီဝက်လောက်ကြာသော် ဘီးလင်းဘူတာသို့ ရင်းငြိမ်ဘူတာမှ တယ်လီဖုန်းနှင့်ဆက်၍ မေးရာ လေယာဉ်ပျံ ပြန်သွားပြီဟု သိရသည်။

ထို့ကြောင့် ကျွန်တော်တို့ မီးရထားလည်း ခရီးဆက်၍ ထွက်ခဲ့ရာ ရှေ့၌ရှိသော ကတွန်ဘူတာသို့ မရောက်မီ လမ်းတစ်ဝက်လောက်၌ ဒုတ် ဒုတ် ဒုတ် ဒုတ် ဆိုသော စက်သေနတ်သံကို ကြားလိုက်ရလေ၏။

စက်သေနတ်ကျည်ဆံသည် မီးရထားတွဲကိုထိ၍ မီးပွင့်သွားသည် တို့ကိုပင် ကျွန်တော်တို့ မြင်လိုက်ရသည်။ ကျွန်တော်တို့လည်း ငိုက်နေရာမှ ထ၍ ပြေးမည် လုပ်သေးသည်။

သို့သော်လည်း မီးရထားတွင် ဘရိတ်မပါသဖြင့် ရုတ်တရက် ရပ်၍ မရသေးသောကြောင့် မီးရထားပေါ်မှ ဆင်း၍ မဖြစ်ချေ။

လေယာဉ်ပျံလည်း တစ်ကြိမ် လှည့်လာပြီး ဒုတ် ဒုတ် ဒုတ် ဒုတ်နှင့် ပစ်ပြန်၏။ ဤအကြိမ်ကျမှ မီးရထားသည် အရှိန်အနည်းငယ်ပြေသဖြင့် ကျွန်တော်တို့၏ တွဲထဲရှိ လူများသည် ခုန်ဆင်း၍ ပြေးကြလေသည်။

ကျွန်တော်နှင့် မမြရီမှာ သားကြီးကို ကျွန်တော်ချီ၍ သားငယ်ကို သူချီထားရသဖြင့် ဤအကြိမ်တွင်လည်း နောက်ဆုံး ကျန်ရစ်ကြလေသည်။

မြေကြီးပေါ်သို့ရောက်လျှင် ရောက်ချင်း၊ ကျွန်တော်လည်း ကယောင်ကတမ်းဖြစ်ပြီး မမြရီကို မေ့နေ၍ ခြေဦးတည့်ရာသို့ စွတ်ပြေးသေးသည်။

လေယာဉ်ပျံ တစ်ပတ်လှည့်လာသံကြားမှ မမြရီကို လှည့်ကြည့်လိုက်ရာ မီးရထားအနီးတွင် ကလေးအငယ်ကိုချီပြီး ရပ်နေသည်ကို တွေ့ရလေသည်။

'မမြရီ မြန်မြန်လာ၊ မြန်မြန်လာ၊ လေယာဉ်ပျံလာနေပြီ'

ဟု ကျွန်တော် အော်ခေါ်လိုက်ရာ

'ခြေပွတ်တိုင်လယ်နေတယ်၊ လမ်းမလျှောက်နိုင်တော့ဘူး'

ဟု ပြန်ပြောလေ၏။

ထို့ကြောင့် ကျွန်တော်လည်း မမြရီထံသို့ ကုပျာကယာပြေးပြီး ကလေးအငယ်ကိုပါ ယူလိုက်၍ ကျွန်တော့်ခါးကို တွယ်လိုက်ရန် မမြရီကို ပြောရသည်။

ထို့နောက် ရှေ့ကနေပြီး မမြရီကို အတင်းဆွဲပြေးလေ၏။

လေယာဉ်ပျံလည်း မီးရထားခေါင်းတွဲနှင့် တည့်တည့်ရောက်၍ ပစ်မည်ရှိသောအခါ ကျွန်တော်တို့လည်း မြေကြီးပေါ်သို့ မှောက်ချလိုက်ရသည်။

ကံကောင်းထောက်မ၍ ကျွန်တော်တို့ မှောက်လိုက်သည့်နေရာမှာ ချိုင့်ကလေးဖြစ်၍နေလေသည်။

လေယာဉ်ပျံလည်း ခြောက်ပတ်လောက်လှည့်ပြီး ခေါင်းတွဲကိုပစ်သည်။ ကျည်ဆံအချို့သည် မီးရထားခေါင်းတွဲကိုမှန်ပြီး ကျွန်တော်တို့ဘက်သို့ ချော်လာရာ ကျွန်တော်တို့အပေါ်မှ ဝှီခနဲ ဝှီခနဲ မြည်ပြီး ဖြတ်၍ သွားသေးသည်။

ထိုအတွင်း ငိုအားထက် ရယ်အားသန် ဆိုသလို ရယ်ရသေး၏။

မီးရထားမောင်းသမားသည် အားလုံး ဆင်းပြေးသော်လည်း ဆင်းမပြေးဘဲ မီးရထားခေါင်းတွဲထဲ၌ ကျန်ရစ်သည်။

ရေနွေးအိုးကို မှန်သွားသည်ဆိုလျှင် လေယာဉ်ပျံ ပျံသွားမှာပဲ ဆိုသော ရည်ရွယ်ချက်ဖြင့် လေယာဉ်ပျံက ခေါင်းတွဲကို ပစ်လိုက်တိုင်း ရေနွေးငွေ့ တွေကို တရှုးရှုးမြည်နေအောင် မှုတ်ထုတ်လျက်ရှိလေသည်။

လေယာဉ်ပျံသမားကလည်း သူ့လောက်တော့ အ မည် မထင်။

ပစ်လိုက်သည့်အခါမှ ရေနွေးငွေ့ထွက်ပြီး လေယာဉ်ပျံ လွန်သွား လျှင် ရေနွေးငွေ့ ရပ်သွားသည်ကို မြင်ရသည့်အခါ စက်ထဲတွင် လူဝင်ပြီး တမင်တကာလုပ်နေမှန်း မသိဘဲ ရှိပါ့မလား။

သို့သော်လည်း ဉာဏ်ကြီးရှင်က လုပ်မြဲ လုပ်နေသဖြင့် ကျွန်တော် တို့လည်း ပုန်းနေသည့်နေရာမှ ရယ်လိုက်ကြရသေးသည်။

လေယာဉ်ပျံလည်း အားရအောင်ပစ်ပြီး၍ ပြန်သွားသောအခါမှ ကျွန်တော်တို့လည်း ဝပ်နေသည့်နေရာမှ ထကြပြီးလျှင် ကျွန်တော်တို့လူစု တွေကို လိုက်ရှာရလေ၏။

ကျွန်တော်တို့ စုမိကြ၍ အမောပြေမှ မပြေသေးမီ ဂျပန်တွေက လာတဲ့ပြီး ဆက်သွားမည်ဟု ပြောလေသည်။

ဦးထွန်းအောင်လည်း စိတ်အတော်ပျက်လျက်ရှိလေပြီ။ ဒီလောက် ရှိမှ မထူးဘူး၊ ဖြစ်ချင်ရာဖြစ် ဆိုသော သဘောနှင့် မီးရထားဆီသို့သွားရန် ထလိုက်လေ၏။

ကျွန်တော်။ 'ဦးထွန်းအောင် ဘယ်သွားမလို့လဲ'

ဦးထွန်းအောင်။ 'မီးရထားကိုလေ'

ကျွန်တော်။ 'ဒီလောက်တောင်ဖြစ်နေတာ ဘယ်ဆက်လိုက်လို့ ဖြစ်တော့မလဲ၊ ကျွန်တော်တော့ ဒီနေရာက တစ်ဖဝါးမှ မရွှေ့ဘူးလို့ သန္နိဋ္ဌာန်ချလိုက်ပြီ၊ ဒီဂျပန်တွေ သူတို့ဟာ သူတို့ သွားချင်ရာ သွားကြ ပေစေ'

ဒေါက်တာဘဟန်။ 'အေး၊ ဆရာလဲ မသွားဘူး'

ဦးထွန်းအောင်။ 'မိန်းမတွေနဲ့ ဒီလို လူပြတ်တဲ့နေရာမှာ နေလို့ ဖြစ်ပါ့မလား'

ကျွန်တော်။ 'ဒီနေရာတွေကို ကျွန်တော် ရောက်ဖူးတယ်၊ သခင်တွေလဲ ရှိတယ်၊ သူတို့ တစ်ယောက်ယောက်ကိုရှာပြီး တည်းရမှာပဲ၊ ရင်းငြိမ်မှာဆိုရင် ကျော်ငြိမ်းဆိုတာ ရှိတယ်၊ ကျွန်တော်တို့ ယစ်မျိုးဝန်ထောက် ခန့်လွှတ်လိုက်တာ၊ အခု ခွင့်နဲ့ ရင်းငြိမ်မှာ ပြန်နေတယ်လို့ ရန်ကုန်တုန်းက သိခဲ့တယ်၊ သူ့ကိုမေးပြီး သူ့အိမ်မှာပဲ တည်းမယ်'

မိန်းမဖော်များကလည်း ဘယ်နည်းနှင့်မဆို မီးရထားဖြင့် ရှေ့သို့ ဆက်မလိုက်လိုတော့ကြောင်းကို အတိအလင်း အပြင်းအထန် ဝိုင်း၍ ပြောကြပြီ။

ထို့ကြောင့် ကျွန်တော်တို့ နားနေသည့်နေရာနှင့် မနီးမဝေးနေရာတွင် ရွာသူရွာသား လေး ငါး ယောက် စုနေသည်ကို မြင်သဖြင့် ရင်းငြိမ်မှာရှိသော ကျော်ငြိမ်းအကြောင်းကို စုံစမ်းရလေသည်။

၎င်းတို့၏ ညွှန်ကြားချက်အရ ရင်းငြိမ်ကို ပြန်သွားသည်ထက် ကတွန်သို့သွားလျှင် ပို၍နီးမည်။ ကတွန်တွင်လည်း သခင်ကြန် ဆိုသူ ရှိသည်။ အကူအညီ အများကြီး ပေးနိုင်သည်ဟူသော သတင်းကို ရရှိခဲ့လေသည်။

ကျွန်တော်လည်း စက်သေနတ်ရန်ကို ကြောက်သောကြောင့်သာ ကလေး နှစ်ယောက်ကို ချီပြေးနိုင်သည်။ စက်သေနတ်ရန် ဝေးသွားသဖြင့် စိတ်လျှော့လိုက်သည့်အခါ လမ်းတောင် ကောင်းကောင်း မလျှောက်နိုင်တော့ချေ။

ထို့ကြောင့် အနီးအနားတွင် လှည်းတစ်စီးငှားပြီး ပါလာသည့် ပစ္စည်းကလေးအနည်းငယ်ကို စုတင်၍ လှည်းနှင့်လိုက်ရသည်။

လှည်းထွက်မည်လုပ်နေစဉ် လေယာဉ်ပျံတစ်စင်း ပေါ်လာပြန်ပြီး ထွက်သွားခါစ မီးရထားနောက်သို့ ထိုး၍လိုက်သွား၏။

ထိုသို့လိုက်သွား၍ ငါးမိနစ်လောက်အကြာတွင် ဝုန်းခနဲ ဗုံးကြသံကြီးကို ကျွန်တော်တို့ကြားရသဖြင့် ၎င်းမီးရထားနှင့် လိုက်မသွားမိသည်မှာ သမ္မာဒေဝ နတ်ကောင်းနတ်မြတ်များ မ တာပဲဟု တွေးမိကြလေ၏။

ည ၁၂ နာရီလောက်တွင် သခင်ကြန်၏အိမ်သို့ ကျွန်တော်တို့လူစု ရောက်သွားကြလေသည်။

ကျွန်တော်သည် သခင်ကြန်ကို ကောင်းစွာ မမှတ်မိချေ။ သခင်ကြန် ကမူကား တွေ့လျှင် တွေ့ချင်း ကျွန်တော်မှန်း သိသည်။

ကျွန်တော်တို့လည်း ကျွန်တော်တို့ ဘယ်သူဘယ်ဝါဟု မပြောဘဲ ဒုက္ခရောက်လာသော ခရီးသည်များအဖြစ်နှင့် ဟန်ဆောင်နေကြသည်။

ဒေါက်တာဘဟန်တို့နှင့် ဂျပန်များသည် ရှေ့သို့ ခရီးဆက်ထွက်ရန် ကိစ္စအတွက် အပြန်အလှန်ပြောကြားနေကြစဉ် သခင်ကြန်သည် ကျွန်တော့်ကို မှောင်ရိပ်တစ်ခုသို့ လက်တို့ခေါ်သွားပြီးလျှင်

'ဘာဖြစ်လာကြတာလဲ သခင်နု ပြောပြစမ်းပါအုံး၊ ဒီကောင်တွေ ဖမ်းလာတာလား၊ ပုန်းမယ်ဆိုရင် မှည့်တစ်ပေါက် မစွန်းရဘူး၊ ဖွက်ထား လိုက်မယ်လေ'

ဟု ပြောကြားရာ ကျွန်တော်လည်း အံ့အားသင့်၍ သွားလေသည်။

၎င်းနောက်မှ သူ့ကို အကျိုးအကြောင်း ပြောပြပြီး ထိုညအဖို့ သူ့အိမ်မှာပင် ကျွန်တော်တို့ အိပ်ကြရလေသည်။

နောက်တစ်နေ့တွင် သူ့အိမ်ထက် ကျယ်သော အိမ်တစ်အိမ်သို့ ပြောင်းပေးလိုက်လေသည်။

ထိုအိမ်မှာ အကြည်ဆိုသော သူငယ်မကလေး၏အိမ် ဖြစ်သည်။

ထိုသူငယ်မကလေးသည် အမျိုးသမီး ဝန်ထမ်းအတန်းတက်ရန် ရန်ကုန်သို့လာစဉ်က ကျွန်တော်တို့နှင့် သိလိုက်ဖူးလေသည်။

ကျွန်တော်တို့ ထိုအိမ်တွင်နား၍ လေးရက်ခန့်ရသောအခါ ညတစ်ည ၁၂ နာရီလောက်တွင် အဓိပတိတို့လူစုလည်း ကျွန်တော်တို့ တည်းနေသော အိမ်သို့ ရောက်လာကြလေ၏။

ဤသို့ နောက်ကျ၍ရောက်ခြင်းမှာ အခြားကြောင့်မဟုတ်၊ ဗိုလ်ရန်နိုင်၏ဇနီးဖြစ်သူ တင်ဇာသည် ကျိုက်ထိုတွင် သမီးကလေးတစ်ယောက် မျက်နှာမြင်နေသောကြောင့် ဖြစ်လေသည်။

ကျွန်တော်တို့တည်းသောအိမ်သို့ရောက်လာသည့်အခါ ကလေးမှာ နှစ်ရက်သမီးခန့် ရသေးသည်။

ကတွန်တွင် ခုနစ်ရက်ခန့် နားပြီး မော်လမြိုင်သို့ ဆက်ထွက်လာခဲ့ကြလေသည်။

ကျွန်တော်တို့ မော်လမြိုင်သို့ မရောက်မီ တစ်နေ့က မော်လမြိုင်ဈေးကြီးတစ်လျှောက်ကို အကြီးအကျယ် ဗုံးကြဲထားလေသည်။

ကျွန်တော်တို့သည် မုတ္တမဘက်မှ မော်လမြိုင်ဆိပ်ကမ်းသို့ ကပ်သည့်အခါ မှောင်ကြီးလည်းမည်း မိုးကြီးလည်း သည်းထန်စွာ ရွာလျက်ရှိ၏။

လမ်းကို မမြင်ရသည့်အထဲတွင် ဗုံးကြဲထား၍ ပြန့်ကျဲဖြစ်နေသော သံတိုသံစ ပုလင်းကွဲ သွပ်ပြား ခွေးသေကောင် လူသေကောင်တို့ကို နင်းသူနင်း ခလုတ်တိုက်မိသူ တိုက်မိပြီး လျှောက်ခဲ့ကြရလေ၏။

မော်လမြိုင် ဒိုင်းဝန်ကွင်းတွင် ခေတ္တတည်းခိုနေစဉ် မော်လမြိုင်ကို ဗုံး နှစ်ရက်ဆက်၍ကြဲသဖြင့် မုဒုံမြို့သို့ ကျွန်တော်တို့ ရွှေ့ပြောင်းခဲ့ရသည်။

မုဒုံတွင် ယားနာတွေပေါက်ကြသည်မှတစ်ပါး ဘာမျှမဖြစ်ကြချေ။ အလုပ်ကလည်း ဘာမျှလုပ်စရာမရှိ။

ရှိသမျှ အလုပ်တွေကို ဂျပန်စစ်တပ်က လက်ဝါးကြီးအုပ်၍ထား လေသည်။

ကျွန်တော်တို့လည်း ရည်ရွယ်ချက်အတိုင်း ဖမ်းထားသော တော်လှန်ရေးသမား ခေါင်းဆောင်များကို လွှတ်ပေးရန် တောင်းဆိုရာ ဂျပန်အရာရှိတို့ကလည်း ကောင်းအောင် လှည့်ပတ်၍ ပြောကြ၏။

ဥပမာ။ သခင်လင်းကို လွှတ်ပေးပါ။ လွှတ်ပေးလျှင် ကျွန်တော်တို့လည်း သူ့ကို ဖျောင်းဖျပြီး စစ်တပ်ကို အကူအညီ ရအောင် ကြိုးစားခိုင်းပါမည်ဟု ပြောသောအခါ 'သခင်လင်းကို မလိုချင်ပါနဲ့တော့၊ သခင်လင်းမှာ အဆုတ်နာရှိလို့ သွေးတွေ ခဏခဏ အန်နေတယ်၊ သူ့ အနားကိုတောင် ဘယ်သူမှ မကပ်ကြဘူး' ဟု အဖြေပေးလေသည်။

'အဆုတ်နာရှိလျှင် ကျွန်တော်တို့ ကုသပါရစေ၊ မုဒုံသို့ ပို့ပေးပါ' ဟု ပြောသောအခါ 'ကောင်းပါပြီ၊ ပို့လိုက်ပါ့မယ်' ဆို၍ နောက် ခုနစ်ရက်လောက်ကြာသောအခါ မော်လမြိုင်ကို ဗုံးကြဲရာတွင် ဗုံးထဲမှာ ပါသွားပြီဟု အကြောင်းပြန်လေသည်။

ကျွန်တော်တို့ စာရေး၍ တောင်းသည့်အထဲမှ ဦးသာလှိုင်နှင့် ဦးမြင့် ဆိုသူ နှစ်ဦးသာ လွတ်လာသည်ကို တွေ့ရ၏။

ကျွန်တော်တို့ရောက်၍ မကြာမီ မော်လမြိုင်တစ်ဝိုက်တွင် မသင်္ကာသောသူများကို စစ်ပုလိပ်တို့က တရကြမ်း ဖမ်းရန် စလျက်ပင်ရှိလေပြီ။

ဤကိစ္စကိုတားမြစ်ရန် ဝန်ကြီး အစည်းအဝေးတစ်ခုကို အဓိပတိ၏ အိမ်တွင် စည်းဝေးစေသည်။

အဓိပတိနှင့် ဦးထွန်းအောင်တို့ နှစ်ဦး တိုင်ပင်ပြီးရေးသော ဗမာအစိုးရ၏ ပြန်တမ်းကို စစ်သေနာပတိချုပ်ထံသို့ တစ်စောင် ဂျပန်သံအမတ်ထံ တစ်စောင် ပို့လိုက်လေသည်။

စာတွင်ပါသော အတိုချုပ်မှာ အခြားမဟုတ်။

ကျွန်ုပ်တို့သည် ဗမာနိုင်ငံတော်ကြီး၏ တရားသောအစိုးရအဖွဲ့ ဖြစ်သည်။ ထို့ကြောင့် ဗမာနိုင်ငံသူ နိုင်ငံသားများအား ဖမ်းဆီး ချုပ်နှောင်မည်ဆိုလျှင် ဗမာအစိုးရကို တိုင်ပင်ရမည်။

ဂုင်းပြင်လည်း ဗမာများသည် နေ့ဖမ်းမလားမသိ ညဖမ်းမလား မသိ· တထိတ်ထိတ်နေရသော ဘဝမျိုးက လွတ်မြောက်ပြီး ဝဝ လင်လင်စား လုံလုံခြုံခြုံ ဝတ်နေရမှသာလျှင် စစ်ကြီးကို စိတ်ပါ လက်ပါနှင့် ကူညီ၍ တိုက်နိုင်မည်ဖြစ်၏။

သို့အတွက် စစ်ကိစ္စတစ်ခုတည်းကိုသာ အရေးကြီးသည်ဟု သဘောမထားဘဲ တိုင်းသူ ပြည်သားတို့၏ အစားအသောက် အဝတ်အစား လုံခြုံရေးတို့အတွက်ကိုပါ ဂျပန်စစ်တပ်က လေးနက်စွာ အရေးယူ ဆောင်ရွက်သင့်လေသည်။

အစရှိသော အဓိပ္ပာယ်မျိုးပါသည့် ပြန်တမ်းပင် ဖြစ်လေသည်။

ဤကိစ္စနှင့် ပတ်သက်၍ ဂျပန် စစ်တပ်မှ တာဝန်ခံနိုင်သော ကိုယ်စားလှယ် တစ်ယောက်နှင့် ဝန်ကြီးများက ဆွေးနွေးလိုသည်ဟု ထုတ်ဖော်ရေးသားထားလေသည်။

ကျွန်တော်တို့ကသာ ဤပြန်တမ်းကို ဂျပန်စစ်တပ်သို့ ပို့လိုက်ရသည်။ စစ်တပ်မှ ဘာပြန်စာမျှ မရပေ။

သို့ရာတွင် မုဒုံတစ်ဝိုက်၌ စစ်ပုလိပ်တို့၏ ရမ်းကားမှုမှာ အတော် သက်သာသွားလေသည်။

စစ်ပုလိပ်များ၏ ရမ်းကားမှုကို ကြောက်လန့်ပြီး တောရွာများသို့ ထွက်ပြေးတိမ်းရှောင်နေကြသော သူများပင် မုဒုံမြို့ အတွင်းသို့ ပြန်၍ ဝင်လာကြလေသည်။

ပြန်တမ်းပို့ပြီး နှစ်လကျော်လောက်ကြာမှ သံအမတ် အီရှီထံမှ သူ၏ တိုက်တွန်းချက်အရ ကျွန်တော်တို့၏ပြန်တမ်းနှင့် ပတ်သက်ပြီး ဂျပန် စစ်တပ်မှ အဖြေပေးပါလိမ့်မည်ဟု အကြောင်းကြားချက် ရရှိလေသည်။

သို့ရာတွင် လက်နက်ချသည့်နေ့အထိ ဘာသံမျှ မကြားရချေ။ 'ဘာ အရုပ်ဖြစ်ဖြစ် ကြွက်သေတာသာ ပဓာနဖြစ်သည်' ဟူသော စကားအတိုင်း စာမပြန်ချင်လျှင် ကိစ္စမရှိ၊ အရမ်းကားသက်သာလျှင် တော်ပြီဟု ကျွန်တော် လည်း ကိုယ့်စိတ်ကို ကိုယ် ဖြေလိုက်ကြရလေသည်။

ဤပြန်တမ်းပို့ပြီး၍ မကြာမီ ဗမာအစိုးရအံရာရှိအချို့ထံမှ အစီရင်ခံ စာများ အဓိပတိထံသို့ ရောက်လာကြလေသည်။

မောင်ဆောင်း၊ သန်းအောင် အစရှိသော လူတစ်စုသည် မော်လမြိုင် ဘီလူးကျွန်း အစရှိသော အရပ်များသို့ လှည့်လည်ပြီး ဘုရင့်ဝါဒများကို ဖြန့်လျက်ရှိလေသည်။

သူတို့ စင်မြင့်ပေါ်မှ ပြောကြသော စကားလုံးများမှာ

'အဓိပတိ မရှိတော့ဘူး၊ ဝန်ကြီးများကိုလည်း ဖမ်းထားပြီ၊ ရန်ကုန်ကို ပြန်သိမ်းပြီးလျှင် ရှင်ဘုရင် တင်မယ်၊ မင်းလောင်းလဲ သူတို့နဲ့အတူ ပါလာတယ်'

အစရှိသော စကားများပင် ဖြစ်လေသည်။

မောင်ဆောင်းနှင့် သန်းအောင်တို့ လူစုကို ဘုရင့်ဝါဒ တိတ်တဆိတ် ဖြန့်ချိမှုနှင့် ရန်ကုန်မှ မဆုတ်ခွာမီ နှစ်လလောက်က ဗမာစိုးရက ဖမ်းဆီး ခဲ့ရသေးသည်။

ထိုအခါ ထိုသူများ၏ ဆရာများဖြစ်ကြသော ဂျပန်များနှင့် ဗမာ အစိုးရတို့သည် အတော် အကြိတ်အနယ် ဖြစ်လိုက်ကြရသေး၏။

သူတို့ကို တာဝန်ခံပြီး ဖမ်းဆီးရသော ဗမာအရာရှိကြီးများကပင် အဓိပတိ၏ ကိုယ်တိုင်အမိန့်ဖြစ်နေ၍သာ ဖမ်းဆီးကြရသည်။

ဂျပန်တွေနှင့် ဖြစ်မှ ဖြစ်ကြပါ့မလား ဟူ၍ တထိတ်ထိတ် ဖြစ်နေကြလေသည်။

အမှန်စင်စစ် ထိုအခါက ထိုကိစ္စသည် ဂျပန်စစ်တပ်နှင့် ဗမာအစိုးရတို့ အားပြိုင်ခြင်းဖြစ်သည်ဟု အဓိပတိကိုယ်တိုင်က ထုတ်ဖော်ပြောဆိုပြီး အမှု၏ အခြေအနေကို သူကိုယ်တိုင် စောင့်ကြည့်လျက်ရှိလေသည်။

ဂျပန်စစ်သေနာပတိချုပ် ဂျင်နရယ်ကင်မူရာထံသို့ပင် ဤကိစ္စရောက်သွားခဲ့သေး၏။

စစ်အတွက်ကလည်း အလွန်အရေးကြီးနေသဖြင့် ထိုဂျပန်များသည် လက်လျှော့ပေးလိုက်ရ၏။

ဂျပန်ကိုအားကိုး၍ မရမှန်းသိတော့မှ အဓိပတိထံသို့ တောင်းပန်စာတင်ကြရာ အဓိပတိကလည်း ထိုသူတို့ကို လွှတ်ပစ်ရန် ဆိုင်ရာသို့ အမိန့်ချပေးလိုက်လေသည်။

သို့ရာတွင် မောင်ဆောင်းတို့လူစုမှာ အခဲမကျေဘဲ ထိုရန်ငြိုးကို မော်လမြိုင်၌ ထပ်၍ ဖော်ခြင်း ဖြစ်သည်ဟု ကျွန်တော်တို့ ယူဆခဲ့လေသည်။

အဓိပတိလည်း ဤကိစ္စအရေးယူရန် ဂျပန်စစ်တပ်သို့ တိုင်လိုက်သောအခါ မောင်ဆောင်းတို့ ပြုလုပ်ခြင်းမှာ အဓိပတိကို ဆန့်ကျင်ရေးမဟုတ်ဘဲ စစ်အတွက် အကူအညီရရေးသာဖြစ်သည်ဟု မေဂျာဂျင်နရယ် အီချီဒါးထံမှ အဓိပတိထံသို့ ပြန်စာပေးလေသည်။

သို့ရာတွင် အဓိပတိသည် ဤမျှနှင့် မကျေနပ်ဘဲ ဂျပန်သံအမတ်ကို တိုင်ကြားရာ ဂျပန်သံအမတ်က

မင်းတို့တစ်တွေ ဒီအချိန်အထိ ဗမာအစိုးရကို မထိမှဲမြင် လုပ်နေသေးရင် မသင့်တော်ဘူး'

ဟု ဂျပန်စစ်တပ်ကို သွား၍ဆူတော့မှ မောင်ဆောင်းတို့ကို ပိတ်လိုက်ပြီးလျှင် သူတို့ကို မြှောက်ပေးနေသော သူတို့၏ ဆရာ ကာနယ်ကတ်တို မတ်စု ဆိုသူကိုလည်း ဘန်ကောက်သို့ ပြောင်းရွှေ့ပေးလိုက်လေသည်။

ဂျပန်သံအမတ် အီရှီသည် အတော် လူကြီး ပီသသောသူ တစ်ယောက်ဖြစ်သည်။

ဂျပန်စစ်တပ်၏ တစ်ဖက်သားကို အနိုင်ကျင့်တတ်သောသဘောကို ကောင်းစွာသိသောကြောင့် ဗမာအစိုးရ၏ အခက်အခဲများကို ကောင်းစွာ သဘောပေါက်လေသည်။

ဗမာအစိုးရလည်း အခက်အခဲရှိတိုင်း သူ့ကို ပြောပြရာ သူလည်း သူ့တန်ခိုးရှိသလောက် အကူအညီပေးခဲ့လေသည်။

စစ်သတင်းများကိုလည်း သွားရောက်မေးမြန်းသည့်အခါများတွင် သူသိရသလောက် မကွယ်မထောင့်ဘဲ ပြောတတ်သည်။

မုဒုံတွင် ကျွန်တော်တို့လုပ်ခဲ့သော မည်မည်ရရအလုပ်မှာ ဗမာ့ လွတ်လပ်ရေး နှစ်နှစ်မြောက်သည့်နေ့က လွတ်လပ်ရေး အထိမ်းအမှတ် အဖြစ်ဖြင့် မုဒုံမြို့ရှိ ကန်ကြီးထဲတွင် လွတ်လပ်ရေးမှတ်တိုင် သုံးတိုင် စိုက်ခဲ့ရသည်။ ၎င်းနောက် မှတ်တိုင်များကို ခြံရံပြီး သပြေပင်များ စိုက်ခဲ့ရလေသည်။

ကျွန်တော်တို့လည်း ဘာမျှ လုပ်စရာ ထွေထွေထူးထူး မရှိသည်နှင့် မော်လမြိုင် စာကြည့်ပိဋကတ်တိုက်မှ စာအုပ်များကို ငှားရမ်းပြီး တစ်နေ့ တစ်နေ့ စာအုပ်နှင့်ပင် အချိန်ကုန်ကြရလေသည်။

· တစ်နေ့သ၌ စစ်ပုလိပ်အဖမ်းခံရသော မြို့ပိုင် ကိုဝင်းသိန်းအတွက် အချုပ်မှ လွတ်ကင်းအောင် လုပ်ပေးပါဟု သူ့ဆွေမျိုးများက ဆိုသောကြောင့် ကျွန်တော်သည် ဒေါက်တာဘမော်ထံသို့ သွားရလေ၏။

စကားတပြောပြောနှင့် ထိုနေ့က နေ့လယ် နှစ်ချက်တီးလောက်ရှိသောအခါ လေယာဉ်ပျံတစ်စင်းသည် ဒေါက်တာဘမော်၏ အိမ်ပေါ်မှ နိမ့်နိမ့်ကလေး ကပ်၍ ပျံသွား၏။

ထိုနေ့သည်ကား ဩဂုတ်လ ၁၂ ရက် ဖြစ်သည်။ ၁၁ ရက်နေ့က လေယာဉ်ပျံ နှစ်စင်းသည် မုဒုံမြို့ပေါ်တွင် ခြောက်ခေါက်မျှ နိမ့်နိမ့်ကလေး ပျံသွားခဲ့ပြီးပြီ။

ထို့ကြောင့် ထိုနေ့က ထိုလေယာဉ်ပျံသည် ဒေါက်တာဘမော်၏ အိမ်ပေါ်တွင် အနောက်မြောက်ထောင့်မှ အရှေ့တောင်ထောင့်သို့ နိမ့်နိမ့်ကလေး ပျံသွားသောအခါ ဒေါက်တာဘမော်ကပင်

'သခင်နု၊ ဒီကောင်တွေ ပျံတာ အတော်နိမ့်တယ်၊ သတိထားမှပဲ'ဟု ကျွန်တော့်ကို ပြောပြလေသည်။

ကျွန်တော်တို့လည်း ဧည့်ခန်းတွင် ထိုင်နေရာမှထပြီး အိမ်တွင်းဘက်သို့ အနည်းငယ် ဝင်သွားကြသည်။ မကြာမီ အရှေ့တောင်ထောင့်မှ လေယာဉ်ပျံတစ်စင်းသည် အနောက်မြောက်ထောင့်သို့ ခပ်နိမ့်နိမ့်ကလေး ပျံသွားပြန်လေ၏။

ထိုအခါတွင် အိမ်ခန်းထဲ၌ရှိသော ဗိုလ်ရန်နိုင်၊ ဦးစိန်၊ ဦးအောင်မြင့်တို့က

'နေရာမကျဘူး ဒီနေ့ တယ်ကြမ်းတယ်၊ အောက်ဆင်းမှပဲ'

ဟု တိုက်တွန်းသဖြင့် ကျွန်တော်တို့လည်း အိမ်အောက်ထပ်သို့ ဆင်းကြ၏။ တွင်းထဲသို့ကား မဝင်သေးချေ။

နောက်တစ်ချီ အနောက်မြောက်ထောင့်မှ အရှေ့တောင်ထောင့်သို့ တစ်ကြိမ်ပျံသောအခါ ကျွန်တော်တို့လည်း အိမ်နောက်ဖေးနှင့် ကပ်နေသော ဗုံးကျင်းထဲသို့ ပြေး၍ဝင်ကြရ၏။

စတုတ္ထအကြိမ် အရှေ့တောင်ထောင့်မှ ပြန်လာသောအခေါက်တွင် ဒေါက်တာဘမော်၏ အိမ်ကို စက်သေနတ်နှင့် ပစ်လေ၏။

နောက်တစ်စင်း ထပ်လာပြီး စက်သေနတ်နှင့်လည်းပစ်၊ ဗုံး သုံးလုံးကိုလည်း ကြဲချလိုက်ရာ အိမ်နှင့် ကိုက် ၃၀၀ ကွာသော ခြံတစ်ခုထဲသို့ ကျသွားလေ၏။

ကျွန်တော်တို့လည်း နှစ်ကြိမ် စက်သေနတ်နှင့်ပစ်သည်အထိ အိမ်ကို ပစ်သည်ဟု မသိသေး။

နောက်တစ်ကြိမ် ပစ်ခါနီး မော်တော်ကားမောင်းသည့် ဂျပန်က အိမ်ကိုပစ်နေတာဟု လာပြောသည့်အခါမှ အိမ်နှင့်ကပ်နေသော ဗုံးကျင်းထဲမှ အိမ်နှင့်ဝေးရာအရပ်သို့ အတင်းထွက်ပြေးရလေ၏။

ကျွန်တော်လည်း သံဆူးကြိုးတန်း နှစ်ဆင့်ကို ကျော်ပြီး ပြေးရရာ ဘယ်လိုဘယ့်နှယ် ငြိမှန်းမသိ ကျွန်တော် ဝတ်ထားသော ဘောင်းဘီမှာ အစိတ်စိတ်အမြွာမြွာ ကွဲပြဲကုန်လေ၏။

လေယာဉ်ပျံများလည်း နောက်ထပ် လေးပတ်လောက် လှည့်၍ ပစ်ပြီးမှ ပြန်သွားကြတော့သည်။

ရန်ကုန်တွင် ဩဂုတ်လ ၁၀ ရက်နေ့က ဂျပန်က လက်နက်ချတော့မည်ကို သိသဖြင့် ရန်ကုန်မှာပင် အတော်ပျော်ကြသေးသည်။

စစ်ဖြစ်နေစဉ်က သုံးလ ကျော်ကျော် လျစ်လျူရှုထားခဲ့သော ဒေါက်တာဘမော်၏ အိမ်ကို စစ်ပြေငြိမ်းခါနီးပါမှ ဤသို့ စက်သေနတ်ဖြင့် တရကြမ်းပစ် ဗုံးနှင့်ကြဲရသည်မှာ အတော်အံ့အားသင့်စရာ ဖြစ်လေသည်။

တစ်အိမ်လုံးလည်း ရစရာ မရှိတော့သဖြင့် ဒေါက်တာဘမော်သည် အခြားအိမ်တစ်အိမ်သို့ ပြောင်းရ၏။

ထိုနေ့ညနေက ဒေါက်တာဘမော်သည် ဣန္ဒြေမပျက်ဘဲ ဘောလုံးပွဲ ကိုပင် လာ၍ ကြည့်လိုက်ပေသေးသည်။

၁၄ ရက်နေ့သို့ ရောက်သောအခါ ညဘက် ခုနစ်နာရီလောက်တွင် ဒေါက်တာဘမော်သည် ဝန်ကြီးများကို သူ့အိမ်သို့ ခေါ်ပြီးလျှင် အနုမြူဗုံး နှင့် ရုရှားစစ်ထဲသို့ဝင်ခြင်းကြောင့် ဂျပန်သည် လက်နက်ချရန် စဉ်းစား နေပြီ ဟူ၍ ဂျပန်သံအမတ်က အဓိပတိထံသို့ ရေးလိုက်သော စာကို ကျွန်တော်တို့အား ဖတ်ပြလေသည်။

ကျွန်တော်လည်း စစ်ကြီးဘေးမှ လွတ်ပြီဟု ဝမ်းအသာကြီး သာမိ လေသည်။

သို့ရာတွင် လက်နက်မချမီ ၁၀ ရက်ခန့်လောက်က စစ်ပုလိပ်၏ အသတ်ခံရသော ထားဝယ် သခင်ဖိုးမှဲ့ အစရှိသည့် တော်လှန်ရေးသမား ၃၀ ကျော်၏ အကြောင်းကို စဉ်းစားမိသောအခါ လက်မတင်ကလေး လွဲသွားသည် ဟု ကျွန်တော်တို့လည်း စုတ်သတ်မိလေသည်။

စစ်ပြေငြိမ်းတော့မည့်အကြောင်းကို ဂျပန်လက်အောက်ငယ်သား များ မသိသေးသောကြောင့် လျှို့ဝှက်နိုင်သမျှ လျှို့ဝှက်ထားရန် သံအမတ် ၏ စာထဲတွင် ပါလေသည်။

လျှို့ဝှက်ထားကြရန် အဓိပတိကလည်း ထပ်၍ မှာလိုက်သေးသည်။

သို့ရာတွင် ၁၂ ရက်နေ့၌ စက်သေနတ်နှင့် တရကြမ်း ပစ်သံကို နီးနီးကပ်ကပ်ကြားပြီးကတည်းက ထမင်းမစား၊ အိပ်မပျော်နိုင်ဘဲ တထိတ် ထိတ် တလန့်လန့်ဖြစ်နေသော မမြရီအား စစ်ပြေငြိမ်းကြောင်း ပြောပြ လိုက်ရလျှင် အတော်သက်သာရာရမည်ဟု ကျွန်တော် တွေးမိ၏။

သို့အတွက် အိမ်သို့ ရောက်လျှင် ရောက်ချင်း နားအနီးသို့ အသာကပ်၍

'ဂျပန် လက်နက်ချလို့ စစ်ကြီးပြီးသွားပြီ'

ဟု တိုးတိုးကလေး ပြောလိုက်လေ၏။

မမြရီလည်း အတော် ဝမ်းသာ၍ သွားလေသည်။

သို့ရာတွင် သူ၏ဝမ်းသာခြင်းကား စစ်ကြီးပြီးသည်ကို ကြား၍ မဟုတ်။ အလွန်လျှို့ဝှက်ထားရမည် ဟူသော သတင်းကို ဤအကြိမ်တွင် သူ့ကို ပြော၍ပြသောကြောင့် ဝမ်းသာခြင်းပင် ဖြစ်လေသတည်း။

သခင်နု



# အက္ခရာစဉ်အညွှန်း

## က

မ

## တရေးသူ၏
## စာပေ နှင့် ဘဝဖြစ်စဉ်မှတ်တမ်း

၁၉၀၇ ။မေလ ၂၅ ရက်၊ စနေနေ့ ၁၂၆၉ ခုနှစ်၊ နယုန်လပြည့်နေ့ နံနက် ၈ နာရီ ၃၉ မိနစ်၊ ၁၂ စက္ကန့်တွင် ဝါးခယ်ခမြို့၌ အဖ ဦးစံထွန်း၊ အမိ ဒေါ်စောခင် တို့မှ မွေးဖွားသည်။ မွေးချင်း နှစ်ယောက်တွင် အကြီးဆုံး၊ ညီငယ် အမည်မှာ မောင်ဥ။

၁၉၂၀ ။တက္ကသိုလ်ကျောင်းသားသပိတ်တွင် ဝါးခယ်မမြို့ အစိုးရကျောင်း၌ ပဥ္စမတန်းမှ ပါဝင်။ ၆ တန်း၌ ပညာသင်ကြားနေစဉ် ဝါးခယ်မ အမျိုးသား ကျောင်းတွင် ဆရာ အခက်အခဲရှိနေ၍ ဆရာတစ်ဖက်၊ ကျောင်းသား တစ်ဖက် ဆောင်ရွက်ခဲ့။

၁၉၂၅ ။မြို့မ အထက်တန်းကျောင်းမှ ဆယ်တန်းအောင်။ ရန်ကုန်တက္ကသိုလ် ဆက်တက်။

၁၉၂၉ ။ဘီအေ (ဝိဇ္ဇာ)ဘွဲ့ ရရှိ။
မြန်မာနိုင်ငံလုံးဆိုင်ရာ လူငယ်များအစည်းအရုံးတည်ထောင်ရာတွင် ကမကထလုပ်၍ ပါဝင်။
ဦးသန့်၏ တိုက်တွန်းချက်အရ ပန်းတနော်မြို့ အမျိုးသားအထက်တန်း ကျောင်းတွင် ကျောင်းအုပ်အဖြစ် တာဝန်ထမ်း။
သုံးခွမြို့ အမျိုးသားကျောင်း၊ ကျောင်းအုပ်အဖြစ် ပြောင်းရွှေ့။

ပန်းတနော်မြို့ အမျိုးသားကျောင်းကော်မတီ ဥက္ကဋ္ဌ သမီး ဒေါ်မြရီနှင့် အိမ်ထောင်ကျ။ ပန်းတနော် အမျိုးသားကျောင်းသို့ ပြန်လည်၍ တာဝန်ထမ်း။

၁၉၃၄ ။ဘီ အယ်လ် (ခေါ်) ဥပဒေတန်းတက်။
တက္ကသိုလ်သမဂ္ဂ အမှုဆောင်အဖြစ် ရွေးချယ်ခံရ။

၁၉၃၅ ။တက္ကသိုလ်သမဂ္ဂ ဥက္ကဋ္ဌအဖြစ် ရွေးချယ်ခံရ။
ဘီ အယ်လ် (ဥပဒေ၊ ဝိဇ္ဇာဘွဲ့) ရရှိ။

၁၉၃၆ ။တက္ကသိုလ် ကျောင်းသားသပိတ်ကို ခေါင်းဆောင်ခဲ့။ ကျွန်ပညာကို အလိုမရှိ ဟူသော သဘောဖြင့် ဘီ အေ ဘွဲ့ကို ပြန်အပ်။

၁၉၃၇ ။သတင်းစာဆရာ ဦးဘခိုင်၊ ဒီးဒုတ်ဦးဘချိုတို့ ဖွဲ့စည်းထားသော ဖေဘီယံ နိုင်ငံရေးပါတီတွင် ဝင်ရောက်ကူညီ။ ဒီးဒုတ်ဂျာနယ်တွင် ပြဇာတ်များ၊ ဆောင်းပါးများ အပတ်စဉ် မှန်မှန်ရေး၊ နဂါးနီစာအုပ်အသင်းကြီးကို တည်ထောင်။ တို့ဗမာအစည်းအရုံးသို့ ဝင်ရောက်၍ သခင်နု ဖြစ်လာခဲ့။

၁၉၃၉ ။တရုတ်ပြည်သို့ ချစ်ကြည်ရေးသွားသောအဖွဲ့တွင် အဖွဲ့ဝင်အဖြစ်ပါဝင်။

၁၉၄၁ ။အင်္ဂလိပ်အစိုးရက ဖမ်းဆီး၍ ရုံးတင်စစ်ဆေးပြီး ထောင်ဒဏ်နှစ်နှစ် အပြစ်ပေး။

၁၉၄၃ ။ဩဂုတ်လ ၁ ရက်နေ့တွင် ဒေါက်တာဘမော် အစိုးရအဖွဲ့၏ နိုင်ငံခြားရေးဝန်ကြီးအဖြစ် တာဝန်ထမ်းဆောင်။

၁၉၄၄ ။ပြန်ကြားရေးဝန်ကြီးအဖြစ် တာဝန်ထမ်းဆောင်၊ ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေးအဖွဲ့တွင် ဥက္ကဋ္ဌအဖြစ်ဆောင်ရွက်။

၁၉၄၅ ။ဇန်နဝါရီလ ၂၀ ရက်နေ့တွင် ဖဆပလ လူထုညီလာခံမှ ရွေးချယ်သော ဗဟိုအမှုဆောင် ၁၀ ဦးတွင် ပါဝင်။ ဒုတိယဥက္ကဋ္ဌ ဖြစ်လာခဲ့။

၁၉၄၇ ။ဇွန် ၁၃ ရက်နေ့တွင် တိုင်းပြုပြည်ပြု လွှတ်တော်ဥက္ကဋ္ဌအဖြစ် တင်မြှောက်ခံရ။

ဇွန် ၂၃ ရက်တွင် ဗြိတိန်နိုင်ငံသို့ ထွက်ခွာ။ ဇူလိုင် ၁၂ ရက်နေ့တွင် ပြန်လည်ရောက်ရှိ။

ဇူလိုင် ၁၈ ရက်တွင် ယာယီအစိုးရအဖွဲ့၏ ဝန်ကြီးချုပ်ဖြစ်လာ။

ဇူလိုင် ၂၆ ရက်တွင် တိုင်းပြုပြည်ပြုလွှတ်တော် ဥက္ကဋ္ဌရာထူးမှ နုတ်ထွက်။

ဩဂုတ် ၂၆ ရက်တွင် *ဘာသာပြန်စာပေအသင်းကြီး* တည်ထောင်ရန် ဆုံးဖြတ်။

အောက်တိုဘာ ၁၇ ရက်တွင် အင်္ဂလန်ပြည် လန်ဒန်မြို့၌ နန်းရင်းဝန် ရစ်ချတ် အက်တလီနှင့် မြန်မာနိုင်ငံ ယာယီအစိုးရဝန်ကြီးချုပ် သခင်နု (ဦးနု) တို့ မြန်မာနိုင်ငံ လွတ်လပ်ရေးအတွက် နု အက်တလီ စာချုပ် သဘောတူ လက်မှတ်ရေးထိုး။

၁၉၄၈ ။ဇန်နဝါရီလ ၃ ရက်နေ့ တိုင်းပြုပြည်ပြုလွှတ်တော်အစည်းအဝေးမှ မြန်မာနိုင်ငံ၏ ပထမဝန်ကြီးချုပ်အဖြစ် အမည် တင်သွင်းခံရ။ ၄ ရက် နေ့တွင် ဝန်ကြီးချုပ်အဖြစ် ခန့်အပ်ခံရ။

ဇန်နဝါရီလ ၁၅ ရက်နေ့တွင် ဂျပ်ဆင် ကောလိပ်ကျောင်းဝင်းတွင် ယာယီ အသင်းတိုက်၌ ဘာသာပြန်စာပေအသင်းကို ဖွင့်လှစ်၊ ၎င်းမှတစ်ဖန် အမှတ် ၃၆၁၊ ပြည်လမ်းပေါ်ရှိ ဆိုရှယ်လစ်ဗီလာ အဆောက်အဦသို့ ပြောင်းရွှေ့ပြီးနောက် စာပေဗိမာန်ဟု အမည်ပြောင်း။

၁၉၅၁ ။ဘာသာပြန်စာပေအသင်း၊ အုပ်ချုပ်မှုကောင်စီ ဖွဲ့စည်း၊ ဥက္ကဋ္ဌ တာဝန်ယူ။

၁၉၅၃ ။ဇန်နဝါရီလ ၁၅ ရက်၊ ၁၃၁၄ တပို့တွဲလဆန်း တစ်ရက်တွင် ရန်ကုန်မြို့ ကမ္ဘာအေးစေတီတော် အနီးတွင် လိုဏ်ဂူတော်ကြီးကို ပန္နက်ရိုက် အုတ်မြစ်ချ။

၁၉၅၄ ။မေလ ၁၇ ရက်၊ ၁၃၁၆ ကဆုန်လပြည့်နေ့တွင် ဆဋ္ဌသင်္ဂါယနာတင် ပွဲတော်ကို ရန်ကုန်မြို့ ရေကူးရပ် သီရိမင်္ဂလာကုန်းမြေရှိ လိုဏ်ဂူတော် ကြီးတွင် ကျင်းပ။

၁၉၅၆ ။ဇွန်လ ၁၂ ရက်တွင် ဝန်ကြီးချုပ်ရာထူးမှ ခေတ္တနုတ်ထွက်။
ရန်ကုန်အရှေ့ပိုင်းခရိုင် ပါလီမန်အမတ်အဖြစ် ရွေးချယ်ခံရ။
၁၉၅၇ ။ကမ္ဘာတစ်ပတ် (ဒေါ်မြရီ၊ ဦးသန့်၊ ဗိုလ်မှူးလွင်၊ ဗိုလ်ကြီးပြည်စိုး)။
၁၉၅၈ ။ဇွန်လ ၉ ရက်နေ့ သန့်ရှင်း ဖ ဆ ပ လ အဖွဲ့ကို တည်ထောင်။
အောက်တိုဘာ ၂၈ ရက်နေ့တွင် အိမ်စောင့်အစိုးရသို့ အာဏာလွှဲပြောင်း။
၁၉၆၀ ။ရန်ကုန် အရှေ့ပိုင်းခရိုင် ပါလီမန်အမတ်အဖြစ် ထပ်မံရွေးချယ်ခံရ။
မတ်လ ၁၈ ရက်တွင် သန့်ရှင်း ဖ ဆ ပ လ အဖွဲ့ကို ပြည်ထောင်စုပါတီအဖြစ် အမည်ပြောင်း၊ ပါတီဥက္ကဋ္ဌအဖြစ် တာဝန်ယူ။
ဧပြီလ ၄ ရက်တွင် ကာကွယ်ရေးဝန်ကြီး၊ ပြန်ကြားရေးဝန်ကြီး၊ ပြည်ထဲရေးဝန်ကြီး၊ ကယ်ဆယ်ရေးနှင့် ပြန်လည်နေရာချထားရေး ဝန်ကြီးတာဝန်များ စတင် ထမ်းဆောင်။
အောက်တိုဘာ ၁ ရက်တွင် တရုတ် မြန်မာ နယ်စပ်ကိစ္စ လက်မှတ်ရေးထိုး။
၁၉၆၁ ။မတ် ၁၄ ရက်တွင် ပါတီဥက္ကဋ္ဌ ရာထူးမှ နုတ်ထွက်။
၁၉၉၅ ။ဖေဖော်ဝါရီလ ၁၄ ရက်တွင် ကွယ်လွန်ခဲ့သည်။

## စာရေးသူ
## ရေးသားထုတ်ဝေခဲ့သည့် စာအုပ်များ

၁၉၂၅ ။အချစ်လော အမုန်းလော ပြဇာတ်ကို မူဝံ မဂ္ဂဇင်းတွင် ပုံနှိပ်ဖော်ပြခွင့်ရ။

၁၉၃၆ ။တက္ကသိုလ် ကျောင်းသားသပိတ်ကြီး ပြီးသည့်အခါ သပိတ်မှောက် ကျောင်းသား အမည်ဖြင့် ဇာတ်ညွှန်းရေး၍ ဗြိတိသျှဘားမား ရုပ်ရှင် ကုမ္ပဏီမှ ရုပ်ရှင်ရိုက်။

၁၉၃၇ ။ပြဇာတ်တိုများထဲမှ ကောင်းနိုးရာရာများကို ရွေးချယ်၍ ခေတ်မီ ပြဇာတ် တိုများ အမည်ပေး၍ နဂါးနီစာအုပ်အသင်းမှ ထုတ်ဝေ။

၁၉၃၈ ။ဗမာ့သတ္တိ။

။လူပေါ်လူဇော်လုပ်နည်း ပထမတွဲ။

။လူပေါ်လူဇော်လုပ်နည်း ဒုတိယတွဲ။

(နောင်အခါ ထိုစာအုပ်ကို မိတ္တဗလင်္ကာ အမည်သစ်သို့ ပြောင်း၍ ကျောင်းသုံးစာအုပ်အဖြစ် အစိုးရ ပညာရေးဌာနမှ ကျောင်းများတွင် သင်ကြားရန်ပြဋ္ဌာန်း)

၁၉၃၉ ။တရုတ်ပြည်သွား အဖြစ်အပျက်များကို ဂန္ဓာလရာဇ် အမည်ဖြင့် စာအုပ် ရေး၍ နဂါးနီစာအုပ်တိုက်မှ ထုတ်ဝေ။

၁၉၄၀ ။နိုင်ငံရေးအဘိဓာန် (သခင်လှဖေ နှင့် တွဲဖက်၍ရေး)

၁၉၄၁ ။ထောင်ထဲမှာရှိနေစဉ် အင်္ဂလိပ်ပြဇာတ် ၁၅ ပုဒ်ကို ဆီလျော်အောင် ဘာသာပြန်ခဲ့ရာ ၎င်းတို့ထဲမှ *နွားသိုးကြီးပြတ်* နှင့် *ပုထုဇနော ဥမ္မတကော* ပြဇာတ်နှစ်ပုဒ်ကို ဂျပန်တို့ မြန်မာပြည်အုပ်စိုးနေချိန်က ထုတ်ဝေ။

။အင်းစိန်ထောင်တွင်ရှိနေစဉ် *ရက်စက်ပါပေ့ကွယ်*ကို ရေးခဲ့သည့်ပြင် ။*ဦးသောင်းဒန်* ဝတ္ထုကိုလည်း ရေးခဲ့။

၁၉၄၃ ။*ပုထုဇနော ဥမ္မတကော*

၁၉၄၅ ။*အာဇာနည်ဆိုတာ ဘာလဲ ပထမအကြိမ်။*

။မာစ်ဆင့်ဝါဒဆိုတာ ဘာလဲ (ဗမာတွေ ဘာလုပ်ရမလဲ)

၁၉၄၆ ။*ငါးနှစ်ရာသီ ဗမာပြည် ပထမအကြိမ်။*

။*ငါးနှစ်ရာသီ ဗမာပြည်* ဒုတိယအကြိမ်။ (မြန်မာနိုင်ငံအစိုးရ အမျိုးသားစီမံကိန်းဌာန၊ အတိုင်ပင်ခံအရာရှိကြီး မစ္စတာ ဂျေ အက်ဖ် ဖာနီဗဲလ်က အင်္ဂလိပ်ဘာသာသို့ပြန်)

။*Towards Peace & Democracy.*

၁၉၄၉ ။*မိတ္တဗလင္ဂီကာ တတိယအကြိမ်။*

။*အာဇာနည်* ဒုတိယအကြိမ်။

။*လူမွဲတို့၏ ထွက်ရပ်လမ်း။*

၁၉၅၀ ။*မိတ္တဗလင္ဂီကာ* စတုတ္ထအကြိမ်။

၁၉၅၁ ။*From Peace to Stability.*

၁၉၅၂ ။စာရိတ္တမဏ္ဍိုင်။

။*The People Win Through.*

။*လူထုအောင်သံ* ပြဇာတ် (မြန်မာနိုင်ငံရှိ စာသင်ကျောင်းများ၌ သင်ကြားရန် ပညာရေးဌာနမှပြဋ္ဌာန်း၊ အမေရိကန်ရုပ်ရှင်ကုမ္ပဏီ တစ်ခုနှင့် ညှိနှိုင်း၍ မြန်မာနိုင်ငံ ဒီမိုကရေစီ ပညာပြန့်ပွားရေးအသင်းမှ ကြီးမှူး၍ ရုပ်ရှင်ရိုက်။ အမေရိကန်တွင် ပြဇာတ်အဖြစ် စင်တင်)

၁၉၅၃ ။ကမ္ဘာကျော် ရှိတ်စပီးယားပြဇာတ်များ။
။အာဇာနည် တတိယအကြိမ်။
။မိတ္တဗလင်္ကာ ပဥ္စမအကြိမ်။
။နိုင်ငံတော်ပန်းတိုင်။
။*Burma Looks Ahead.*
၁၉၅၄ ။မိတ္တဗလင်္ကာ ဆဋ္ဌမအကြိမ်။
။အာဇာနည် စတုတ္ထအကြိမ်။
။*Burma under the Japan : Picture and Portraits.*
၁၉၅၅ ။အသားထဲကလောက်ထွက် ပြဇာတ်။
။ပြည်ထောင်စုပန်းတိုင် ပထမတွဲ။ ပြည်ထောင်စုပန်းတိုင် ဒုတိယတွဲ။
။မိတ္တဗလင်္ကာ သတ္တမအကြိမ်။
။မိတ္တဗလင်္ကာ အဋ္ဌမအကြိမ်။
။ပြည်တော်သာပန်းတိုင်။
။*Forward with the People.*
၁၉၅၆ ။မိတ္တဗလင်္ကာ နဝမအကြိမ်။
၁၉၅၇ ။အာဇာနည် ပဥ္စမအကြိမ်။
။ပြည်တော်သာပန်းတိုင် ဒုတိယအကြိမ်။
၁၉၅၈ ။ဓမ္မအကြောင်း။ ငါးပါးသီလအကြောင်း။
။ငါးပါးသီလ၊ မြတ်စွာဘုရား၊ သံဃာတော်၊ ဓမ္မအကြောင်း။
။ဗုဒ္ဓသာသနာအရေးတော်ပုံ။
၁၉၅၉ ။ဖိနှိပ်မှု တိုက်ပွဲအဆင့်ဆင့် ပ ကြိမ်။
။ဖိနှိပ်မှု တိုက်ပွဲအဆင့်ဆင့် ဒု ကြိမ်။
။ဒီမိုကရေစီကာကွယ်ကြ (မြန်မာ အင်္ဂလိပ် နှစ်ဘာသာ)
။ရှေ့တန်းခေါင်းဆောင် ဖြစ်လိုသော်။

။*We Must Defend Democracy.*

၁၉၆၀ ။*ငါးပါးသီလ၊ မြတ်စွာဘုရား၊ သံဃာတော်၊ ဓမ္မအကြောင်း*။

။*ဗုဒ္ဓသာသနာအရေးတော်ပုံ ဒုတိယအကြိမ်*။

။*သကအလ ပြဇာတ်*။

၁၉၆၁ ။*Wages of Sin.*

၁၉၆၂ ။*အိန္ဒိယပြည်၌ ဟောပြောသော ဗုဒ္ဓတရားတော်များ*။

၁၉၆၃ ။*ပုထုဇနော ဥမ္မတကော ဒုတိယအကြိမ်*။

၁၉၆၇ ။*ကာမတဏှာ ဝတ္ထုကြီး ပထမအုပ် ပထမအကြိမ်*။

။*ကာမတဏှာ ဝတ္ထုကြီး ဒုတိယအုပ် ပထမအကြိမ်*။

၁၉၆၈ ။*ကာမတဏှာ ဝတ္ထုကြီး ပထမအုပ် ဒုတိယအကြိမ်*။

။*ကာမတဏှာ ဝတ္ထုကြီး ဒုတိယအုပ် ဒုတိယအကြိမ်*။

။*ရက်စက်ပါပေ့ကွယ် ဒုတိယအကြိမ်*။

။ရုပ်စုံအခြေခံသမိုင်း၊ အတွဲ ၁။

။(ကမ္ဘာနှင့် သတ္တဝါအစ၊ ယဉ်ကျေးမှုအစ)

၁၉၈၂ ။*ကာမတဏှာ ဝတ္ထုကြီး ၂ အုပ်တွဲ ပထမအကြိမ်*။

၁၉၈၃ ။*ညောင်ကန်အေး ဝိပဿနာတရားတော်*။

။ငရဲဆို ချိုနဲ့လားဗျို့ ပထမအကြိမ်။

။*ရက်စက်ပါပေ့ကွယ်* တတိယအကြိမ်။ (ပြန်ကြားရေးဝန်ဟောင်း ဦးခင်ဇော်မှ အင်္ဂလိပ်ဘာသာဖြင့် ဂါးဒီးယန်းသတင်းစာတွင် ရေးသား သည်ကို အစ္စရေးသံအမတ်က ဖတ်ရ၍ အစ္စရေးနိုင်ငံတွင် ဘာသာပြန်၍ ပုံနှိပ်ထုတ်ဝေခဲ့)

။ဗုဒ္ဓဘာသာတရားတော် (မြန်မာ အင်္ဂလိပ် နှစ်ဘာသာ)

၁၉၈၄ ။ကျေးဇူးရှင်။

။ဓမ္မစကြာ တရားတော်။

၁၉၈၅ ။အနတ္တလက္ခဏသုတ် တရားတော်။

၁၉၈၇ ။ငရဲဆို ချိုနဲ့လားဗျို့ ဒုတိယအကြိမ်။

၁၉၈၈ ။တြိရတနသဗ္ဗဒေယျ မင်္ဂလာဂါထာတော်များ (စီစဉ်ပြုစု)။

၁၉၉၆ ။မိတ္တဗလဋီကာ ဒသမအကြိမ်။

၁၉၉၇ ။အာဇာနည် ဆဋ္ဌမအကြိမ်။

၂၀၀၀ ။ကာမတဏှာ ဝဋ္ဋကြီး ၂ အုပ်တွဲ ဒုတိယအကြိမ်။

၂၀၀၀ ။မိတ္တဗလဋီကာ ဒွါဒသမအကြိမ်။

၂၀၀၄ ။ငရဲဆို ချိုနဲ့လားဗျို့ တတိယအကြိမ်။

၂၀၀၄ ။အာဇာနည် သတ္တမအကြိမ်။

၂၀၀၈ ။မြတ်တရားကို ရှာဖွေတွေ့ရှိသူ။

## စာပေလောကတိုက်ထုတ် စာအုပ်များစာရင်း

| | | | |
|---|---|---|---|
| ၁။ | ဝဏ္ဏသိရိ | ညီတော်အာနန္ဒာတစ်သက်တာ ပ တွဲ | ၃၅၀၀ |
| ၂။ | ဝဏ္ဏသိရိ | ညီတော်အာနန္ဒာတစ်သက်တာ ဒု တွဲ | ၃၅၀၀ |
| ၃။ | ဦးနု | မိတ္တဗလဋီကာ | ၃၀၀၀ |
| ၄။ | ဦးနု | ကာမတဏှာ | ၂၅၀၀ |
| ၅။ | ဦးနု | ငရဲဆိုချိုနဲ့လား | ၂၀၀၀ |
| ၆။ | ဦးနု | အာဇာနည် | ၁၅၀၀ |
| ၇။ | ဦးနု | ကျေးဇူးရှင် | ၂၀၀၀ |
| ၈။ | ဦးနု | မြတ်တရားကိုရှာဖွေတွေ့ရှိသူ | ၃၀၀၀ |
| ၉။ | ရွှေဥဒေါင်း | တစ်သက်တာမှတ်တမ်း ပ | ၃၀၀၀ |
| ၁၀။ | ရွှေဥဒေါင်း | တစ်သက်တာမှတ်တမ်း ဒု | ၂၅၀၀ |
| ၁၁။ | အရှင်သေဋ္ဌိလ၊ ဗုဒ္ဓရက္ခိတ | ဓမ္မပဒ | ၁၃၀၀ |
| ၁၂။ | ငွေဥဒေါင်း | ဗုဒ္ဓစာပန်းချီ ဒု | ၂၅၀၀ |
| ၁၃။ | ဗိုလ်တာရာ | တော်လှန်ရေးအတွေ့အကြုံ | ၁၈၀၀ |
| ၁၄။ | သော်တာဆွေ | ကျွန်တော့်ဘဝဇာတ်ကြောင်း | ၂၀၀၀ |
| ၁၅။ | ကျော်ရင်မြင့် | ၂၁ ရာစု အတွေးသစ်အမြင်သစ် | ၁၅၀၀ |
| ၁၆။ | ဖြိုးသာရ | ကွန်ဖျူးရှပ်စ် အဆိုအမိန့် | ၁၂၀၀ |
| ၁၇။ | ဘုန်းခေါင် | ကွန်ဖျူးရှပ်စ် အတွေးအမြင် | ၁၂၀၀ |

| | | | |
|---|---|---|---|
| ၁၈။ | Dr. ခင်မောင်လွင် | သဘာဝအစားအစာနှင့်ကျန်းမာရေး | ၃၅၀၀ |
| ၁၉။ | Dr. ခင်မောင်လွင် | ဝက်ခြံရောဂါ | ၃၅၀၀ |
| ၂၀။ | Dr. အောင်သန်း | အသုံးများ ဆေးဝါးအညွှန်း | ၁၂၀၀ |
| ၂၁။ | ညက်မိုး | အိမ်သုံးဆေး အကျိုးနှင့်အပြစ် | ၉၀၀ |
| ၂၂။ | ဦးလှမင်း | ခေါင်းဆောင်မှုပညာ | ၁၀၀၀ |
| ၂၃။ | ဦးလှမင်း | ခေါင်းဆောင်တို့လျှောက်သောလမ်း | ၁၂၀၀ |
| ၂၄။ | မြတ်ငြိမ်း | စိတ်အလှဖြင့် ဘဝကိုအလှဆင် | ၁၅၀၀ |
| ၂၅။ | မြတ်ငြိမ်း | ဘဝပြိုင်ပွဲတိုင်းအောင်နိုင်သူ ဖြစ်လိုလျှင် | ၁၂၀၀ |
| ၂၆။ | မြတ်ငြိမ်း | လက်ဆောင်မွန် | ၈၀၀ |
| ၂၇။ | မြတ်ငြိမ်း | ဒိန်ခဲ | ၇၀၀ |
| ၂၈။ | ခင်မောင်တိုး | ဘဝလေးထဲမှာ ပျော်စရာ | ၆၀၀ |
| ၂၉။ | မင်းသုဝဏ် | ကလေးပုံပြင်များ | ၁၀၀၀ |
| ၃၀။ | မင်းသုဝဏ် | မောင်ခွေးဖို့ ကဗျာများ | ၅၀၀ |
| ၃၁။ | မင်းယုဝေ | ဂရင်းညီနောင်ပုံပြင်များ ၁၊ ၃ | ၂၀၀၀ |
| ၃၂။ | ဇော်ဂျီ | ပလေးတိုးနိဒါန်း | ၂၅၀၀ |
| ၃၃။ | နန်းစန်းစန်းအေး | ပျော်ရွှင်ပေါ့ပါး ချက်စရာများ | ၁၅၀၀ |
| ၃၄။ | နန်းစန်းစန်းအေး | အဓိပတိ ဟင်းချက်နည်း | ၁၂၀၀ |
| ၃၅။ | ခင်(တိုင်းရင်းမေ) | ချက်ပြုတ်နည်းစွယ်စုံ | ၁၂၀၀ |
| ၃၆။ | သော်တာဆွေ | စာပေလောက | ၁၈၀၀ |
| ၃၇။ | ဗိုလ်တာရာ | ချက်ပိုင်သောပြစ်ကွင်းနှင့် . . . | ၉၀၀ |
| ၃၈။ | ခင်မောင်ဇော် | ညက်စမ်းပုစ္ဆာများ | ၅၀၀ |
| ၃၉။ | ခင်မောင်ဇော် | တိရစ္ဆာန်များ | ၅၀၀ |
| ၄၀။ | ခင်မောင်ဇော် | အမေးအဖြေ | ၅၀၀ |
| ၄၁။ | ခင်မောင်ဇော် | လူ့ခန္ဓာကိုယ် | ၅၀၀ |

| | | |
|---|---|---|
| ၄၂။ ခင်မောင်ဇော် | ကမ္ဘာကြီး နှင့် အာကာသ | ၅၀၀ |
| ၄၃။ ခင်မောင်ဇော် | အပင် နှင့် တိရစ္ဆာန် | ၅၀၀ |
| ၄၄။ ခင်မောင်ဇော် | သိပ္ပံ နှင့် နည်းပညာ | ၅၀၀ |
| ၄၅။ ခင်မောင်ဇော် | ငှက်များ | ၅၀၀ |
| ၄၆။ ခင်မောင်ဇော် | သဘာဝ | ၅၀၀ |
| ၄၇။ ခင်မောင်ဇော် | တီထွင်မှု | ၅၀၀ |
| ၄၈။ မောင်ကြည်သန့် | ပုဂ္ဂိုလ်ကျော်များနှင့် ထင်ရှားဒေသ | ၅၀၀ |
| ၄၉။ မောင်ကြည်သန့် | မြန်မာနိုင်ငံအတွင်း အဓိကရနေရာများ | ၆၀၀ |
| ၅၀။ ဘုန်းခေါင် | ဆယ်ကျော်သက်အမူအကျင့် ၇ ရပ် | ၆၀၀ |
| ၅၁။ ခင်မောင်တိုး | တကယ်ပျော်ချင်ရင် | ၆၀၀ |
| ၅၂။ ဘုန်းခေါင် | မျှော်လင့်ခြင်း သို့ နောက်ဆုံးဖယောင်းတိုင် | ၆၀၀ |
| ၅၃။ မောင်ကြည်သန့် | ဘဝကိုပုံစံပြောင်း တက်လမ်းကြောင်းရှာ | ၆၀၀ |
| ၅၄။ ဇော်ဟန်ဇော် | မှတ်မှတ်သားသား မိန်းမတို့ပြောစကား | ၆၀၀ |
| ၅၅။ ဇော်ဟန်ဇော် | သားငယ်သမီးငယ်ဆိုတာ ဘဝကပေးတဲ့.... | ၆၀၀ |
| ၅၆။ ဇော်ဟန်ဇော် | လှည့်မကြည့်နဲ့ | ၆၀၀ |
| ၅၇။ ရွှေကူမေနှင်း | အကောင်းတွေဘယ်တော့စမလဲ | ၈၀၀ |
| ၅၈။ အောင်လင်း | ဝတ္ထုတိုများ | ၇၀၀ |
| ၅၉။ မြတ်ငြိမ်း | လိုအင်ဆန္ဒတိုင်းပြည့်ဝသူ သင်ဖြစ်လိုလျှင် | ၁၅၀၀ |
| ၆၀။ Dr ကျော်သန်းထွန်း | ဆေးဝါးဆိုင်ရာမှိုကမ္ဘာ | ၂၀၀၀ |
| ၆၁။ မြတ်ငြိမ်း | လိုအင်ဆန္ဒတိုင်းပြည့်ဝသူ သင်ဖြစ်လိုလျှင် | ၁၅၀၀ |
| ၆၂။ မြတ်ငြိမ်း | လူဖြစ်ကျိုးနပ် ဘဝနေနည်း | ၉၀၀ |
| ၆၃။ မြင့်စိုးလှိုင် | ကိုယ်ဘယ်လောက် တော်တယ်တတ်တယ်. . . | ၁၅၀၀ |
| ၆၄။ **AMK** (မြန်မာပြန်) | အချစ်ဗေဒ | ၃၀၀၀ |
| ၆၅။ မောင်ကြည်သန့် | အချစ်ပြိုင်ပွဲတိုင်းအောင်နိုင်သူဖြစ်လိုလျှင် | ၁၅၀၀ |

| | | | |
|---|---|---|---|
| ၆၆။ | တင်စိန် (ပထဝီဝင်) | ဘာကိုတွေးတွေး ဆန့်ကျင်ဘက်တွေးပါ | ၁၅၀၀ |
| ၆၇။ | စိန်မျိုးမြင့် | လျှပ်တစ်ပြက်လီဒိုလမ်း | ၁၅၀၀ |
| ၆၈။ | စိန်မျိုးမြင့် | တောင်တန်းများကို ဖြတ်ကျော်ခြင်း | ၃၀၀၀ |
| ၆၉။ | စိန်မျိုးမြင့် | ချင်းမိုင် မြန်မာ့ပန်းချီပြပွဲနှင့်.... | ၂၅၀၀ |
| ၇၀။ | ဇော်ဟန်ဇော် | အသက်တစ်နှစ်ကြီးလာတာပူစရာလား | ၆၀၀ |
| ၇၁။ | ဇော်ဟန်ဇော် | တစ်ကိုယ်တည်း အပျိုကြီးများဖတ်ရန် | ၅၀၀ |

**စာပေလောက ၁၊ အမှတ် ၁၇၃၊ ၃၃ လမ်း၊ ရန်ကုန်။ ဖုန်း - ၃၈၈၁၆၉**

**စာပေလောက လက်လီလက်ကားအရောင်းဆိုင်၊ အမှတ် ၂၂၅-၂၂၇ ပထမထပ်၊ ပန်းဆိုးတန်းလမ်းမ၊ ရန်ကုန်။**

**(ဗိုလ်ချုပ်အောင်ဆန်းလမ်း နှင့် အနော်ရထာလမ်း အတွင်း) ဖုန်း - ၃၇၇၄၇၅**

**စာပေလောက ၂၊ အမှတ် ၄၇၀၊ မဟာဗန္ဓုလလမ်းမ။ ဖုန်း - ၃၈၀၉၆၈**

**စာပေလောက ၃၊ အမှတ် ၁၄၊ လှည်းတန်းလမ်းမ၊ ကမာရွတ်။ ဖုန်း - ၅၂၇၇၇၂**

**စာပေလောက ၅၊ အမှတ် ၁၃၈-၁၄၀၊ ပန်းဆိုးတန်းလမ်းမ နှင့် မဟာဗန္ဓုလလမ်းထောင့်၊**

**Kyaw Home Mart ပထမထပ်။ ဖုန်း - ၇၂၁၈၁၇။**

**စာပေလောက ၆၊ ရန်ကင်း အ ထ က ၁ ရှေ့၊ ရန်ကင်း။**

**စာပေလောက ၇၊ အမှတ် ၃၆၁-က၊ သုမင်္ဂလာလမ်းမ၊ တောင်ဥက္ကလာပ။ ဖုန်း - ၅၇၉၆၈၈**

**စာပေလောက ၈၊ အမှတ် ၈၊ ဓမ္မာသီလမ်း၊ ၈၅ ဈေးအနီး၊ ၈၅ ဈေးမှတ်တိုင်၊ မြောက်ဥက္ကလာပ၊**

**ဖုန်း - ၀၉ ၅၁၇၉၈၁၂**




## ငရဲဆို ချိုနဲ့လားဗျို့
## ဦးနု

အကြိမ်ကြိမ် ပုံနှိပ်ခဲ့ဖူးသော *ကာမတဏှာ* ဝတ္ထုကြီး၏ ဖွဲ့စည်းတင်ပြပုံအတိုင်း ဤဝတ္ထုကိုလည်း ဦးနုသည် စိတ်ဝင်စားဖွယ် ဇာတ်ကွက် ဇာတ်လမ်းများနှင့် တရားဓမ္မကိုပြသော ပုံဝတ္ထုကို ရက်ဖောက်ရေးဖွဲ့ထားပါသည်။

ဦးနု၏ ဤဝတ္ထုအပေါ်ထားသော ရည်ရွယ်ချက်ကြီးနှစ်ခုမှာ 'လူဆိုး သူဆိုး ဆိုရင် နောင်တစ်နေ့မှာ ဒုက္ခတွေ့ရမည် သို့မဟုတ် လူသူ ပတ်ဝန်းကျင်က အော့နှလုံးနာရမည် သို့မဟုတ် ထောင်နန်းစံရမည်။ သံသရာဝဋ်ဆင်းရဲမှ လွတ်မြောက်နိုင်သော တရားမှာ ဝိပဿနာ တရားသာ ဖြစ်သည်။ ဤဝတ္ထုကြောင့် လူတစ်ယောက်ယောက် သာသနာ့ရိပ်သာ တစ်ခုခုတွင် မဂ်ဉာဏ် ဖိုဉာဏ်ရတဲ့အထိ ဝိပဿနာ အားထုတ်ဖြစ်ရေး'ဟု စာအုပ်အဖွင့်၌ပင် ဖော်ပြထားပါသည်။

အတွေ့အကြုံ ဖြတ်သန်းမှုများမှ ထုတ်နုတ်ယူသော ဇာတ်ကွက်များနှင့် ငရဲဆို ချိုနဲ့လားဗျို့ ဟု ဆိုလောက်အောင် ဇာတ်သိမ်းပိုင်းအထိ ဆွဲဆောင်ခေါ်ယူသွားမှုမှာ လေးလေးနက်နက်နှင့် ဆွဲဆောင်မှုရှိကာ တကယ့်သံဝေဂယူစရာ ဝတ္ထုကြီးဟု ဆိုရပါမည်။

[စာမူခွင့်ပြုချက် အမှတ် ၈၆၃/၂၀၀၃ (၁၁)]



# အာဇာနည်

## ဦးနု

အာဇာနည်ဆိုတာ ဘာလဲဆိုသည့် အဓိပ္ပာယ်ဖွင့်ဆိုချက်ကို နက်နက်နဲနဲ ပေါ်လွင်အောင် ပြုစုရေးသားထားသည့် စာအုပ် ဖြစ်ပါသည်။ မိုက်ရူးရဲခြင်းနှင့် နံရံပါးလေး တစ်ချပ်သာခြားသော အာဇာနည်၏ တန်ဖိုးသည် သိသလိုလိုနှင့် ပိုင်းဖြတ်ရ ခက်တတ်လေရာ ဦးနု၏ ဤစာအုပ်မှာ စာဖတ် သူကို ကြည်လင် ရှင်းလင်းပြတ်သားသော အမြင်တစ်ရပ် ပေးနိုင်လိမ့်မည်ဟု ယုံကြည်ပါသည်။

ကမ္ဘာ့သမိုင်းအစ၏ အထင်ကရ ဒေသများဖြစ်သော ဂရိ၊ ရောမခေတ် ရှေးနှစ် ၂၀၀၀ ကျော်က သမိုင်းဝင် အာဇာနည်များ၊ အင်္ဂလန်၊ရုရှား စစ်ပွဲများအတွင်းက အာဇာနည်ဟု ဂုဏ်ပြု ရသူများ၊ နယ်ချဲ့လက်အောက် မြန်မာနိုင်ငံ၏ အလျှော့မပေး ဒူးမထောက်သော အာဇာနည်များ အကြောင်း စံပြုဖွယ်၊ အားကျဖွယ်၊ မှတ်သားလောက်ဖွယ်များ ပြည့်ပြည့်စုံစုံ ပါဝင်အောင် ပြုစုထား၍ အထူးသဖြင့် လူငယ်များ ဖတ်ရှုဖို့ သင့်လျော်သော စာအုပ်ဖြစ်ပါသည်။

[စာမူခွင့်ပြုချက် အမှတ် ၈/၂၀၀၄ (၁)]

ဂျပန်ခေတ်က အဖြစ်အပျက်
အမှန်တို့ကို အဘက်ဘက်မှ
တွေ့ရမြင်ရသော ပုဂ္ဂိုလ်ကြီးငယ်
တို့၏ လက်ရာများကိုလည်း
ရနိုင်သလောက် ဖြစ်နိုင်သလောက်
ရေးသားပုံနှိပ်သင့်ပေသည်။
အဘယ့်ကြောင့်ဆိုသော် တစ်နေ့သောအခါ
နောင်လာနောက်သားတို့အတွက်
မြန်မာ့သမိုင်းကို ရေးသားမည်ဆိုလျှင်
ဤကဲ့သို့ စာအုပ်စာတမ်းများသည်
မြန်မာ့သမိုင်းအတွက် မှီငြမ်းများအဖြစ်ဖြင့်
အသုံးပြုနိုင်စရာ အကြောင်း
ရှိသောကြောင့်ပင်တည်း။

